# အာရပ်_မြန်မာ

# အဘိဓာန်

# المعجم الوسيط

## العربى ميانما

# ARABIC - MYANMAR DICTIONARY

မောင်လာနာ အဗ်ဒုရ်ရဟီးမ်၊ မြင့်လွင်(ကျူံဒိုး)
( မဒနီ၊ အတ်စ်အဒီ B.E(Met) )

# အာရဗီ – မြန်မာ

# အဘိဓာန်

## المعجم الوسيط

### فى اللغة العربية

العربى - ميانما

مولانا عبد الرحيم (مدني اسعدي)

မော်လာနာ အဗ်ဒုရ်ရဟီးမ်၊ မြင့်လွင်(ကျုံဒိုး)

[မဒနီ–အတ်စ်အဒီ၊ B.E (Met)]

စာမူခွင့်ပြုချက်အမှတ် (၅၉၀/၂၀၀၁) (၉)

မျက်နှာဖုံးခွင့်ပြုချက် (၅၇၁/၂၀၀၁) (၁၀)

အုပ်ရေ–၁၀၀၀

ပထမအကြိမ်

၂၀၀၁–ခုနှစ်၊ စက်တင်ဘာလ

ထုတ်ဝေသူ ... ဦးထွန်းလှိုင်

ချစ်စရာ လစဉ်/စာပေတိုက်

၇၅/ဝေပုလ္လလမ်း။

ပုံနှိပ်သူ ... ဦးခင်မောင်မြင့်၊စန္ဒာလွင် ပုံနှိပ်တိုက်

# ကျေးဇူးရှင်ဆရာသမားများအား ဂုဏ်ပြုခြင်း

ကျွန်ုပ်၏ဆရာသမားများဖြစ်ခဲ့ကြသော-

(၁)။ မောင်လာနာနူးရ်မုဟမ္မဒ်(မဇ္ဇာဟေရီ-ကမ္ဘာ့အလင်း)(ကွယ်လွန်) အားလည်းကောင်း၊

(၂)။ မောင်လာနာအီစာ(မဒနီ)။ (ကျောင်းအုပ်ကြီး၊ ဟိဒါယတုလ်အုလူမ်၊ ရမည်းသင်း)အားလည်းကောင်း၊

(၃)။ မောင်လာနာဂျမာလ္ဒ်ဒီးန်(မဒနီ)။ (ကျောင်းအုပ်ကြီး၊ မဒီနတုလ်အုလူမ်၊ ရင်းတော်)အားလည်းကောင်း၊

(၄)။ မောင်လာနာ၊ မုဖ်သီ၊ ကာရီယူစွတ်ဖ်(အတ်စ်အဒီ)(ကျောင်းအုပ်ကြီး၊ အတ်စ်အဒီယဟ်၊ ရန်ကုန်)အားလည်းကောင်း၊

(၅)။ ဆရာဦးမောင်မောင်ကြီး(ပန်းဝါနွယ်-ပညာလမ်း)(ရမည်းသင်း) အားလည်းကောင်း။

ဤစာအုပ်ဖြင့် ဂုဏ်ပြုပါသည်။

بسم الله الرحمن الرحيم

الحمدلله‌علی‌ما انعم و له‌الشکر علی‌ما اسدی و الصلوة

و السلام علی نبیه العربی الکریم و علی‌جمیع رسله

و انبیائهِ‌الطاهرین

ချီးမွမ်းခြင်းအပေါင်းသည် သုခချမ်းသာအဝဝကို ချီးမြှင့်တော်မူသော အလ္လာဟ်အရှင်မြတ်အဖို့သာလျှင် ဖြစ်ပါသည်။ ကောင်းမြတ်သောအမှုကိစ္စတို့အတွက် ဖြောင့်မတ်မှန်ကန်စွာ ဆောင်ရွက်နိုင်စွမ်းပေးသနားတော်မူသောအရှင်မြတ်အား ကျေးဇူးတင်ရှိပါသည်။

အလ္လာဟ်အရှင်မြတ်ထံတော်မှ ကောင်းချီးမင်္ဂလာအဖြာဖြာနှင့် ငြိမ်းချမ်းသာယာမှုအဖြာဖြာသည် အရစ်အနွယ်ဝင်ဖြစ်သော၊ မြင့်မြတ်လှသော တမန်တော်မြတ် မုဟမ္မဒ်ﷺအပေါ်သို့လည်းကောင်း၊ အရှင်မြတ် စေလွှတ်တော်မူသော ရစူလ်တမန်တော်အပေါင်းနှင့် နဗီတမန်တော်အပေါင်းတို့အပေါ်သို့လည်းကောင်း သက်ရောက်သည် ဖြစ်ပါစေ။

## ကူညီသူမိတ်ဆွေများအား ကျေးဇူးတင်ရှိခြင်း

(၁)။ ဤစာအုပ်ကို စတင်ပြုစုသည့်နေ့မှစ၍ ယခုအချိန်အထိ စာအုပ်ဖြစ်မြောက်ရေး အတွက်သာမက ကျွန်ုပ်၏အခက်အခဲများကိုပါ ငွေကုန်ကြေးကျခံ၍လည်းကောင်း၊ လိုအပ်သောစာအုပ်စာတမ်းများကို ရှာဖွေစုဆောင်းပေး၍လည်းကောင်း ကူညီသူ **စာရေးဆရာ အလ်ဟာဂ်ျ ဟာဖိဇ်ဦးစိုးသိန်းအားလည်းကောင်း၊**

(၂)။ ဤစာအုပ်ကိုပြုစုရန်နှင့် အခြားအကျိုးပြုစာအုပ်များကို ရေးသားပြုစုနိုင်ရန် ကွန်ပြူတာကို စီစဉ်ပေးသော **အလ်ဟာဂ်ျဦးတင်မောင်သန်း(အတွင်းရေးမှူး၊ ရန်ကုန်တိုင်း၊ အစ္စလာမ်ကောင်စီ)**အားလည်းကောင်း၊

(၃)။ ဤစာအုပ်ကိုပြုစုရာ၌ ကွန်ပြူတာဖြင့် များစွာအကူအညီပေးခဲ့သော **ဆရာဘိုင်လေးနှင့် ဆရာကာဆင်မ်(ကွန်ပြူတာသင်တန်း၊ ကျူလီယာ မွတ်စ်လင်မ်အသင်း)** တို့အားလည်းကောင်း၊

(၄)။ ကျွန်ုပ်အား ညီရင်းအစ်ကိုပမာ အမြဲကူညီအားပေးသော **အလ်ဟာဂ်ျ မောင်လာနာ တင်မောင်သန်း(မဒီနီ၊ ရမည်းသင်း)**အားလည်းကောင်း၊

အထူးကျေးဇူးတင်ရှိပါကြောင်း ဤစာအုပ်၌ မှတ်တမ်းတင်ဖော်ပြအပ်ပါသည်။

## ပြုစုသူ၏အမှာစာ



***الحمد لله رب العالمين والصلاة والسلام علي رسوله محمد العربي الأمين وعلي آله وصحبه اجمعين والتابعين لهم باحسان الي يوم الدين وبعد :***

ကျွန်တော်သည် ကော့ကရိတ်မြို့၊ အမှတ်(ရ)ရပ်ကွက်၊ ဒါရ်ဂါဗလီဝင်းရှိ နူရွလ်အစ္စလာမ် အရဗီကျောင်း၌ ကျောင်းဆရာအဖြစ် တာဝန်ထမ်းဆောင်စဉ်(၁၉၉၈)ကတည်းကပင် အရဗီအဘိဓါန် [المنجد]ကို အဋ္ဌမမြောက်အရဗီအက္ခရာ[د]အထိ ပြန်ဆိုပြုစုထားခဲ့ဘူးပါသည်။ တဖန် အတ်စ် အဒီယဟ်အရဗီကျောင်း၌ ကျောင်းဆရာအဖြစ် တာဝန်ထမ်းဆောင်စဉ်(၁၉၉၂)၌ ယင်းစာအုပ်ကို [ا]မှ [د]အထိ အတွဲ(၁)အဖြစ် ရိုက်နှိပ်ရန်ကြိုးစားခဲ့သော်လည်း ထိုစဉ်က ခဲစာလုံးများစီ၍ ပုံ နှိပ်ဆဲဖြစ်ရာ အရဗီစာလုံးများအတွက် ဘလောက်တုံးများ၏ကုန်ကျစရိတ်မှာ ကြီးမားသည့်ကတစ် ကြောင်း၊ မိမိရေးသားထားသောစာမူကို မိမိကိုယ်တိုင် အားမရဖြစ်သည်ကတစ်ကြောင်းကြောင့် စာအုပ်အဖြစ်သို့ မရောက်ခဲ့ပါ။ တဖန် (၁၉၉၈)ကုန်ပိုင်းလောက်တွင် ပုဂ္ဂိုလ်တစ်ဦးက ကျွန်ုပ်အား [المعجم الوجيز]ကို ပြန်ဆိုခိုင်းသဖြင့် (၆)လအတွင်း ပြန်ဆိုပေးခဲ့ပါသည်။ သို့သော် ယင်းအဘိဓါန် သည်လည်း ယခုတိုင် စာအုပ်အဖြစ်ထွက်လာသည်ကို မတွေ့ရပါ။ ယင်း[المعجم الوجيز]ကို ပြန်ဆိုခဲ့ရသည့်အတွက် ကျွန်ုပ်သည် အရဗီအဘိဓါန်နှင့်ပတ်သက်၍ အတွေ့အကြုံများစွာ ရခဲ့ပါ သည်။ အကြောင်းကား ယင်းအဘိဓါန်ကို ပြန်ဆိုပြီးနောက် ကျွန်ုပ်ယခင်က [المنجد]မှပြုစုပြန်ဆို ထားသောစာမူနှင့် ဆက်စပ်ကြည့်ရာ နေရာအတော်များများတွင် စကားလုံးများ၏အဓိပ္ပါယ်ဖွင့် ဆိုချက်များ ကွဲလွဲနေကြောင်းတွေ့ရှိခဲ့ရပါသည်။ [المعجم الوجيز]အရဗီအဘိဓါန်သည် [المعجم الوسيط]အဘိဓါန်ကို အကျဉ်းချုံးပြုစုထားသောအဘိဓါန်ဖြစ်သည်။ ယင်းအဘိဓါန်ကို ရှာဖွေ၍ [المنجد]အဘိဓါန်နှင့် နှိုင်းယှဉ်လေ့လာသောအခါ ယခင်က ကျွန်ုပ်အားထားခဲ့သော *[المنجد]အဘိဓါန်တစ်ခုတည်း*ကို အခြေခံ၍ ပြန်ဆိုရန် ဝန်လေးလာခဲ့ရပါသည်။ သို့ဖြင့် ကျွန်ုပ် သည် ယင်းစာမူကို ဤအတိုင်း ပစ်ထားခဲ့ရာမှ ကျွန်ုပ်၏မိတ်ဆွေ စာရေးဆရာ အလ်ဟာဂ်ျ ဟာဖိဇ်ဦးစိုးသိန်းက ပြည့်စုံ၍တိကျသော အရဗီ-မြန်မာအဘိဓါန်တစ်အုပ်ကို ပြုစုရန် ကျွန်ုပ်အား တိုက်တွန်းခဲ့ပြီး ယင်းအဘိဓါန်အတွက် ကုန်ကျမည့်ငွေကြေးအားလုံးအတွက်လည်း အကုန်အကျ ခံမည်ဟု ဆိုခဲ့ပါသည်။ ထိုအခါ ကျွန်ုပ်သည် ဦးစွာအစ ပြန်ဆိုရမည့် အဘိဓါန်ကို ရွေးချယ်ရပါသည်။ အချို့မိတ်ဆွေများက အရဗီ-အင်္ဂလိပ် အဘိဓါန်များကို ပြန်ဆိုရန် တိုက်တွန်းကြပါသည်။ မှန်ပါ

သည်။ အရဗီ–အင်္ဂလိပ်အဘိဓါန်များကို ပြန်ဆိုရသည်မှာ အခက်အခဲရှိလှသည်မဟုတ်သော်လည်း အရဗီ–အရဗီ အဘိဓါန်များအချင်းချင်းမှာပင် စကားလုံးအဓိပ္ပါယ်ဖွင့်ဆိုမှုများ၊ ကြိယာပုံစံများ ကွဲလွဲကြသည်ဖြစ်ရာ ဘာသာပြန် အဘိဓါန်များမှတဆင့် ပြန်ဆိုခြင်းသည် မူရင်းအဓိပ္ပါယ်နှင့် ပို၍ဝေးမည်ဟု ယူဆခဲ့ပါသည်။ သို့ဖြင့် ကျွန်ုပ်သည် မူရင်းအရဗီ–အရဗီအဘိဓါန်ကိုသာ ပြန်ဆိုရန် ဆုံးဖြတ်ခဲ့ပါသည်။ ထိုသို့ဆုံးဖြတ်ပြီးနောက် [المعجم الوسيط]အဘိဓါန်ကို အခြေပြုပြန်ဆိုရန် ရွေးချယ်ခဲ့ပါသည်။ အရဗီအဘိဓါန်များအနက် [المنجد]အဘိဓါန်သည် အစုံလင်ဆုံးဖြစ်ပြီး အက္ခရာစဉ်ပုံနှင့် ကြိယာပုဒ်များခွဲခြားဖော်ပြရာ၌စနစ်ကျသည်ဟု ဆိုနိုင်သော်လည်း စကားလုံးများ၏ အဓိပ္ပါယ်သတ်မှတ်ဖော်ပြရာ၌မူ [المعجم الوسيط]အဘိဓါန်က ပို၍တိကျသည်ကို တွေ့ရှိရပါသည်။

မည်သည့် အဘိဓါန်မဆို သက်ဆိုင်ရာစာပေ၌ ထင်ရှားခဲ့သော စာပေကျမ်းဂန်များကို ကိုးကားကြရသည်သာဖြစ်သည်။ အရဗီစာပေ၌မူ ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒကျမ်းများသည် လွန်ခဲ့သောနှစ်ပေါင်း(၁၀၀၀)ကျော်မှ ယနေ့တိုင်မူမပျက် တည်ရှိနေပေရာ ခေတ်အဆက်ဆက် အရဗီအဘိဓါန်ပြုစုခဲ့ကြသူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒကျမ်းများကို အဓိကထား၍ ကိုးကားကြရသည်။ [المنجد]အဘိဓါန်သည် ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒကျမ်းများကို တိုက်ရိုက်ကိုးကားဖော်ပြထားခြင်းမရှိသော်လည်း ယင်းအဘိဓါန်ကို ပြုစုရာ၌ ကိုးကားရသောကျမ်းအားလုံးသည် ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒကျမ်းများကို အဓိကထား၍ ကိုးကားထားသောကျမ်းများ ဖြစ်လေရာ အရဗီအဘိဓါန်ဟူသမျှ၏ အခြေခံသည် ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒကျမ်းများဟု ဆိုနိုင်သည်။ [المعجم الوسيط]အဘိဓါန်၌မူ ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒကျမ်းများအား တိုက်ရိုက်ကိုးကားဖော်ပြထားသည်ကို တွေ့ရပါသည်။

ကျွန်ုပ်သည် ဤအရဗီ–မြန်မာ အဘိဓါန်ကို [المعجم الوسيط]အဘိဓါန်မှ တိုက်ရိုက်ပြန်ဆိုထားသည်ဖြစ်ရာ မူရင်းကျမ်း၌ဖော်ပြထားသော ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်(ﷺ)၏ ဩဝါဒတော်ကောက်နုတ်ချက်များကို ဤအရဗီ–မြန်မာ အဘိဓါန်ကျမ်း၌လည်း ဖော်ပြထားပါသည်။ မူရင်းအရဗီအဘိဓါန်ကျမ်းများ၌ မူလရင်းမြစ်ပုဒ်[مصدر]ကို သက်ဆိုင်ရာကြိယာပုဒ်နှင့်တွဲ၍ ဖော်ပြထားလေ့ရှိပါသည်။ သာဓကအားဖြင့် [اَبَصَ ـ اَبْصًا]ဟုဖော်ပြထားရာ၌ اَبَصَသည် အတိတ်ကာလပြုကြိယာပုံစံဖြစ်ပြီး၊ ـ သည် ပစ္စုပ္ပန်(သို့)အနာဂတ်ကာလပြုကြိယာပုံစံ၏သင်္ကေတဖြစ်သည်။ اَبْصًا သည် မူလရင်းမြစ်ပုဒ်[مصدر]ဖြစ်သည်။ ကြိယာ၏အဓိပ္ပါယ်ကို သိလျှင် ယင်းကြိယာ၏မူ

လရင်းမြစ်ပုဒ်[ مصدر ]၏အဓိပ္ပါယ်ကိုလည်း သိနိုင်လေသည်။ ထို့ကြောင့် ـ بَصَرَ ၏အဓိပ္ပါယ်မှာ 'တက်ကြွသည်။ မြူးကြွသည်'ဟူ၍ဖြစ်ရာ ယင်းကြိယာ၏မူလရင်းမြစ်ပုဒ်[ مصدر ]၏အဓိပ္ပါယ်မှာ 'တက်ကြွခြင်း။ မြူးကြွခြင်း'ဟူ၍ဖြစ်သည်ကို အရဗီအခြေခံရှိသူတိုင်း နားလည်ပေသည်။ ထို့ကြောင့် မူလရင်းမြစ်ပုဒ်[ مصدر ]၏အဓိပ္ပါယ်ကို သီးခြားဖော်ပြရန်မလိုပေ။ သို့သော်လည်း မြန်မာနိုင်ငံ၌ အရဗီစာပေနှင့် ရင်းနှီးသူများအလွန်နည်းပါးသဖြင့် လေ့လာသူများ အလွယ်တကူ ရှာဖွေနိုင်ရန် ကျွန်ုပ်သည် ယင်းမူလရင်းမြစ်ပုဒ်[ مصدر ]၏အဓိပ္ပါယ်ကို သက်ဆိုင်ရာကြိယာ၏ အောက်၌ သီးခြားဖော်ပြထားပါသည်။

[الفعل الثلاثی المجرد]မူလအက္ခရာသုံးလုံးသာရှိသောကြိယာပုံစံမှအပ ကျန်ကြိယာပုံစံများ၏[ الفعل المضارع ]ပစ္စုပ္ပန်(သို့)အနာဂတ်ကာလပြကြိယာပုံစံများ၌ ပုံသေပုံစံများရှိသဖြင့် ၎င်းတို့ကို ဖော်ပြရန်မလိုအပ်သဖြင့် ချန်ထားခဲ့ပါသည်။ မူရင်းအရဗီအဘိဓါန်များ၌လည်း ယင်းပုံစံများကို ဖော်ပြထားလေ့မရှိချေ။ ထိုနည်းတူစွာ ထူးခြားသော ပြုလုပ်သူနာမ်[ اِسْمُ الْفَاعِل ]၏ပုံစံများကို သက်ဆိုင်ရာကြိယာနှင့် မူလရင်းမြစ်ပုဒ်[ مصدر ]၏အောက်၌ ဖော်ပြထားပါသည်။ ပုံသေပုံစံရှိသော ပြုလုပ်သူနာမ်[ اِسْمُ الْفَاعِل ] ၏ပုံစံများ၊ [ اِسْمُ الْمَفْعُوْل ]၏ပုံစံများကိုမူ ဖော်ပြရန်မလိုအပ်သဖြင့်ချန်လှပ်ထားခဲ့ပါသည်။ ထိုနည်းတူစွာပင် အခြားသောပုံသေပုံစံရှိသော ဆင့်ပွါးနာမ်များကိုလည်း ချန်ထားခဲ့ပါသည်။ မူရင်းအရဗီ အဘိဓါန်၌လည်း ယင်းတို့ကို ဖော်ပြမထားပေ။ အကြောင်းမှာ မူလကြိယာ၏ အဓိပ္ပါယ်ကိုသိလျှင် ပုံသေပုံစံများဖြင့် ယင်းကြိယာမှ ဆင့်ပွားလာသောနာမ်များကိုလည်း အလိုအလျောက်သိနိုင်သောကြောင့်ဖြစ်သည်။

ဤအရဗီ–မြန်မာ အဘိဓါန်၌ အက္ခရာစဉ်အလိုက် ဖော်ပြပုံမှာ မူရင်းကျမ်း၏ဖော်ပြပုံအတိုင်းဖြစ်သည်။ မူရင်းကျမ်း၌ ဖော်ပြမထားသော အချို့ခေတ်ပေါ်ဝေါဟာရများနှင့် စကားလုံးများကို [المنجد]အဘိဓါန်မှ ဖြည့်စွက် ဖော်ပြထားပါသည်။ မူရင်းကျမ်း၌ ဖော်ပြထားသော အချို့အပင်များ၏ အမည်များကိုမူ မြန်မာဘာသာသို့ပြန်ဆိုရန် အခက်အခဲရှိသဖြင့် ***အပင်တစ်မျိုး***ဟုသာ ပြန်ဆိုဖော်ပြထားရသည့်အတွက် တောင်းပန်ပါသည်။ သို့သော်လည်း ယင်းအပင်များ၏ပုံနှင့် အခြားသော *ဝတ္ထုပစ္စည်း*များ၊ တိရစ္ဆာန်များ၏ပုံများကို [المنجد]အဘိဓါန်မှ ကူးယူဖော်ပြထားပါသည်။

ဤအရဗီ–မြန်မာ အဘိဓါန်၌ [الجامد]မည်သည့်ကမျှ ဆင့်ပွားလာခြင်းမရှိဘဲ သီးခြားဖြစ်သောနာမ်များကို အက္ခရာစဉ်အတိုင်း ဖော်ပြထားပါသည်။ သာဓကအားဖြင့် [اَلْبَبْوَجُ]၏အဓိပ္ပါယ်ကို ရှာလိုလျှင် စာမျက်နှာ(၉၆)၊ [ပ]အောက်တွင် အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။ [المشتق] မူလရင်းမြစ်ပုဒ်မှ ဆင့်ပွားလာသောဆင့်ပွားပုဒ်များကိုမူ အောက်ပါအစီအစဉ်အတိုင်း ဖော်ပြထားပါ

သည်။

(၁)။ [ الفعل الثلاثى المجرد ] မူလအက္ခရာသုံးလုံးသာရှိသောကြိယာပုံစံ။

(၂)။ [ المصدر ] မူလရင်းမြစ်နာမ်။

(၃)။ ထူးခြားသော [ اسم الفاعل ] ပြုလုပ်သူနာမ်။

(၄)။ ထူးခြားသော [ اسم المفعول ] ပြုလုပ်ခံရသူနာမ်။

(၅)။ [ الفعل الثلاثى المزيدفيه ] မူလအက္ခရာသုံးလုံးအပြင် အပိုအက္ခရာရှိသောမူလကြိယာပုံစံများ။

(၆)။ အခြားဆင့်ပွားနာမ်များ။

(၇)။ [ الفعل الرباعى المجرد ] မူလအက္ခရာလေးလုံးသာရှိသောကြိယာပုံစံ။

(၈)။ [ الفعل الرباعى المزيدفيه ] မူလအက္ခရာလေးလုံးအပြင် အပိုအက္ခရာရှိသောမူလကြိယာပုံစံများ။

အခြားဖော်ပြရန်မလိုအပ်သော ပုံသေပုံစံရှိသော ဆင့်ပွားနာမ်များကိုမူ ချန်လှပ်ထားခဲ့ပါသည်။ မူရင်း၌လည်း ဖော်ပြထားခြင်းမရှိပေ။

ဤအရဗီ–မြန်မာ အဘိဓါန်၌ [ الصفة ] နာမဝိသေသနအဖြစ်အသုံးပြုနိုင်သောနာမ်များကို '---သော(သူ)' ပုံစံဖြင့် ပြန်ဆိုဖော်ပြထားပါသည်။ အရဗီစာပေ၌ စကားလုံးတစ်လုံးသည် ဝါကျတွင်အသုံးမပြုဘဲ၊ သို့မဟုတ် အခြားစကားလုံးနှင့် မပေါင်းစပ်ဘဲသီးခြားရပ်တည်၍ နာမဝိသေသနဖြစ်သောစကားလုံးဟူ၍မရှိချေ။ [ اسم الفاعل ] ပြုလုပ်သူနာမ်၊ [ اسم المفعول ] ပြုလုပ်ခံရသူနာမ်၊ [ اسم الصفة المشبهة ] ပြုလုပ်သူနာမ်၏ပုံစံဖြင့်မလာဘဲ ပြုလုပ်သူနာမ်၏အဓိပ္ပါယ်ကိုပေးသောနာမ်၊ [ اسم التفضيل ] သာလွန်၍ပြုလုပ်သူနာမ်၊ [ اسم المبالغة ] အလွန်တရာပြုလုပ်သူနာမ်စသော နာမ်များသည် အခြားသော နာမ်ပုဒ်များနှင့်သဒ္ဒါနည်းကျ ပေါင်းစပ်ပြီးမှသာလျှင် နာမဝိသေသနဖြစ်သည်။ ထို့ကြောင့် ဤအဘိဓါန်တွင် ယင်းသို့ နာမဝိသေသနပြုလုပ်နိုင်သောနာမ်များကို '---သော(သူ)' ပုံစံဖြင့် ဖော်ပြထားပါသည်။ ထို့ပြင် သင်္ကေတများအဖြစ် အောက်ပါအတိုင်း ဖော်ပြထားသည်။

✿ ပုဒ်အသစ်တစ်ခုကို ရည်ညွှန်းသည်။

[ ـُـ ] [ الفعل المضارع ပစ္စုပ္ပန်(သို့)အနာဂတ်ကာလပြုကြိယာ ] ၏ပုံစံကို ရည်ညွှန်းသည်။

[ ] မြန်မာသို့ပြန်ဆိုထားသော မူရင်းအရဗီစကားလုံးကို ရည်ညွှန်းသည်။

[ ]ʻ မြန်မာသို့ပြန်ဆိုထားသော မူရင်းအရဗီစကားလုံးကို ရည်ညွှန်းပြီး ထိုစကား

လုံးသည် အရဗီသဒ္ဒါအရ 'မ'နာမ်ဖြစ်ကြောင်းကို ရည်ညွှန်းသည်။

﴿ ﴾ ကိုးကားသော ကုရ်အာန်ကျမ်းလာပါဒကို ရည်ညွှန်းသည်။

﴿ ﴾ ကိုးကားသော ဟဒီးသ်ကျမ်းလာဩဝါဒကို ရည်ညွှန်းသည်။

(ج) နာမ်ပုဒ်တစ်ခု၏ ဗဟုဝုစ်နာမ်ပုံစံကို ရည်ညွှန်းသည်။

(جج) နာမ်ပုဒ်တစ်ခု၏ ဗဟုဝုစ်နာမ်၏ဗဟုဝုစ်နာမ်ပုံစံကို ရည်ညွှန်းသည်။

(م) နာမ်ပုဒ်တစ်ခု၏ 'မ'နာမ်ပုံစံကို ရည်ညွှန်းသည်။

ကျွန်ုပ်သည် ဤကျမ်းတွင် တတ်နိုင်သမျှ အမှားအယွင်းမရှိရလေအောင် ကြိုးစားထားပါသည်။ အကြိမ်ကြိမ်၊ အပြန်ပြန်အလှန်လှန် ဖတ်ရှု၍ အမှားကင်းနိုင်သမျှကင်းနိုင်အောင် အချိန်ယူကာ ပြုစုထားပါသည်။ သို့သော် ချွတ်ချော်မှားယွင်းမှုမှ လုံးဝလွတ်ကင်းသည်ဟူ၍ကား မပြောရဲပါ။ အကြောင်းကား (၃၈)ကြိမ်မြောက် ရိုက်နှိပ်ထုတ်ဝေပြီးဖြစ်သော ကမ္ဘာကျော်အဘိဓါန်ကျမ်းကြီးဖြစ်သော[المنجد]အဘိဓါန်၌ပင် ပြင်ဆင်ဖြည့်စွက်ချက်များစွာကို ဖေါ်ပြနေရဆဲဖြစ်ပါသည်။ ထို့ကြောင့် ဤကျမ်း၌လည်းအမှားရှိနိုင်ပါသည်။ ကွန်ပြူတာစာစီမှားယွင်းမှု၊ မြန်မာစာသတ်ပုံမှားယွင်းမှု၊ မူရင်းအဓိပ္ပါယ်ကို ပေါက်ရောက်အောင်၊ အဓိပ္ပါယ်တစ်ထပ်တည်းကျအောင်ပြန်ဆိုရာတွင် စကားလုံးရွေးချယ်ရာ၌ အားနည်းမှုစသည့် ချို့ယွင်းချက်များရှိကောင်းရှိပေလိမ့်မည်။ ဤကဲ့သို့ အမှားအယွင်းတစ်စုံတစ်ရာကို တွေ့ရှိလာပါက နောင်ပြန်လည်ရိုက်နှိပ်ထုတ်ဝေရာ၌ ပြင်ဆင်ဖြည့်စွက်နိုင်ရန် ကျွန်ုပ်ထံအကြောင်းကြားအသိပေးပါရန် အထူးမေတ္တာရပ်ခံပါသည်။ သို့ အသိပေးအကြောင်းကြားရာ၌ မည်သည့်နေရာ၌မှားနေသည်၊ မည်သို့ပြင်ဆင်သင့်သည်ကိုလည်းကောင်း၊ မည်သည့်စကားလုံးများကို ထပ်မံဖြည့်စွက်သင့်သည်ကိုလည်းကောင်း အဘိဓါန်အထောက်အထားဖြစ်စေ၊ ကျမ်းဂန်အထောက်အထားဖြစ်စေ ပြဆိုလျက် အကြောင်းကြားပါလျှင် အားလုံးအတွက် အကျိုးရှိနိုင်သည်ဖြစ်ရာ ဝမ်းမြောက်စွာလက်ခံပြင်ဆင်သွားမည်ဖြစ်ပါသည်။

ဤအဘိဓါန်သည် အရဗီစာပေကို လေ့လာသူများအတွက် လိုအပ်လာတိုင်း အထိုက်အလျောက်အသုံးဝင်မည့် မိတ်ဆွေသဖွယ်ဖြစ်လျှင် ကြိုးပမ်းအားထုတ်ရကျိုးနပ်ပါသည်။ ကျေနပ်ပါသည်ဟု ပြောပါရစေ။

မောင်လာနာအဗ်ဒုရ်ရဟီးမ်၊ မြင့်လွင်(ကျုံဒိုး)

[မဒနီ–အတ်စ်အဒီ၊ *B.E(Met)*]

# ﴿باب الهمزة﴾

✿ [ا] ပထမမြောက် အရဗီဗျည်းအက္ခရာ။ (ယင်းအက္ခရာ၏ ဒွာန်နှင့်ကရိုဏ်းမှာ လည်ချောင်းရင်းနှင့် လျှာရင်းဖြစ်သည်။ ယင်းအက္ခရာကို 'အား'သံသရအဖြစ်လည်း အသုံးပြုရသည်။)

✿ [اَ] –လား?၊ –သလား?၊ –လော?၊သလော?။(အမေးပစ္စည်း။ အရဗီသဒ္ဒါအရယင်းကို[اَدَاةُ الْاِسْتِفْهَامِ]ဟုခေါ်သည်။)သာဓက။ [اَسَافَرَ اَخُوْكَ]အသင်၏အစ်ကို ခရီးထွက်သွားပြီလား?။[اَاَخُوْكَ سَافَرَ اَمْ اَبُوْكَ]။ခရီးထွက်သွားတာ ခင်ဗျားအစ်ကိုလား၊ ဒါမှမဟုတ် ခင်ဗျားအဖေလား?

﴿وَاِنْ اَدْرِىْ اَقَرِيْبٌ هٰذَا اَمْ بَعِيْدٌ﴾အသင်တို့အား ကတိပေးချိန်းချက်ထားသောအရာ (ကိယာမတ်)သည် နီးသလော၊ သို့မဟုတ် ဝေးသလော ကျွန်ုပ်မသိချေ။

✿ [اَ] အို၊ဟေ့။ [اَبُنَىَّ] အိုငါ့သား။

✿ [اَبْ] ဩဂုတ်လ။

✿[اَلْاَبِنُوْسُ] ယင်းတိုက်ပင်။(အာဖရိကနှင့် အိန္ဒိယတိုက်တွင် ပေါက်ရောက်သော အပင်တစ်မျိုး။ အနက်ရောင်သစ်မာပင်တစ်မျိုးဖြစ်ပြီး အိုး၊ခွက်စသော အိမ်သုံးပစ္စည်းများပြုလုပ်ရာ၌သုံးသည်။)

✿ [اَلْاَجُرُّ] အုတ်ပြား၊ အုတ်ကျွတ်။ အဆောက်အဦးဆောက်လုပ်ရာတွင် အသုံးပြုရသော မီးဖုတ်ထားသည့်ရွှံ့မြေ။

✿ [اَلْاَحُ] ကြည့်[ا ى ح]

✿ [اٰدَمُ] ကြည့်[ا د م]

✿ [اٰذَارُ] မတ်လ။

✿[اَلْاَذَرْبُوْنُ]အဝါ၊ အနီ၊ ရွှေရောင်အပွင့်များရှိသော ပန်းပင်တစ်မျိုး။

✿ [اَلْاٰسُ] ❶ အမြဲစိမ်းလန်း၍ ပြောင်ချောနေသောအရွက်များရှိပြီး အပွင့်ဖြူများပွင့်သောချုံပင်။ ❷ တစ်ပွင့်(ဖဲ)။

✿ [اَلْاٰسِيَا] ကြည့်[ا س ى]

✿ [اٰلٌ] ကြည့်[ا و ل]

✿ [اٰمِيْنَ] ဆုတောင်းတစ်ခုပြီးတိုင်း ရွတ်ဆိုရသောစကား၊ ''အို! အလ္လာဟ်အရှင်မြတ်ကျွန်တော်မျိုး၏ဆုတောင်းကို လက်ခံသဘောတူတော်မူပါ''ဟူ၍အဓိပ္ပါယ်ရသည်။

✿[اَلْاَنِسُوْنُ] ကျွဲခေါင်းသီးပင်။

✿ [اَلْاٰنُكُ ] ခဲသတ္တုအနက်။

✿ [اَلْاٰيِيْنُ ] ❶ ဓလေ့၊ ❷ ထုံးတမ်းစဉ်လာ၊ ❸ လူအများ လိုက်နာရသော အစဉ်အလာ။

✿ [اَبَا –] ပစ်ခတ်သည်။[– بِسَهْمٍ](မြားဖြင့်)ပစ်ခတ်သည်။

[اَبًا] (မြားဖြင့်)ပစ်ခတ်ခြင်း။

✿ [اَلْاٰبَاءُ] ကြိမ်၊ ဝါး။

[اَبَّ –] ❶ [– لِلسَّيْرِ](ခရီးသွားရန်)အသင့်ပြင်ဆင်သည်။ ❷ [– اِلَيْهِ]စွဲလန်းသည်။ လွမ်းဆွတ်သတိရသည်။[اَبَّ اِلَى وَطَنِهِ]မိမိ၏တိုင်းပြည်ကို သတိရလွမ်းဆွတ်သည်။ ❸ [– عَلَى اَعْدَائِهِ]မိမိ၏ရန်သူများအပေါ် အချက်ကျကျ တိုက်ခိုက်သည်။ ❹ [– اَبَابَةَ الشَّيْئِ]နည်းမှန်သည်။ စနစ်ကျသည်။ ❺ [– الشَّيْءَ]ရည်

ရှယ်သည်။ ဦးတည်သည်။ ချိန်ရွယ်သည်။

[أَبٌّ-اَبَابٌ] ❶ (ခရီးသွားရန်)အသင့်ပြင်ဆင်ခြင်း။ ❷ စွဲလန်းခြင်း။ ❸ လွမ်းဆွတ်သတိရခြင်း။ ❹ မိမိ၏ရန်သူများအပေါ် အချက်ကျကျ တိုက်ခိုက်ခြင်း။ ❺ နည်းမှန်ခြင်း။ စနစ်ကျခြင်း။ ❻ ရည်ရွယ်ခြင်း။ ဦးတည်ခြင်း။ ချိန်ရွယ်ခြင်း။

[اَبَّبَ] ဟစ်အော်သည်။

[اِئْتَبَّ] အသင့်ပြင်ဆင်သည်။ စီမံသည်။

[اِسْتَابَّ] တစ်စုံတစ်ယောက်ကို မိမိ၏ဖခင်ဟုမှတ်ယူသည်။ ဖခင်အရာ၌ထားသည်။ ဖခင်လိုသဘောထားသည်။ကြည့်[ا ب و]

[تَاَبَّبَ] ဂုဏ်ယူသည်။ ဝင့်ကြွားသည်။မောက်မာသည်။

[اَلْاَبَابُ] အလွန်များပြားသောရေထု။

[اَلْاَ بَابَةُ] မိမိ၏နေရပ်ကို စွဲလန်းသည့်ရောဂါ။ လွမ်းနာဆွေးနာ။

[اَلْاَبُّ] မြက်၊ စားကျက်။﴿وَفَاكِهَةً وَّ اَبًّا﴾သစ်သီးဝလံများကိုလည်းကောင်း၊ ကျွဲ၊ နွားတိရစ္ဆာန်တို့၏အစာကိုလည်းကောင်း(ပေါက်ရောက်စေတော်မူ၏)။

[فُلَانٌ رَاعَ لَهُ الْحَبُّ وَطَاعَ لَهُ الْاَبُّ] သူ၏လယ်ယာသည် ဖြစ်ထွန်း၍ သူ၏စားကျက်သည် ကျယ်ဝန်းသည်။

[اِبَّانٌ] အချိန်၊ အခါကာလ၊ ရာသီ။

[اِبَّانَ الْفَاكِهَةِ]သစ်သီးပေါ်ချိန်။

ကြည့်[ا ب ن]

[اَبِيبُ] အီဂျစ်တိုင်းရင်းသား ကိဗ်တွီလူမျိုးများ၏ပြက္ခဒိန်အရ ဆယ့်တစ်လမြောက်ဖြစ်သောလ။

✿ [اَبَتَ-] [اَلْيَوْمُ-](နေ)အပူချိန်ပြင်းထန်သည်။

[اَبُتَ] (နေ)အပူချိန်ပြင်းထန်ခြင်း။

[اَبِتٌ-اَبَتٌ-اَبِتٌ]အပူချိန်မြင့်မားသော(အရာ၊ နေ့)။

[يَوْمٌ اَبِتٌ]အပူချိန်မြင့်မားသောနေ့။

[اِئْتَبَّ] အသင့်ပြင်ဆင်သည်။ စီမံသည်။

[تَاَبَّتَ] [اَلْجَمْرُ-](မီးခဲ)ရဲရဲတောက်သည်။

✿ [اَبْجَدُ] နံသင့်အက္ခရာစဉ်၊ ဗျည်းအက္ခရာများကို ဂဏန်းတန်ဖိုးသတ်မှတ်၍ စဉ်ထားသောအက္ခရာစုများ။

| | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|
| ى | ط | ح | ز | و | ه | د | ج | ب | ا |
| ١٠ | ٩ | ٨ | ٧ | ٦ | ٥ | ٤ | ٣ | ٢ | ١ |
| ر | ق | ص | ف | ع | س | ن | م | ل | ك |
| ٢٠٠ | ١٠٠ | ٩٠ | ٨٠ | ٧٠ | ٦٠ | ٥٠ | ٤٠ | ٣٠ | ٢٠ |
| | غ | ظ | ض | ذ | خ | ث | ت | ش | |
| | ١٠٠٠ | ٩٠٠ | ٨٠٠ | ٧٠٠ | ٦٠٠ | ٥٠٠ | ٤٠٠ | ٣٠٠ | |

ဥပမာ–အစ္စလာမ့်သင်္ကေတအဖြစ် အသုံးပြုနေကြသော(၇၈၆)ဟူသောဂဏန်းသည် [بسم الله الرحمن الرحيم]ဟူသောဝါကျရှိ အက္ခရာများ၏ ဖော်ပြပါ တန်ဖိုးများကို ပေါင်းထားခြင်းဖြစ်သည်။ အဓိပ္ပါယ်မှာ အလွန်သနားညှာတာတော်မူသော၊ အနန္တကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့်အစပြုပါ၏ ဟူ၍ဖြစ်ပေသည်။

✿ [اَبَدَ-] ❶ စိမ်းကားသည်။ လူအများနှင့် ခပ်ကင်းကင်းနေသည်။ ❷ ရိုင်းစိုင်းသည်။ ❸ [بِالْمَكَانِ-]စွဲမြဲစွာနေထိုင်သည်။ အတည်တကျနေထိုင်သည်။ ❹ [اَلْمَكَانَ-]လူသူကင်းမဲ့သဖြင့် သားရဲများ နိအောင်းနေထိုင်

သည်။

[اَبُوْدٌ] ❶ စိမ်းကားခြင်း။ လူအများနှင့် ကင်းကွာ၍နေခြင်း။ ❷ ရိုင်းစိုင်းခြင်း။ ❸ စွဲမြဲစွာနေထိုင်ခြင်း။ အတည်တကျနေထိုင်ခြင်း။

[اَبِدَ-] ❶ စိမ်းကားသည်။ လူအများနှင့် ကင်း၍နေသည်။ ❷ ရိုင်းစိုင်းသည်။ ❸ [ـ عَلَيْهِ]ဒေါသဖြစ်သည်။

[اَبَدٌ] ❶ စိမ်းကားခြင်း။ လူအများနှင့် ကင်း၍နေခြင်း။ ❷ ရိုင်းစိုင်းခြင်း။ ❸ ဒေါသဖြစ်ခြင်း။

[اَبِدٌ] စိမ်းကားသူ၊ ရိုင်းသူ။

[اَبَّدَ] တည်မြဲစေသည်။ ထာဝရဖြစ်စေသည်။

[تَاَبَّدَ] ❶ စိမ်းကားသည်။ လူအများနှင့် ကင်း၍နေသည်။ လူ့အစုအဝေးနှင့်ကင်းကွာသည်။ ❷ [ـ الْمَكَانُ]အဖော်ကင်းမဲ့သည်။ အသိမိတ်ဆွေ ကင်းမဲ့သည်။ ❸ [ـ الشَّيْءُ]ထာဝရဖြစ်သည်။ ကာလရှည်ကြာစွာ တည်တန့်ခိုင်မြဲသည်။ ❹ [ـ الرَّجُلُ] အိမ်ထောင်မပြုဘဲ လူပျိုကြီးအဖြစ်နေသည်။

[اَلْاٰبِدَةُ] ❶ ထူးခြားသောဖြစ်ရပ်၊ ဆန်းကြယ်သောအမှုကိစ္စ။ ❷ အမြဲတမ်းပြောစမှတ်အဖြစ် ကျန်ရစ်သောဘေးဒုက္ခကြီး။ (ج)[اَوَابِدُ]။[اَوَابِدُ الْكَلَامِ]ထူးခြားဆန်းကြယ်သောစကားများ။[اَوَابِدُ الدُّنْيَا]ကမ္ဘာ့အံ့ဘွယ်များ။

[اَلْاَبَدُ] ❶ ခေတ်ကာလ။ ❷ အဆုံးမဲ့ကာလ၊ အလွန်ရှည်ကြာသောကာလ၊ ❸ အစဉ်ထာဝရ။(ج)[آبَادٌ - اُبُوْدٌ]။

[لَا اَفْعَلُ ذَالِكَ اَبَدَ الْاٰبِدِيْنَ]ဒါကို ငါဘယ်တော့မှ လုံးဝ လုပ်မှာမဟုတ်ဘူး။

[اَبَدًا] ❶ ဘယ်တော့မှ၊ ဘယ်သောအခါမှ။ ❷ အမြဲ၊ ထာဝရ။﴿خَالِدِيْنَ فِيْهَا اَبَدًا﴾၎င်းတို့သည် ယင်းသုခဘုံ၌ ထာဝရဝင်ရောက်စံမြန်းရမည့်သူများအဖြစ်နှင့်။ ﴿اِنَّا لَنْ نَدْخُلَهَا اَبَدًا مَادَامُوْا فِيْهَا﴾၎င်းတို့သည် ယင်းမြို့ထဲ၌ရှိနေကြသမျှ ကာလပတ်လုံး ကျွန်ုပ်တို့သည် ဘယ်သောအခါမှ ယင်းမြို့တွင်းသို့ အလျှင်းဝင်ကြမည်မဟုတ်။

[اَلْاَبَدِيُّ] အဆုံးမဲ့သော၊ မဆုံးနိုင်သော(သူ၊ အရာ)။

[اَلْاَبَدِيَّةُ] ထာဝရတည်မြဲမှု။

[اَلْمُؤَبَّدُ] [اَلْحُكْمُ الْمُؤَبَّدُ]တစ်သက်တစ်ကျွန်းပြစ်ဒဏ်စီရင်မှု၊[اَلسِّجْنُ الْمُؤَبَّدُ]ထောင်ဒဏ်တစ်သက်။

✿ [اَبَرَ-] ❶ ဆူးနှင့်ထိုးသည်။ အစွယ်နှင့်ထိုးသည်။ ❷ [ـ الزَّرْعَ](စိုက်ခင်းကို)မြေတောင်မြောက်သည်။ မြေယာပြုပြင်သည်။ ❸ [ـ الْعَقْرَبُ](ကင်း)ကိုက်သည်။ အစွယ်ဖြင့် ထိုးသည်။ ❹ [ـ النَّخْلَ](စွန်ပလွန်ပင်ကို)အသီးဖြစ်ထွန်းရန် ဝတ်မှုံကူးပေးသည်။ ❺ [ـ الْحَيَوَانَ](တိရစ္ဆာန်ကို)အစားအစာ၌ ဆူးထည့်ကျွေးသည်။ သေစေရန်အပ်ကျွေးသည်။ ❻ [ـ فُلَانًا]နောက်ကွယ်အတင်းပြောသည်။ ဒုက္ခပေးသည်။ ❼ [ـ بَيْنَ النَّاسِ] ကုန်းတိုက်သည်။ ရန်တိုက်သည်။ ပြဿနာဖန်တီးသည်။

[اَبْرٌ - اِبَارٌ] ❶ ဆူးနှင့်ထိုးခြင်း။ အစွယ်နှင့်ထိုး

ခြင်း။ ❹ (စိုက်ပျိုးပင်ကို)မြေတောင်မြှောက်ခြင်း။ ❺ ကင်းကိုက်ခြင်း။ ❻ (စွန်ပလွံပင်အသီးဖြစ်ထွန်းရန်)ဝတ်မှုံကူးပေးခြင်း။ ❼ (တိရစ္ဆာန်ကို)အစားအစာ၌ ဆူးထည့်ကျွေးခြင်း။ သေစေရန် အပ်ကျွေးခြင်း။ ❽ နောက်ကွယ်အတင်းပြောခြင်း။ ဒုက္ခပေးခြင်း။ ❾ ကုန်းတိုက်ခြင်း။ ရန်တိုက်ခြင်း။ ပြဿနာဖန်တီးခြင်း။

[اَبِرَ ـَ] [ـَ الزَّرْعُ]လယ်ယာဖြစ်ထွန်းသည်။

[اَبْرٌ] လယ်ယာဖြစ်ထွန်းခြင်း။

[اَبِرٌ] ဖြစ်ထွန်းသော(လယ်ယာ)။

[اَبَّرَ] သီးနှံဖြစ်ထွန်းစေရန် ဝတ်မှုံကူးပေးသည်။

[اِئْتَبَرَ] ဝတ်မှုံကူးပေးရန် တောင်းဆိုသည်။ ဝတ်မှုံကူးခိုင်းသည်။

[تَأَبَّرَ] ❶ ဝတ်မှုံကူးသည်။ ❷ ဝတ်မှုံကူးနိုင်သည့်အရွယ်သို့ ရှင်သန်ကြီးထွားသည်။

[اَلإِبَارَةُ] ဝတ်မှုံကူးခြင်းအတတ်ပညာ။ ဝတ်မှုံကူးသည့်အလုပ်။

[اَلآبَارُ] ❶ ဝတ်မှုံကူးသူ။ ❷ ဆူး၊ အပ်၊ ပင်အပ်စသည်တို့ ကိုပြုလုပ်သူ။

[اَلإِبْرَةُ] ❶ ဆူး၊အပ်၊ပင်အပ်။ ❷ (ပျား၊ ကင်းမြီးကောက်စသော ပိုးမွှားများ၏)ဆူး၊ အစွယ်။ ❸ ချိုစောင်း။ ❹ တံတောင်စေ့အရိုး။ [اِبْرَةُ الْمَحْقَنِ]ဆေးထိုးအပ်။[حَقَنَهُ اِبْرَةً] ဆေးထိုးသည်။[اِبْرَةُ الرَّاعِى]ရေမွှေးပန်း။ [اِبْرَةٌ مِغْنَاطِيسِيَّةٌ]သံလိုက်အိမ်မြှောင်ညွှန်တံ။ (ج)[اِبَرٌ]

[بَيْتُ الإِبْرَةِ] သံလိုက်အိမ်မြှောင်။

[اَلأَبُّورُ] ဝတ်မှုံကူးသော အဖူးအပွင့်၊ အနိုင်။ (ج)[اُبُرٌ]။

[اَلْمَابَرُ] အဖူး၏အခွံ။(အုန်းဖူး၊ ထန်းဖူးစသည်တို့၏အခွံ)။(ج)[مَابِرُ]။

[اَلْمِئْبَرُ] ❶ ကြီးသောအပ်၊ဆူး။ ❷ ဝတ်ဆံဖို။ ❸ အပ်ဗူး၊ အပ်ထည့်သောခွက်။(ج)[مَابِرُ]။

[اَلْمِئْبَرَةُ] ကုန်းတိုက်ခြင်း၊ ရန်တိုက်ခြင်း၊ ကုန်းစကား။(ج)[مَابِرُ]။

✿ [اَلأَبِرَا] အော်ပရာ၊ပြဇာတ်။

✿ [اَلأَبْرَشِيَّةُ] ခရစ်ယာန်ဂိုဏ်းအုပ်ကြီး အုပ်ချုပ်သောနယ်မြေ။

✿ [اَلإِبْرِيزُ] ရွှေစင်။ အခြားမည်သည့်သတ္တုမျှ ပါဝင်ရောစပ်ထားခြင်းမရှိသောရွှေစင်။

✿ [اَلإِبْرَمِيسُ]ငါးသိုင်းမျိုး။

✿ [اَلإِبْرَيْسَمُ]အကောင်းစားပိုးထည်။

✿ [اَلإِبْرِيقُ] ကရားအိုး။(ج)[اَبَارِيقُ]။

✿ [اِبْرِيلُ] ဧပြီလ။

✿ [اَبَزَ ـِ] ခုန်ပေါက်ပြေးသည်။ ခုန်ပြေးသည်။

[اَبْزٌ-اُبُوزٌ] ခုန်ပေါက်ပြေးခြင်း။ ခုန်ပြေးခြင်း။

✿ [اَلأَبْزَنُ] သတ္တုဇလုံ။ အဝတ်လျှော်ဇလုံ။ ရေချိုးဇလုံ။ (ج) [اَبَازِنُ]

✿ [اَلإِبْزِيمُ] ခါးပတ်ကွင်း။

✿ [اَبَسَ ـِ] ❶ နိုင်နင်းလွှမ်းမိုးသည်။ ❷ အနိုင်ယူသည်။ ❸ ပြစ်တင်ဝေဖန်သည်။

[اَبْسٌ] ❶ နိုင်နင်းလွှမ်းမိုးခြင်း။ ❷ အနိုင်ယူခြင်း။ ❸ ပြစ်တင်ဝေဖန်ခြင်း။

[اَبَّسَ] ❶ နိုင်နင်းလွှမ်းမိုးသည်။ ❷ အနိုင်ယူသည်။ ❸ ပြစ်တင်ဝေဖန်သည်။

[اِبِّيسٌ] ရှေးဟောင်းအီဂျစ်လူမျိုးများက တန်

နိုးအင်အား၏ သင်္ကေတအဖြစ် အထွတ်အမြတ်ထားကြသော မြွေသဏ္ဍာန်ဦးချိုပါသည့် နွားငယ်။

✽ [أَبَشَ ـِ] ❶ (မိသားစုအတွက်)ဝမ်းစာရှာဖွေသည်။ ရှာဖွေဆည်းပူးသည်။ ❷ [ـ الشَّيْءَ] စုပေါင်းသည်။ စုဆောင်းသည်။

[أَبْش] ❶ (မိသားစုအတွက်) ဝမ်းစာရှာခြင်း။ ❷ ရှာဖွေဆည်းပူးခြင်း။ စုပေါင်းခြင်း။ စုဆောင်းခြင်း။

[أَبِش-أَبَّاش] ❶ မိသားစုအတွက် ဝမ်းစာရှာသူ။ ❷ စုပေါင်းရောနှောသော(သူ)။

[أَبَّشَ] ❶ (မိသားစုအတွက်)ဝမ်းစာရှာသည်။ ရှာဖွေဆည်းပူးသည်။ ❷ [ـ الشَّيْءَ]စုပေါင်းသည်။ စုဆောင်းသည်။ ❸ [ـ كَلَامًا]ဟိုမှသည်မှ စကားများကို စုပေါင်းရောနှောထားသည်။

[تَأَبَّشَ] ပေါင်းမိသည်။ စုစည်းမိသည်။ တစ်စုတစ်ပေါင်းတည်းဖြစ်သည်။

[الأَبَاشَةُ] လူခြေထူထပ်ရှုပ်ထွေးမှု။ လူပေါင်းစုံ ရောနှောပါဝင်သော လူအုပ်စု။

✽ [أَبَصَ ـِ] တက်ကြွသည်။ မြူးကြွသည်။

[أَبْص] တက်ကြွခြင်း။ မြူးကြွခြင်း။

[أَبِص-أَبُوص]တက်ကြွသူ။ မြူးကြွသူ။

[أَبِصَ ـَ] တက်ကြွသည်။ မြူးကြွသည်။

[أَبَص] တက်ကြွခြင်း။ မြူးကြွခြင်း။

[أَبِص] တက်ကြွသူ။ မြူးကြွသူ။

✽ [أَبَضَ ـِ] ❶ တင်းမာသည်။ တောင့်တင်းသည်။ နိုင်မာသည်။ ❷ [ـ البَعِيرَ]သွားလာခြင်းမရှိစေရန် ကုလားအုပ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်သည်။ ❸ [ـ الإِنْسَانَ] (လူကို)ကျောပိုး၍ ထမ်းခေါ်သည်။

[أَبْض] ❶ တင်းမာခြင်း။ တောင့်တင်းခြင်း။ နိုင်မာခြင်း။ ❷ သွားလာခြင်းမရှိစေရန် ကုလားအုပ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်ခြင်း။ ❸ (လူကို)ကျောပိုး၍ ထမ်းခေါ်ခြင်း။

[أَبِضَ ـَ] ❶ တင်းမာသည်။ တောင့်တင်းသည်။ နိုင်မာသည်။ ❷ [ـ البَعِيرَ]သွားလာခြင်းမရှိစေရန် ကုလားအုပ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်သည်။ ❸ [ـ الإِنْسَانَ] (လူကို)ကျောပိုး၍ ထမ်းခေါ်သည်။

[أَبَض - أَبْض] ❶ တင်းမာခြင်း။ တောင့်တင်းခြင်း။ နိုင်မာခြင်း။ ❷ သွားလာခြင်းမရှိစေရန် ကုလားအုပ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်ခြင်း။ ❸ (လူကို)ကျောပိုး၍ ထမ်းခေါ်ခြင်း။

[تَأَبَّضَ] ❶ တင်းမာ၍သွားသည်။ တောင့်တင်းလာသည်။ နိုင်မာ၍လာသည်။ ❷ [ـ البَعِيرُ]ကုလားအုပ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်ထားသဖြင့် မသွားနိုင်ဘဲဖြစ်သည်။ ❸ [ـ الإِنْسَانَ](လူကို)ကျောပိုး၍ လိုက်ပါသွားသည်။ ❹ [ـ الكَلْبُ]ခွေးကဲ့သို့ထိုင်သည်။ ရှေ့ခြေနှစ်ချောင်းကို ရှေ့သို့ဖြန့်ခင်းလျက်ထိုင်သည်။ ❺ [ـ البَعِيرَ]ကုလားအုပ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်ထားသည်။

[الإِبَاضُ] ကုလားအုတ်၏ ရှေ့ခြေနှစ်ချောင်းကို တုတ်နှောင်သောကြိုး။(ج)[ أُبُض ]။

[الإِبَاضِيَّةُ] အီဘာသွီဝါဒ၊ ယင်းဝါဒကို လက်

ခံသူအုပ်စု။ အုမိုက်ယဟ်ခေတ်၌ ပေါ်ပေါက်ခဲ့သော အဗ်ဒုလ္လာဟ်ဘင်နှ်အိဘာသွ်တမီမီ၏ နောက်လိုက် ခါရိဂျီအုပ်စုတစ်စု။

[اَلْاَبْوَض] အလွန်အပြေးသန်သော(မြင်း)။ (ج) [اُبُضّ]။

[اَلْمَابِضُ] တတောင်ဆစ် သို့မဟုတ် ဒူးဆစ်၏ အတွင်းပိုင်း။(ج)[مَابِض]။

✿ [تَاَبَّطَ] **၁** [ـ الشَّيْءَ](တစ်စုံတစ်ရာကို)ချိုင်းကြားညှပ်သည်။ ချိုင်းကြားတွင်ဝှက်ထားသည်။ **၂** [ـ الثَّوْبَ](အဝတ်ကို)လက်ယာဘက် ချိုင်းအောက်မှသွင်း၍ လက်ဝဲဘက်ပုခုံးပေါ်၌ တင်ထားသည်။ **၃** [ـ الْمَرْاَةُ الطِّفْلَ](မိန်းမကြီးသည်)သူမ၏ကလေးငယ်ကို ယုယပိုက်ထွေးသည်။ ပြုစုသည်။

[اَلْاِبَاطُ] ချိုင်းအောက်၌ ညှပ်ထားသောအရာ။

[اَلْاِبْطُ] ချိုင်း။ လက်မောင်းရင်း၏အတွင်းပိုင်းနှင့် ရင်သား၏ဘေးအကြားရှိ အစိတ်အပိုင်း။(ج)[اٰبَاطٌ]။

✿ [اَبَقَ ـِ] ထွက်ပြေးတိမ်းရှောင်သည်။

[اَبْقٌ ـ اِبَاقٌ] ထွက်ပြေးတိမ်းရှောင်ခြင်း။

[اَبِقَ ـَ] ထွက်ပြေးတိမ်းရှောင်သည်။

[اَبَقٌ] ထွက်ပြေးတိမ်းရှောင်ခြင်း။

[تَاَبَّقَ] **၁** ထွက်ပြေး တိမ်းရှောင်သည်။ **၂** [ـ الشَّيْءَ](တစ်စုံတစ်ရာကို)ရွံမုန်းငြင်းဆန်သည်။ ကင်းရှင်းစွာနေသည်။ မဆိုင်သလိုနေသည်။

[اٰبِقٌ] ထွက်ပြေးတိမ်းရှောင်သော(သူ)။

[اَلْاَبَقُ] လျှော်ပင်တစ်မျိုး။

✿ [اَبَلَ ـُ] **၁** [ـ الْاِبِلُ](ကုလားအုတ်)များပြားသည်။ **၂** ရိုင်းသည်။ စိမ်းသည်။ **၃** (ကုလားအုတ်)စိမ်းစိုသောအပင်များကို စားရသဖြင့် ရေဝသည်။ ရေသောက်ရန် မလိုဘဲရှိသည်။ **၄** [ـ الرَّجُلُ]ရဟန်းဝတ်သည်။ ဘုန်းကြီးဝတ်သည်။ **၅** [ـ فُلَانٌ]ကုလားအုတ်များစွာပိုင်ဆိုင်သည်။ **၆** [ـ فُلَانٌ]ကုလားအုတ်ကို ကောင်းစွာထိန်းကျောင်းသည်။ **၇** [ـ فُلَانًا] (သူ့အတွက်)ကုလားအုတ်များကို သတ်မှတ်ပြုလုပ်ပေးသည်။

[اَبْلٌ ـ اُبُوْلٌ] **၁** (ကုလားအုတ်)များပြားခြင်း။ **၂** ရိုင်းခြင်း။ စိမ်းခြင်း။ **၃** ကုလားအုတ်များစွာပိုင်ဆိုင်ခြင်း။ **၄** (ကုလားအုတ်)စိမ်းစိုသောအပင်များကို စားရသဖြင့် ရေဝခြင်း။ ရေသောက်ရန် မလိုဘဲရှိခြင်း။

[اِبَالَةٌ] ကုလားအုတ်ကို ကောင်းစွာထိန်းကျောင်းခြင်း။

[اَبْلٌ ـ اَبَالَةٌ] ရဟန်းဝတ်ခြင်း။ ဘုန်းကြီးဝတ်ခြင်း။

[اَبْلٌ] (သူ့အတွက်)ကုလားအုတ်များကို သတ်မှတ် ပြုလုပ်ပေးခြင်း။

[اَبِلَ ـَ] **၁** [ـ الْاِبِلُ](ကုလားအုတ်)များပြားသည်။ **၂** ရိုင်းသည်။ စိမ်းသည်။ **၃** (ကုလားအုတ်)စိမ်းစိုသောအပင်များကို စားရသဖြင့် ရေဝသည်။ ရေသောက်ရန်မလိုဘဲ ရှိသည်။ **၄** [ـ فُلَانٌ]ကုလားအုတ်ကို ကောင်းစွာထိန်းကျောင်းသည်။

[اَبَلٌ] **၁** (ကုလားအုတ်)များပြားခြင်း။ **၂** ရိုင်းခြင်း။ စိမ်းခြင်း။ **၃** (ကုလားအုတ်)စိမ်းစိုသောအပင်များကို စားရသဖြင့် ရေဝခြင်း။

ရေသောက်ရန်မလိုဘဲ ရှိခြင်း။

[اَبَلَ۔اَبَالَةً] ကုလားအုတ်ကို ကောင်းစွာထိန်းကျောင်းခြင်း။

[اَبِلٌ] ကုလားအုတ်ကို ကောင်းစွာထိန်းကျောင်းသော(သူ)။

[اَبَلَ ـ] ရဟန်းဝတ်သည်။ ဘုန်းကြီးဝတ်သည်။

[اَبَالَةً] ရဟန်းဝတ်ခြင်း။ ဘုန်းကြီးဝတ်ခြင်း။

[اَبِيلٌ] ရဟန်းဝတ်သော(သူ)။ ဘုန်းကြီးဝတ်သော(သူ)။

[اَبَلَ] ကုလားအုတ်အရေအတွက် အများအပြား ပိုင်ဆိုင်သည်။

[اِيبَالٌ] ကုလားအုတ်အရေအတွက် အများအပြား ပိုင်ဆိုင်ခြင်း။

[اَبَّلَ] ❶ ကုလားအုတ်အရေအတွက် အများအပြား ပိုင်ဆိုင်သည်။ ❷ [ـ الإبِلَ] (ကုလားအုတ်)ကို ကောင်းစွာထိန်းကျောင်းသည်။ ❸ (ကုလားအုတ်)ဝဖြိုးအောင်ကျွေးမွေးသည်။

[اِئتَبَلَ] ကုလားအုတ်ထိန်းကျောင်းသည့် အလုပ်ကိုလုပ်သည်။

[تَاَبَّلَ] ❶ [ـ الإبِلُ](ကုလားအုတ်)စိမ်းစိုသောအပင်များကို စားရသဖြင့်ရေဝခြင်း။ရေသောက်ရန်မလိုဘဲရှိခြင်း။ ❷ [ـ فُلَانٌ الإبِلَ] (ကုလားအုတ်)ကို ကောင်းစွာထိန်းကျောင်းသည်။ (ကုလားအုတ်ကို)ဂရုတစိုက် ထိန်းသိမ်းစောင့်ရှောက်သည်။

[اَلاَبَابِيلُ] အုပ်စုများ။ ﴿وَاَرْسَلَ عَلَيْهِمْ طَيْرًا اَبَابِيلَ﴾ ၎င်းတို့အပေါ်ဝယ် ငှက်များကို အုပ်စုလိုက် စေလွှတ်တော်မူခဲ့သည်။

[اَلإبَالَةُ۔اَلإبَّالَةُ]အထုံး၊ အစည်း။(မြက်ထုံး၊ ထင်းစည်းစသည်)။

[اَلإبِلُ] ကုလားအုတ်များ။(ဇ)[آبَالٌ]။

[اَلإبِلَانِ] ကုလားအုတ်အုပ်စု နှစ်စု။

[اَلأبَلَّةُ] ❶ မျိုးနွယ်အုပ်စု။ ❷ အပေါင်းအဖော်များ။ ❸ ဘဆွ်ရဟ်မြို့အနီးရှိ မြို့တစ်မြို့၏အမည်။

[اَلأبِيلُ] ❶ ရဟန်း၊ ဘုန်းကြီး။ ❷ တောင်ဝှေး။ တုတ်။

[اَلإبِيلَةُ] အထုံး၊ အစည်း။(မြက်ထုံး၊ ထင်းစည်းစသည်)

[اَلْمَابَلَةُ] ❶ ကုလားအုတ်နေသည့်နေရာ။ ❷ ကုလားအုတ်ပေါ်များသည့်နေရာ၊ အရပ်ဒေသ။ (ဇ)[مَابِلُ]။

✿ [اَلإبْلِيزُ] မြစ်ရေ သယ်ဆောင်၍ အနယ်ကျသော နုံးတင်မြေနု။

✿ [اِبْلِيسُ] ❶ အဖျက်အင်အားစု ယှိုင်တွာန်တို့၏ခေါင်းဆောင်။ ❷ မကောင်းမှုကို အလွန်အကျွန် အကြိမ်ကြိမ်ကျူးလွန်သူ။ (ဇ)[اَبَالِيسُ ۔ اَبَالِسَةٌ]

✿ [اَبَنَ ـِ] ❶ [ـ الدَّمُ فِى الْجُرْحِ](အနာ၊ ဒဏ်ရာ၌ရှိသောသွေး)အနက်ရောင်ပြောင်းသွားသည်။ ❷ [ـ فُلَانًا](တစ်ဦးတစ်ယောက်ကို) ပြစ်တင်ကဲ့ရဲ့သည်။ ရှုတ်ချသည်။

[اَبْنٌ] ❶ (သွေး)အနက်ရောင် ပြောင်းသွားခြင်း။ ❷ ပြစ်တင်ကဲ့ရဲ့ခြင်း။ ရှုတ်ချခြင်း။

[اَبَّنَ] ❶ [ـ الشَّيْءَ]ခြေရာခံလိုက်သည်။ ❷ [ـ المَيِّتَ]သေသူ၏ ကောင်းကြောင်းများ

ကို ချီးမွမ်းဖွဲ့ဆိုသည်။

[تَأَبَّنَ] [ـ الْأَثَرَ]ခြေရာခံ၍လိုက်သည်။ နောက်လိုက်သည်။

[إِبَّانٌ] အချိန်အခါ၊ ကာလ။ကြည့်(ب ا)

[اَلْإِبْنُ] ကြည့်(ب ن و)

[اَلْأُبْنَةُ] ❶ အထုံးအဖွဲ့၊ အဆစ်(ဝါးအဆစ်၊ ကြိုးအဆစ်စသည်)။ ❷ အပြစ်အနာ၊ အားနည်းချက်။ ❸ မုန်းတီးမှု။ ရန်ငြိုးရန်စွယ်၊ အာဃာတ။(ج) [أُبَنٌ]

[اَلْمَأْبُونُ] တလွဲအထင်ခံရသူ။ အထင်အမြင်လွဲမှားခံရသူ။ စွပ်စွဲခံရသူ။

✿ [أَبَهَ ـ] ❶ [ـ لَهُ وَبِهِ]အလေးထားသည်။ ဂရုစိုက်သည်။ အာရုံစိုက်သည်။ တန်ဖိုးထားသည်။ ❷ [ـ فُلَانًا بِكَذَا](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍)စွပ်စွဲသည်။

[أَبْهٌ] ❶ အလေးထားခြင်း။ ဂရုစိုက်ခြင်း။ အာရုံစိုက်ခြင်း။ ❷ စွပ်စွဲခြင်း။

[أَبِهَ ـ] [ـ لَهُ وَبِهِ]အလေးထားသည်။ ဂရုစိုက်သည်။ အာရုံစိုက်သည်။ တန်ဖိုးထားသည်။

[أَبَهٌ] အလေးထားခြင်း။ ဂရုစိုက်ခြင်း။ အာရုံစိုက်ခြင်း။

[أَبَّهَ] ❶ [ـ فُلَانًا لِكَذَا](တစ်စုံတစ်ဦးအား တစ်စုံတစ်ရာကို)အလေးထားလာအောင်လုပ်သည်။ ဂရုစိုက်လာစေသည်။ အာရုံစိုက်လာအောင်လုပ်သည်။ ❷ [ـ فُلَانًا](တစ်ဦးတစ်ယောက်ကို)စွပ်စွဲသည်။

[تَأَبَّهَ] ❶ အလေးထားလာသည်။ ဂရုစိုက်မိသည်။ အာရုံစိုက်မိသည်။ ❷ [ـ عَلَيْهِ] မောက်မာသည်။ ❸ [ـ عَنْهُ]ဘဝင်မြင့်သည်။ ကိုယ်နှင့်မတန်ဟု သဘောထားသည်။ အထင်အမြင်သေး၍ ရှောင်ဖယ်သည်။

[اَلْأُبَّهَةُ] ကြီးကျယ်ခန်းနားမှု၊ ထည်ဝါမှု၊ အဆောင်အယောင်။[عَلَيْهِ أُبَّهَةُ السُّلْطَانِ]သူ့မှာ ဘုရင်တစ်ပါးရဲ့ အဆောင်အယောင် ရှိတယ်။

✿ [أَبَا ـ] ❶ ဖခင်အဖြစ်သို့ရောက်သည်။ ဖခင်ဖြစ်သွားသည်။ ❷ [ـ فُلَانًا]ဖခင်အဖြစ်ဆက်ဆံသည်။[إِنَّهُ لَيَأْبُو يَتِيمًا]သူသည် မိဘမဲ့ကလေးငယ်တစ်ဦးကို ဖခင်အရင်းပမာ ပြုစုစောင့်ရှောက်သည်။

[أُبُوَّةٌ-إِبَاوَةٌ] ❶ ဖခင်အဖြစ်သို့ရောက်ခြင်း။ ဖခင်ဖြစ်သွားခြင်း။ ❷ ဖခင်အဖြစ် ဆက်ဆံခြင်း။ [اَلْبِرُّ مَعَ الْأُبُوَّةِ وَالْعُقُوقُ مَعَ الْبُنُوَّةِ]ကောင်းစွာပေးကမ်းစောင့်ရှောက်ခြင်းသည် ဖခင်အဖြစ်နှင့်အတူရှိပြီး ပုန်ကန်ကျေးဇူးကန်းခြင်းသည် သားအဖြစ်နှင့်အတူရှိသည်။(ဖခင်တွေဟာ ကျေးဇူးပြုတတ်ကြပေမဲ့ သားတွေကတော့ ကျေးဇူးကန်းတတ်ကြတယ်။)

[أَبَّا] [ـهُ]''ကျွန်တော်၏ဖခင်ကို အသင့်အတွက်စွန့်လှူသည်''ဟုပြောသည်။

[تَأَبَّى] [ـ فُلَانًا أَبًا](တစ်ဦးတစ်ယောက်ကို)ဖခင်အရာ၌ ထားသည်။ မိမိ၏ဖခင်သဖွယ် ဆက်ဆံသည်။ ဖခင်အဖြစ် သတ်မှတ်သည်။

[اِسْتَأْبَى] [ـ فُلَانًا أَبًا](တစ်ဦးတစ်ယောက်ကို)ဖခင်အရာ၌ထားသည်။ မိမိ၏ ဖခင်သဖွယ် ဆက်ဆံသည်။ ဖခင်အဖြစ် သတ်မှတ်သည်။

[اَلْأَبُ] ❶ ဖခင်။ ❷ အဘိုး။ ❸ ဘိုးဘေး။

❺ ပိုင်ဆိုင်သူ။ ❻ တစ်စုံတစ်ရာကို စတင်တီထွင်သူ။(ဇ)[اٰبَاءٌ ـ اُبُوٌّ ـ اُبُوَّةٌ]။

﴿وَ اتَّبَعْتُ مِلَّةَ اٰبَآئِی﴾ ၄င်းပြင် ကျွန်ုပ်သည် ကျွန်ုပ်၏ဘိုးဘေးများ၏ လမ်းစဉ်ကိုသာ လိုက်နာခဲ့ပါသည်။[اَبُو الضَّيْفِ ـ اَبُو الْاَضْيَافِ] အလွန်ရက်ရောသူ။ အလွန်ဧည့်ဝတ်ကျေပွန်သူ။[اِبْنُ اَبِيْهِ]ဖခင်ခြေရာနင်းသူ။ အဖေတူသား။[لِلّٰهِ اَبُوْكَ]အလွန်တော်ပေစွ။ အလွန်ကောင်းပေစွ။(တစ်ဦးတစ်ယောက်အား ချီးမွမ်းသောအခါ ပြောဆိုသည်။)[بِاَبِی اَنْتَ] ''ကျွန်တော်၏ဖခင်ကို အသင့်အတွက် စွန့်လှူသည်''(တစ်ဦးတစ်ယောက်အား ချီးမွမ်းသောအခါ ပြောဆိုသည်။)[اَبُو النَّوْمِ]ဘိန်း။ [اَبُو الْهَوْلِ]စဖင့်။(ရှေးဟောင်းအီဂျစ်ရုပ်တုကြီးတစ်ခု၏အမည်။)[اَبُو الْيَقْظَةِ]ကြက်ဖ။

[اَلْاَبَوَانِ] ❶ ဖခင်နှင့်မိခင်။﴿وَوَرِثَهٗ اَبَوٰهُ﴾၄င်းပြင် သူ၏မိဘနှစ်ပါးသည် သူ၏အမွေကို ဆက်ခံ(ပါမူ)။ ❷ ဖခင်နှင့်အဘိုး။ ❸ ဖခင်နှင့်ဘကြီး။

[اَلْاَبَوِیُّ] ဖခင်နှင့်ဆိုင်သော။ ဖခင်အဖြစ်နှင့်ဆိုင်သော။

[اَلْاَبَوِيَّةُ] သွေးတူလူမျိုးစုများကို စုစည်းအုပ်ချုပ်မှု။ လူမျိုးစုဖခင်အဖြစ် အုပ်ချုပ်မှုစနစ်။

✿ [اَبٰی ـ] ❶ ငြင်းဆန်သည်။ ဖီဆန်သည်။ ❷ [ـ الشَّیْءَ]မုန်းတီးရွံရှာသည်။ မကျေမချမ်းဖြစ်သည်။ မကျေမနပ် ဖြစ်သည်။

﴿وَيَاْبَى اللّٰهُ اِلَّاۤ اَنْ يُّتِمَّ نُوْرَهٗ﴾အလ္လာဟ်အရှင်မြတ်သည် မိမိ၏လင်းရောင်ခြည်ကို ပြီးပြည့်စုံစေတော်မူခြင်းမှတပါး အခြားမည်သည့်တစ်စုံတစ်ရာကိုမျှ သဘောတူတော်မူမည် မဟုတ်ချေ။ ❸ အောက်ကျ နောက်ကျခံလိုစိတ်ကင်းမဲ့သည်။ စိတ်ဓါတ် အထက်တန်းကျသည်။ သေးသိမ်နိမ့်ကျသော အမှုကိစ္စများကို ရှောင်ကြဉ်သည်။

[اِبَاءٌ ـ اِبَائَةٌ] ❶ ငြင်းဆန်ခြင်း။ ဖီဆန်ခြင်း။ ❷ မုန်းတီးရွံရှာခြင်း။ မကျေမချမ်းဖြစ်ခြင်း။ မကျေမနပ် ဖြစ်ခြင်း။ ❸ အောက်ကျနောက်ကျခံလိုစိတ် ကင်းမဲ့ခြင်း။ စိတ်ဓါတ် အထက်တန်းကျခြင်း။ သေးသိမ်နိမ့်ကျသော အမှုကိစ္စများကို ရှောင်ကြဉ်ခြင်း။

[اٰبٍ] အောက်ကျနောက်ကျခံလိုစိတ် ကင်းမဲ့သော(သူ)။ စိတ်ဓါတ် အထက်တန်းကျသော(သူ)။ သေးသိမ်နိမ့်ကျသော အမှုကိစ္စများကို ရှောင်ကြဉ်သော(သူ)။ (ဇ)[اُبَاةٌ]။

[اَبِیٌّ ـ اَبَاءٌ] အောက်ကျနောက်ကျခံလိုစိတ် ကင်းမဲ့သော(သူ)။ စိတ်ဓါတ် အထက်တန်းကျသော(သူ)။ သေးသိမ်နိမ့်ကျသော အမှုကိစ္စများကို ရှောင်ကြဉ်သော(သူ)။ (မ)[اَبِيَّةٌ]။ [نَفْسٌ اَبِيَّةٌ]အောက်ကျနောက်ကျခံယူလိုခြင်း မရှိသော စိတ်ဓါတ်။

[اَبَيْتَ] [اَبَيْتَ اللَّعْنَ]အမိုက်ခေတ်ရှိအရပ်တို့က မိမိတို့၏ဘုရင်အား ချီးမွမ်းရသောစကား)။ ''အရှင်ဘုရင်မင်းမြတ်သည် မိမိနှင့် မအပ်စပ်မထိုက်တန်သော ဆိုးရွားအောက်ကျသော ရွံရှာဖွယ်အမှုကိစ္စများကို လက်ခံတော်မူခြင်းမရှိပါ''ဟူ၍ အဓိပ္ပါယ်ရသည်။

[اَبٰی ـ] [ـ الْغِذَاءَ]အစားအစာကို ရွံရှာသဖြင့် လက်နှင့်မထိပဲနေသည်။

[اَبِی] အစားအစာကို ရွံရှာသဖြင့် လက်နှင့်မထိပဲနေခြင်း။

[اَبِيَانٌ] အစားအစာကို ရွံရှာသဖြင့် လက်နှင့်မထိပဲနေသော(သူ)။

[اَبِی] ငြင်းဆန်စေသည်။ ဖီဆန်စေသည်။

[اِبَاءٌ] ငြင်းဆန်စေခြင်း။ ဖီဆန်စေခြင်း။

[تَابّی] [ـ عَلَيْهِ]ငြင်းဆန်သည်။ သွေဖည်၊ ဖီဆန်သည်။

[اَلْاُبَاءُ] အစားအသောက်ပျက်စေသည့် ရောဂါ။

[اَلْاَبِيَّةُ] နို့အုံ၌ နို့စုနေခြင်း။ နို့ကို ထိန်းချုပ်ထားခြင်း။

[اَلْمَابَاةُ] မည်သူမျှ လိုလားနှစ်သက်ခြင်းမရှိသော အစားအစာ။(ج)[مَابٍ]

✿[اَلْاَبِيقُوْرِی]အဘီကူရိဝါဒကို ယုံကြည်လက်ခံသူ။ ရောမအတွေးအခေါ်ပညာရှင် အဘီကူရုံ၏နောက်လိုက်။(လူ့ဘဝ၌ ခံစားနိုင်သမျှသုခချမ်းသာ၊ အရသာဟူသမျှကို ခံ စားခြင်းသည်ပင် လူ့ဘဝပန်းတိုင်ဖြစ်သည် ဟူသောဝါဒကို အဘီကူရိဝါဒ ဟုခေါ်သည်။

✿ [اَتَبَ] [الْفَتَاةَ ـ](မိန်းမပျိုကို)ခြေသလုံးပေါ်အဝတ်ကို ဝတ်ဆင်စေသည်။

[تَاَتَّبَ] ❶ [الْمَرْاَةُ الْاِتْبَ اَوْ بِالْاِتْبِ ـ]ခြေသလုံးပေါ်အဝတ်ကို ဝတ်သည်။ ❷ [الْقَوْسَ ـ] (လေးကိုင်းကို)ချိတ်ဆွဲထားသည်။

[اَلْاِتْبُ] ❶ ခြေသလုံးပေါ်အဝတ်။ ❷ အမျိုးသမီးဝတ် လက်မပါသော ရှေ့ကွဲအင်္ကျီ။

{اَلْمُؤَتَّبُ} [اَلْمُؤَتَّبُ الظَّهْرِ]ကောက်သော(ကျော)။ ကွေးသောသော(ကျော)။ ကိုင်းညွတ်သော(ကျော)။

✿ [اَتَّ ـ] ❶ [ـ رَاْسَهُ](သူ့ဦးခေါင်းကို)ကွဲစေသည်။ ❷ [ـ خَصْمَهُ بِالْحُجَّةِ](မိမိ၏အတိုက်အခံကို နိုင်လုံသော အထောက်အထားဖြင့်)အပြီးသတ်အနိုင်ယူသည်။

✿ [اَلْاِتَادُ] နို့ညှစ်ရန် တိရစ္ဆာန်၏ခြေနှစ်ချောင်းကို ချည်သောကြိုး။ (ج)[اُتُدٌ]။

✿ [اَلْاُتْرُجُّ] ရှောက်သီး။

✿ [اَتَلَ ـ] ❶ ခြေလှမ်းစိပ်စိပ်လှမ်းသည်။ ❷ လေးလံစွာလျှောက်သည်။ ❸ [ـ مِنَ الطَّعَامِ] (အစားအစာ စားထားသဖြင့်)ဗိုက်ပြည့်သည်။

[اَتَلٌ۔اُتُوْلٌ] ❶ ခြေလှမ်းစိပ်စိပ်လှမ်းခြင်း။ ❷ လေးလံစွာလျှောက်ခြင်း။ ❸ (အစားအစာ စားထားသဖြင့်)ဗိုက်ပြည့်ခြင်း။

✿ [اَتَمَ ـ] ❶ [ـ فُلَانٌ بِالْمَكَانِ]နေထိုင်သည်။ တည်တန့်နေသည်။ အတည်တကျနေထိုင်သည်။ ❷ [ـ السِّقَاءُ]သားရေအိပ်ချုပ်ထားသောနေရာ ကွဲသွားသည်။

[اَتْمٌ] ❶ နေထိုင်ခြင်း။ တည်တန့်နေခြင်း။ အတည်တကျနေထိုင်ခြင်း။ ❷ သားရေအိပ်ချုပ်ထားသောနေရာ ကွဲသွားခြင်း။

[اَتِمَ ـ] [ـ فِی سَيْرِهِ](လမ်းလျှောက်ရာ၌)ဖင့်လေးသည်။ နှေးကွေးသည်။

[اَتَمٌ] (လမ်းလျှောက်ရာ၌)နှေးကွေးခြင်း။

[اَتِمٌ] နှေးကွေးသော(သူ)။

[اَلْاُتُمُ] တောင်ပေါ်သံလွင်ပင်။

[اَلْمَاْتَمُ] ❶ အသုဘအခမ်းအနား။ ❷ လူစုလူဝေး။(ج)[مَاتِمُ]

✿ [اَتَنَ ـ] ❶ [ـ بِالْمَكَانِ]တည်နေသည်။ နေ

ထိုင်သည်။ ❷ [فُلاَنٌ ـ]ဒေါသဖြင့် လမ်းလျှောက်သည်။ ခြေသံပြင်းစွာလမ်းလျှောက်သည်။

[اَتْنٌ ـ اُتُوْنٌ] တည်နေခြင်း။ နေထိုင်ခြင်း။

[اَتَنَانٌ] ဒေါသဖြင့်လမ်းလျှောက်ခြင်း။ ခြေသံပြင်းစွာလမ်းလျှောက်ခြင်း။

[اَتَنَ] [ـ الْمَرْ اَةُ](မိန်းမ)ကလေးမွေးဖွားရာ၌ ခေါင်းနှင့်ကိုယ်မထွက်မီ ခြေနှစ်ဖက် အရင်ထွက်သောကလေးကို ဖွားမြင်သည်။

[اِسْتَاتَنَ] မြည်းမကဲ့သို့ ပြုမူနေထိုင်သည်။

[اَلْاَتَانُ] မြည်းမ။(ج)[اُتُنٌ ـ اُتْنٌ]။

[اَلْاَتُوْنُ ـ اَلْاَتُّوْنُ]မီးဖိုအကြီးစား။

✿ [اَتَا ـ] ❶ [ـ الشَّجَرُ ](သစ်ပင်)အသီးဖြစ်ထွန်းသည်။ ❷ [ـ الْمَاشِيَةُ](တိရစ္ဆာန်)တိုးပွားသည်။ ❸ [ـ الْحَيَوَانُ]မြန်မြန်နှင့်မှန်မှန် ပြေးသည်။ ဖြောင့်တန်းစွာပြေးသွားသည်။ ❹ [ـ فُلاَنًا]လာဘ်ထိုးသည်။ တံစိုးလက်ဆောင်ပေးသည်။

[اَتْوٌ] မြန်မြန်နှင့်မှန်မှန်ပြေးခြင်း။ ဖြောင့်တန်းစွာပြေးသွားခြင်း။

[اَتْوٌ ـ اِتَاءٌ ـ اَتَاءٌ]❶ (သစ်ပင်)အသီး ဖြစ်ထွန်းခြင်း။ ❷ (တိရစ္ဆာန်)တိုးပွားခြင်း။

[اَتْوٌ ـ اِتَاوَةٌ] လာဘ်ထိုးခြင်း။ တံစိုးလက်ဆောင်ပေးခြင်း။

[اَتَى] [ـ الشَّجَرُ ](သစ်ပင်)အသီးဖြစ်ထွန်းသည်။ သီးနှံတိုးပွားသည်။

[اِيْتَاءٌ] (သစ်ပင်)အသီးဖြစ်ထွန်းခြင်း။ သီးနှံတိုးပွားခြင်း။

[اَلْاِتَاءُ] ❶ အိမ်သို့မဟုတ်မြေကို ငှားရမ်း၍ရသောဝင်ငွေ။ အိမ်ငှားခ။ မြေငှားခ။ ❷ မလိုင်။ ❸ ထောပတ်။[لَبَنٌ ذُوْ اِتَاءٍ]မလိုင်အပြည့်ပါသောနို့။

[اَلْاِتَاوَةُ] ❶ အခွန်အတုတ်(မြေခွန်၊ ရေခွန် စသည်)။ ❷ တံစိုးလက်ဆောင်။ ❸ သိမ်းရပစ္စည်း။(ج)[اَتَاوَى]။

[اَلْاَتْوُ] ❶ ပေးကမ်းချီးမြှင့်မှု။ ❷ နည်းစနစ်။ ❸ လမ်းစဉ်။

✿ [اَتَى ـ] ❶ လာသည်။ ❷ ရောက်ရှိလာသည်။ ❸ နီးကပ်သည်။ အနားကပ်လာသည်။ ❹ [ـ عَلَيْهِ كَذَا]ဖြတ်ကျော်သည်။ ဖြတ်သန်းသွားသည်။ ❺ [اَتَى عَلَيْهِ]ဥစ္စာပစ္စည်း၊ စားနပ်ရိက္ခာပျက်စီးဆုံးရှုံးသည်။ ကုန်ဆုံးစေသည်။ ပြီးဆုံးစေသည်။ ❻ [ـ عَلَيْهِ الدَّهْرُ] (အချိန်ကာလက သူ့ကို)တရွေ့ရွေ့ပျက်စီးစေသည်။ အိုမင်းရင့်ရော်စေသည်။ ❼ [ـ الْاَمْرَ] ဆောင်ရွက်သည်။ ပြုမူကျင့်ကြံသည်။ ❽ [ـ الْمَرْ اَةَ]ကာမစပ်ယှက်သည်။ သံဝါသပြုသည်။ ❾ [ـ بِهِ]ယူဆောင်လာသည်။ ❿ [ـ الْقَوْمَ]လူမျိုးတစ်မျိုးအဖြစ်ခံယူသည်။ လူမျိုးအုပ်စုတစ်ခုတွင် မပါဝင်ဘဲ မိမိကိုယ်ကို ယင်းလူမျိုးမှဖြစ်သည်ဟုပြောသည်။

[اُتِيَ] ❶ [ـ الْجَيْشُ](စစ်တပ်)ရှောင်တခင် တိုက်ခိုက်ခံရသည်။ ❷ [ـ فُلاَنٌ]တွေဝေသည်။ ကြံရာမရဖြစ်သည်။

[اَتْيٌ ـ اِتْيَانٌ ـ مَاْتَى ـ مَاْتَاةٌ]ရောက်ရှိခြင်း။ ရောက်လာခြင်း။

[اَتِيٌّ] ရောက်ရှိလာသော(သူ၊ အရာ)။

[مَاْتِيٌّ] ရောက်ရှိလာသော(သူ၊ အရာ)။

[وَعۡدُ اللهِ مَاۡتِیًّ] အလ္လာဟ်အရှင်မြတ်၏ကတိတော်သည် ရောက်ရှိလာမည့်အရာဖြစ်သည်။

[اَتٰی] ❶ ယူဆောင်လာသည်။ ပေးကမ်းသည်။ ချီးမြှင့်သည်။ ﴿قَالَ لِفَتٰهُ اٰتِنَا غَدَآءَنَا﴾ "သူက မိမိ၏လူရွယ်အား'အသင်သည် ငါတို့၏ရိက္ခာကို ယူဆောင်ခဲ့လော့'ဟုပြောခဲ့လေသည်"။ ﴿وَاٰتَی الۡمَالَ عَلٰی حُبِّهٖ ذَوِی الۡقُرۡبٰی﴾ "သူသည် ဥစ္စာပစ္စည်းကို စုံမက်နှစ်သက်ပါလျက်နှင့်ပင် ဆွေမျိုးနီးစပ်သူတို့အား ပေးကမ်းလှူဒါန်းခဲ့သည်။" [اٰتَی الزَّکٰوةَ] ဇကာတ်ဒါနကြေးပေးဆောင်သည်။ ❷ [ـــ فُلَانًا] ကြုံကြိုက်သည်။ အသင့်တွေ့ရသည်။ ❸ အစားပေးသည်။ ဆုပေး၊ ဒဏ်ပေးသည်။

[اَتّٰی] ❶ [ـــ الشَّیۡءَ] အသင့်ပြင်ဆင်သည်။ လွယ်ကူချောမွေ့စေသည်။ ❷ [ـــ الۡمَآءَ] ရေလာမြောင်းပေးပြုလုပ်သည်။ ရေစီးရန် လမ်းကြောင်းပြုလုပ်ပေးသည်။

[اَتٰی] [ـــ اِلَیۡهِ الۡاَمۡرُ] ထင်မြင်သည်။ ယူဆရသည်။

[تَاَتّٰی] ❶ [ـــ لِلۡاَمۡرِ] (တစ်စုံတစ်ရာ အမှုကိစ္စကို)ညှင်သာစွာကိုင်တွယ်ဖြေရှင်းသည်။ နူးညံ့သိမ်မွေ့စွာ ကိုင်တွယ်ဆောင်ရွက်သည်။ ❷ [ـــ لَهٗ بِسَهۡمٍ] (မြားဖြင့်)တည့်တည့်ချိန်သည်။ ထိမှန်အောင် ချိန်ရွယ်သည်။

[اِسۡتَاۡتٰی] လာရောက်ရန် မေတ္တာရပ်ခံသည်။ ဆင့်ခေါ်သည်။

[اَلۡاٰتِیَةُ] [اٰتِیَةُ الۡجُرۡحِ] အနာမှထွက်သောသွေးပုပ်၊ ပြည်သည်။

[اَلۡاِتَآءُ] ရေစီး၌ မျှောပါလာသောသစ်၊ သစ်ရွက်စသည်။

[اَلۡاَتِیُّ] ❶ အမှုကိစ္စများ၌ ကျွမ်းကျင်လိမ္မာသူ။ အမှုကိစ္စများကို ပြီးစီးအောင်ဆောင်ရွက်သူ။ ❷ မည်သူမည်ဝါမှန်း မသိရသော လူစိမ်း။ ❸ မည်သည့်နေရာမှ ထွက်လာမှန်းမသိရသော ရေစီးကြောင်း။

[اَلۡمَاۡتٰی] ❶ မူလနေရာ။ ❷ စတင်ထွက်ပေါ်ရာနေရာ။ ❸ ဆိုက်ရောက်သည့်နေရာ။ (ج) [مَاٰتٍ]။

[اٰتٍ - اٰتِی] ရောက်ရှိလာသူ။ [اَلۡاُسۡبُوۡعُ الۡاٰتِی] လာမည့်အပတ်။ နောက်တစ်ပတ်။ [کَالۡاٰتِی] အောက်ပါအတိုင်း။

[مِیۡتَآءٌ - مِیۡتَآءٌ] သင့်တင့်လျှောက်ပတ်သော(အရာ)။ အံဝင်ခွင်ကျဖြစ်သော(အရာ)။ အနေတော်ဖြစ်သော(အရာ)။

[اَلۡمِیۡتَآءُ] ပန်းတိုင်။ ဦးတည်ချက်။

[اَلۡاَتَابُ] ညောင်မှတ်ဆိတ်ပင်။

✿ [اَثَّ - ] ❶ ပေါများသည်။ ကြီးကျယ်များပြားသည်။ ❷ [ـــ النَّبَاتُ] အပင်ထူထပ်သိပ်သည်းစွာ ပေါက်ရောက်သည်။ [ـــ الشَّعۡرُ] ဆံပင်ထူသည်။ ဆံပင်ထူပွရှုတ်ထွေးသည်။

[اَثَّ - اَثَاثَةً - اُثُوۡثٌ - اَثَاثٌ] ❶ ပေါများခြင်း။ ကြီးကျယ်များပြားခြင်း။ ❷ (အပင်)ထူထပ်သိပ်သည်းစွာ ပေါက်ရောက်ခြင်း။ (ဆံပင်)ထူခြင်း။ ဆံပင်ထူပွရှုတ်ထွေးခြင်း။

[اَثٌّ - اَثِیۡثٌ] ပေါများသော(အရာ)၊ ကြီးကျယ်များပြားသော(သူ၊ အရာ)။ (ج) [اِثَاثٌ]

[اَثَّثَ] ❶ [ـــ الۡفِرَاشَ] (အိပ်ယာကို)ဖြန့်ခင်း

သည်။ ❹ ခင်းကျင်းသည်။ [البَيْتَ ـــ](အိမ်ကို)ပရိဘောဂပစ္စည်းများ ခင်းကျင်းထားသည်။

[تَأَثَّثَ] ❶ ချမ်းသာသုခခံစားရသည်။ မင်္ဂလာရှိသည်။ ❷ [البَيْتُ ـــ](အိမ်၌)ပရိဘောဂပစ္စည်းများ ခင်းကျင်းထားသည်။

[أَثَاثٌ] အိမ်ထောင်ပစ္စည်း။ ပရိဘောဂပစ္စည်း။ (ج)[أُثُثٌ]

✿ [أَثَرَ ـ] ❶ [ه ـــ]နောက်ယောင်ခံလိုက်သည်။ ခြေရာခံလိုက်သည်။ ❷ [الحَدِيثَ ـــ] ဆင့်ပြန်ပြောဆိုသည်။ ကြားနာရသည်ကို တဆင့်ပြန်လည်ပြောပြသည်။ ❸ [السَّيْفَ ـــ] မိမိပိုင်ပစ္စည်းအဖြစ်(ဓါးသို့မဟုတ်အရာဝတ္ထုတစ်စုံတစ်ရာကို)အမှတ်အသားပြုလုပ်သည်။ ❹ [فُلَانٌ أَنْ يَفْعَلَ كَذَا ـــ](တစ်စုံတစ်ရာပြုလုပ်ရန်)ရွေးချယ်သည်။ ဦးစားပေးပြုလုပ်သည်။

[أَثْرٌ-أَثَارَةٌ-أُثْرَةٌ] ❶ [ه ـــ]နောက်ယောင်ခံလိုက်ခြင်း။ ခြေရာခံလိုက်ခြင်း။ ❷ ဆင့်ပြန်ပြောဆိုခြင်း။ ကြားနာရသည်ကို တဆင့်ပြန်လည်ပြောပြခြင်း။ ❸ မိမိပိုင်ပစ္စည်းအဖြစ်(ဓါးသို့မဟုတ်အရာဝတ္ထု တစ်စုံတစ်ရာကို)အမှတ်အသားပြုလုပ်ခြင်း။ ❹ (တစ်စုံတစ်ရာပြုလုပ်ရန်)ရွေးချယ်ခြင်း။ ဦးစားပေးပြုလုပ်ခြင်း။

[أَثِرَ ـَ] ❶ မိမိကိုယ်ကို ဦးစားပေးသည်။ အတ္တဆန်သည်။ တစ်ကိုယ်ကောင်းဆန်သည်။ ❷ [أَنْ يَفْعَلَ كَذَا ـــ](တစ်စုံတစ်ရာကို)ဦးစားပေးရွေးချယ်လုပ်ကိုင်သည်။ ❸ [عَلَى الأَمْرِ ـــ] (အမှုကိစ္စတစ်စုံတစ်ရာကို)ဆုံးဖြတ်သည်။ စိတ်ပြဋ္ဌာန်းသည်။ ❹ [لَهُ ـــ]ရှင်းလင်းထားသည်။ ဗလာကျင်းထားသည်။ ❺ [بِهِ ـــ] ကျွမ်းကျင်လိမ္မာသည်။ အတွေ့အကြုံ ရင့်ကျက်သည်။

[أَثْر-أَثَرَة-أُثْرَة-أُثْرَى] ❶ မိမိကိုယ်ကို ဦးစားပေးခြင်း။ အတ္တဆန်ခြင်း။ တစ်ကိုယ်ကောင်းဆန်ခြင်း။ ❷ (တစ်စုံတစ်ရာကို)ဦးစားပေးရွေးချယ်လုပ်ကိုင်ခြင်း။ ❸ (တစ်စုံတစ်ရာ အမှုကိစ္စကို)ဆုံးဖြတ်ခြင်း။ စိတ်ပြဋ္ဌာန်းခြင်း။ ❹ ရှင်းလင်းထားခြင်း။ ဗလာကျင်းထားခြင်း။ ❺ ကျွမ်းကျင်လိမ္မာခြင်း။ အတွေ့အကြုံ ရင့်ကျက်ခြင်း။

[آثَرَ] ❶ [ه ـــ]ဦးစားပေးရွေးချယ်သည်။ အသားပေးသည်။[آثَرَهُ عَلَى نَفْسِهِ](သူ့ကို မိမိကိုယ်ထက်)ဦးစားပေးသည်။ မိမိကိုယ်တိုင် အနစ်နာခံ၍ သူ့ကို ဦးစားပေးသည်။ ❷ [الشَّيْءَ بِالشَّيْءِ ـــ](တစ်စုံတစ်ရာကို တစ်စုံတစ်ရာအတွက်)သီးခြားရွေးချယ်သတ်မှတ်သည်။ ❸ ခြေရာခံလိုက်စေသည်။ မိမိနောက်သို့ ထပ်ကြပ်မခွါလိုက်စေသည်။

[أَثَّرَ] [فِيهِ ـــ]ခြေရာထားရစ်သည်။ အမှတ်လက္ခဏာထားရစ်သည်။

[اِئْتَثَرَ] ခြေရာခံမိအောင် တဖြည်းဖြည်းချင်း စူးစမ်းရှာဖွေသည်။

[تَأَثَّرَ] ❶ အမှတ်အသား ထင်ရှားပေါ်လွင်သည်။ ခြေရာ၊ လက်ရာ ပေါ်လွင်သည်။ ❷ တံဆိပ်ထင်ရှားသည်။ တံဆိပ်ရိုက်သည်။ ❸ ခြေရာခံမိအောင် တဖြည်းဖြည်းချင်း စူးစမ်းရှာဖွေသည်။

[اِسْتَأْثَرَ] ❶ မိမိအတွက် သီးသန့်သတ်မှတ်

သည်။ မိမိအတွက် အထူးစီမံသည်။ ❷ အသက်နှုတ်သိမ်းသည်။ [اِسْتَاْثَرَ اللهُ بِهِ] အလ္လာဟ်အရှင်မြတ်က သူ့ကို အသက်နှုတ်သိမ်းတော်မူသည်။

[اَلْاٰثَارُ] ရှေးဟောင်းပစ္စည်းများ။ ရှေးဟောင်းအမှတ်အသား လက္ခဏာများ။ [عِلْمُ الْاٰثَارِ] ရှေးဟောင်းသုတေသန ပညာရပ်။

[اَلْاِثَارُ] ❶ သစ်သီးဝလံများအား ထိခိုက်မှုမရှိစေရန် ကာကွယ်ထားသော အဝတ်၊ ကောက်ရိုးစသည်။ ❷ နို့အုံတွဲကျခြင်း၊ လှုပ်ရမ်းခြင်းကို ထိန်းရန် ဝတ်ဆင်ရသော အဝတ်။ ဘော်ဒီအင်္ကျီ။(ဇ) [اُثُرٌ]

[اَلْاَثَارَةُ] ❶ အမှတ်သညာ။ လက္ခဏာ။ ❷ ကျန်ရစ်သောအရာ။

﴿اِئْتُوْنِيْ بِكِتَابٍ مِّنْ قَبْلِ هٰذَا اَوْ اَثَارَةٍ مِّنْ عِلْمٍ﴾ အသင်တို့သည် ယင်းကျမ်းဂန်အလျှင် ကျရောက်ခဲ့သော ကျမ်းဂန်တစ်စုံတစ်ရာကို သော်လည်းကောင်း၊ သို့တည်းမဟုတ် ရှေးအစဉ်အဆက် ကျန်ရှိခဲ့သော အသိပညာတစ်စုံတစ်ရာကိုသော်လည်းကောင်း ယူဆောင်၍လာကြကုန်။

[اَلْاَثَرُ۔اَلْاِثْرُ] ❶ ဓါးရောင်လင်းလက်မှု။ ဓါး၌ စီခြယ်ထားသော အဖိုးတန်ကျောက်မျက်။ ❷ မျက်နှာပေါ်၌ ကျန်ရစ်သောရေ။ မျက်နှာတောက်ပဝင်းလက်မှု။ ❸ ခြေရာ။ ဖနောင့်ရာ။

[اَلْاُثْرُ۔اَلْاُثُرُ] ❶ ဓါးရောင်လင်းလက်မှု။ ❷ အမာရွတ်။ အနာရွတ်။

[اَلْاَثَرُ] ❶ အမှတ်အသား။ ❷ သင်္ကေတ။ လက္ခဏာ။ ❸ ကျန်ရစ်ခဲ့သောအစိတ်အပိုင်း။ ❹ ရှေးလူကြီးသူမတို့၏စကား။ ဆိုရိုးစကား။ ❺ ရှေးဟောင်းလက်ရာခြေရာ၊ အမှတ်အသား။ ❻ တမန်တော်မြတ်မုဟမ္မဒ်(ﷺ)၏ အဆုံးအမ ဩဝါဒတော်။(ဇ) [اٰثَار۔اُثُوْر]။

[دَارُ الْاٰثَارِ] ရှေးဟောင်းပြတိုက်။

[اَلْاَثَرُ الرَّجْعِيُّ] ဥပဒေအဟောင်းကို ပြန်လည်အတည်ပြုပြဋ္ဌာန်းခြင်း။

[اَلْاَثِرُ] အတ္တကြီးသူ။ တစ်ကိုယ်ကောင်းဆန်သူ။

[اَلْاَثَرَةُ] ❶ အခြေအနေ။ ❷ အဆင့်အတန်း။ ❸ အတ္တကြီးခြင်း။ တစ်ကိုယ်ကောင်းဆန်ခြင်း။ ﴿سَتَرَوْنَ بَعْدِيْ اَثَرَةً﴾ ငါမရှိပြီးနောက် အသင်တို့သည် အတ္တကြီးခြင်းကို တွေ့မြင်ကြရမည်။(အကောင်းစားများကို မိမိတို့အတွက် သီးခြားရွေးချယ်အသုံးပြုသော ခေါင်းဆောင်များကို တွေ့မြင်ကြရမည်)။

[اَثَرَةُ الْعِلْمِ] ပညာအကျွင်းအကျန်။

[اَلْاُثْرَةُ] ❶ မြေပြင်ရှိအမှတ်အသား၊ ခြေရာ။ ❷ ဒါးခုတ်ရာ။ ဒါးချက်။ ❸ သားစဉ်မြေးဆက် အမွေဆက်ခံကျင့်သုံးသည့် ကောင်းသောလုပ်ရပ်။ ❹ [هُوَ ذُوْ اُثْرَةٍ عِنْدِيْ] သူဟာငါ့ထံမှာ အထူးမိတ်ဆွေဖြစ်တယ်။

[اَلْاَثْرٰى] ❶ ရှေးဟောင်းပစ္စည်း။ ❷ ရှေးဟောင်းသုတေသီ။

[اَلْاَثِيْرُ] ❶ ဓါးရောင် လင်းလက်တောက်ပမှု။ ❷ ဦးစားပေးခံရသူ။ ❸ အီသာ(အာကာသလေဟာပြင်)။ ❹ အငွေ့ပြန်၍ အရောင်မဲ့သော အဆီကိုပျော်စေသည့် ဓာတုပစ္စည်း

တစ်မျိုး။

[اَلْإِيثَارُ] မိမိအရေးထက် အခြားသူ၏အရေးကို ဦးစားပေးမှု။

[اَلْإِيثَارِيَّة] အတ္တကိုပယ်သည့်ဝါဒ။ ကိုယ်ကျိုးစွန့်ဝါဒ။

[اَلتَّأْثُرِيَّة] မြင်တွေ့ရသည့်အတိုင်း စိတ်ခံစားမှုကို ဦးစားပေးတင်ပြသည့် အနုပညာဝါဒ။

[اَلْمَأْثَرَة] သားစဉ်မြေးဆက် အမွေဆက်ခံသည့် ကောင်းသောလုပ်ရပ်။(ج)[مَآثِرُ]။

[اَلْمِئْثَرَة] ❶ အထူးအမှတ်အသားအဖြစ် ကျန်ရစ်စေသောကိရိယာ။ ❷ တံဆိပ်တုံး။ ❸ အထိမ်းအမှတ်ကျောက်တိုင်။

[اَلْمَأْثُورُ] ❶ တမန်တော်မြတ် မုဟမ္မဒ်(ﷺ)ထံမှ ဆင့်ပြန်ထားသော ဩဝါဒတော်များ။ ❷ စကားပုံ။ ❸ ဆိုရိုးစကား။ ❹ သားစဉ်မြေးဆက် အမွေဆက်ခံသောအရာ။

✿ [أَثَفَ ـِ] ❶ တည်ရှိသည်။ အခိုင်အမာတည်သည်။ အတည်တကျနေထိုင်သည်။ ❷ [فُلَانًا __]နောက်လိုက်သည်။ ❸ ရှာဖွေသည်။

[أَثْفٌ] ❶ တည်ရှိခြင်း။ အခိုင်အမာတည်ခြင်း။ အတည်တကျနေထိုင်ခြင်း။ ❷ နောက်လိုက်ခြင်း။ ❸ ရှာဖွေခြင်း။

[أَثَفَ] [__الْقِدْرَ](အိုးကို)ဖိုခနောက်ပေါ်တင်သည်။

[إِيثَافٌ] အိုးကို ဖိုခနောက်ပေါ်တင်ခြင်း။

[أَثَّفَ] [__الْقِدْرَ](အိုးကို)ဖိုခနောက်ပေါ်တင်သည်။

[تَأَثَّفَ] ❶ [__الْقِدْرَ](အိုး)ဖိုခနောက်ပေါ်၌ တည်ရှိသည်။ အိုးတည်ထားသည်။ ❷ [__الْقَوْمُ عَلَى الْأَمْرِ](အမှုကိစ္စတစ်ခုအပေါ်)အချင်းချင်း ရိုင်းပင်းကူညီကြသည်။ ❸ [__الْمَكَانَ أَوْ بِالْمَكَانِ]နေရာယူထားသည်။ အခိုင်အမာတပ်စွဲထားသည်။

[اَلْأُثْفِيَّةُ] သုံးချောင်းထောက်၊ သုံးပွင့်ဆိုင်ဖိုခနောက်။ (မီးဖိုအဖြစ် သုံးပွင့်ဆိုင်ထားသော ကျောက်တုံးသုံးတုံး အနက်တစ်တုံး) (ج)[أَثَافِيُّ-أَثَافٍ]။[ثَالِثَةُ الْأَثَافِيِّ]မီးဖိုအဖြစ် သုံးပွင့်ဆိုင်ထားသော ကျောက်တုံးသုံးတုံး အနက်တစ်တုံး။

✿ [أَثَلَ ـِ] ❶ ကြံ့ခိုင်တည်မြဲသည်။ တောင့်တင်းခိုင်မာသည်။ ❷ အမြစ်တွယ်သည်။ ❸ ကြာရှည်စွာရပ်တည်သည်။

[أُثُولٌ] ❶ ကြံ့ခိုင်တည်မြဲခြင်း။ တောင့်တင်းခိုင်မာခြင်း။ ❷ အမြစ်တွယ်ခြင်း။ ❸ ကြာရှည်စွာရပ်တည်ခြင်း။

[أَثُلَ ـُ] ❶ ကြံ့ခိုင်တည်မြဲသည်။ တောင့်တင်းခိုင်မာသည်။ ❷ အမြစ်တွယ်သည်။ ❸ ကြာရှည်စွာရပ်တည်သည်။

[أَثَالَةٌ] ❶ ကြံ့ခိုင်တည်မြဲခြင်း။ တောင့်တင်းခိုင်မာခြင်း။ ❷ အမြစ်တွယ်ခြင်း။ ❸ ကြာရှည်စွာရပ်တည်ခြင်း။

[أَثِيلٌ] ❶ ကြံ့ခိုင်တည်မြဲသော(သူ)။ တောင့်တင်းခိုင်မာသော(သူ)။ ❷ အမြစ်တွယ်သော(အရာ)။ ❸ ကြာရှည်စွာရပ်တည်သော(အရာ)။

[أَثَّلَ] ❶ ဥစ္စာပစ္စည်းပေါကြွယ်ဝသည်။ ❷ ကြံ့ခိုင်တည်မြဲစေသည်။ တောင့်တင်းခိုင်မာ

စေသည်။ ကြာရှည်စွာ ရပ်တည်စေသည်။ ❸ [ـ مَالًا](ဥစ္စာပစ္စည်းကို)စုဆောင်းသည်။ တိုးပွားလာအောင်လုပ်သည်။ ❹ [ـ أَهْلَهُ] (မိမိ၏မိသားစုကို)ဂုဏ်ရှိစေသည်။ မိမိ၏မိသားစုစားဝတ်နေရေးကို အပြည့်အဝဖြည့်ဆည်းပေးသည်။

[تَأَثَّلَ] ❶ ကြံ့ခိုင်မြဲမြံသည်။ အခိုင်အမာ ရပ်တည်သည်။ ❷ စုရုံးသည်။ ❸ ကြီးကျယ် မြင့်မြတ်သည်။ ❹ ဥစ္စာပစ္စည်း တိုးပွားလာအောင်စုဆောင်းသည်။

[أَلْأَثَالُ] ❶ ဥစ္စာပစ္စည်း။ ❷ ဂုဏ်သိက္ခာမြင့်မြတ်မှု။

[أَلْأَثْلُ] tamarisk

[أَلْأَثْلَةُ] ❶ အရင်းအမြစ်။ ❷ အရင်းခံ။ ❸ အရင်းအနှီး။ ❹ စုဆောင်းထားသောရိက္ခာ၊ ပစ္စည်း။ ❺ အိမ်သုံးပစ္စည်း။ ❻ အသင့်ပြင်ဆင်ထားခြင်း။ (ဇ) [إِثَالٌ]။

[أَلْأَثِيلُ] ❶ ကာဘွန်အက်တမ်နှစ်ခုနှင့် ဟိုက်ဒရိုဂျင်အက်တမ်ငါးခု ပေါင်းစပ်ထားသော မော်လီကျူး။ ❷ နက်ရှိုင်းစွာ အမြစ်တွယ်သော။ ❸ မျိုးရိုးမြင့်မြတ်သူ။

✿ [أَثِمَ ـ] ပြစ်မှုကျူးလွန်သည်။ မကောင်းမှု ဒုစရိုက်ကို ပြုမူကျင့်ကြံသည်။

[أَثْمٌ-إِثْمٌ-أَثَامٌ-مَأْثَمٌ]အပြစ်ကြူးလွန်ခြင်း။ မကောင်းမှုဒုစရိုက်ပြုမူကျင့်ကြံခြင်း။

[آثِمٌ-أَثِمٌ-أَثِيمٌ-أَثَّامٌ-أَثُومٌ]အပြစ်ကြူးလွန်သော(သူ)။ မကောင်းမှုဒုစရိုက်ပြုမူကျင့်ကြံသော(သူ)။

[أَثَّمَ] ပြစ်မှုကျူးလွန်စေသည်။ မကောင်းမှုဒုစရိုက်ကို ပြုမူကျင့်ကြံစေသည်။

[إِيثَامٌ] အပြစ်ကြူးလွန်စေခြင်း။

[أَثَّمَ] အပြစ်ကြူးလွန်သည်ဟု မှတ်ယူသည်။ မကောင်းမှုဒုစရိုက် ပြုမူကျင့်ကြံသည်ဟု စွပ်စွဲသည်။

[تَأَثَّمَ] ❶ အပြစ်ရှောင်ကြဉ်သည်။ ❷ နောင်တရသည်။ သံဝေဂရသည်။ အပြစ်မှ လွတ်ငြိမ်းခွင့်တောင်းသည်။

[أَلْأَثَامُ] ❶ အပြစ်။ ပြစ်မှု။ မကောင်းမှု။ ❷ ပြစ်ဒဏ်၊ မကောင်းမှု၏ဆိုးကျိုး။ ﴿وَمَنْ يَفْعَلْ ذٰلِكَ يَلْقَ أَثَامًا﴾၎င်းပြင် မည်သူမဆို ယင်းအမှုကို ကျူးလွန်လျှင် ထိုသူသည် မကောင်းမှု၏ဆိုးကျိုးကို တွေ့ကြုံရမည်။

[أَلْإِثْمُ] အပြစ်၊ ပြစ်မှု၊ မကောင်းမှု။ (ဇ) [أَثَامٌ]။

✿ [أَلْإِثْمِدُ] ခနောက်စိမ်း။ ကြည့်(၁၈၄)

✿ [أَثَا ـُ] ကုန်းတိုက်၊ ကုန်းချောလုပ်သည်။ ရန်တိုက်ပေးသည်။ သူတစ်ပါးအကြောင်း သားပုပ်လေလွင့် ပြောဆိုသည်။

[أَثْوٌ] ကုန်းတိုက်၊ ကုန်းချောလုပ်ခြင်း။ ရန်တိုက်ပေးခြင်း။ သူတစ်ပါးအကြောင်း သားပုပ်လေလွင့် ပြောဆိုခြင်း။

[أَثَا] အတိုက်အခံပြုလုပ်သည်။ ခိုက်ရန်ဖြစ်သည်။ အငြင်းပွားသည်။ တရားလိုအဖြစ်တိုင်ကြားသည်။

[تَآثَى] အပြိုင်အဆိုင်တိုက်ခိုက်သည်။ အာဏာပိုင်များထံ ရောက်သည်အထိ တစ်ဘက်နှင့်တစ်ဘက် အငြင်းပွားသည်။

✿ [أَجَّ ـ] ❶ [ـ النَّارُ](မီး)တောက်လောင်သည်။ တဟုန်းဟုန်းတောက်လောင်သည်။

(၂) [_الشَّىءُ] တောက်ပထည်ဝါသည်။ အသွေးအရောင်ပြောင်သည်။ (၃) [_النَّهارُ] (နေ)အပူချိန် မြင့်မားသည်။ (၄) [_الأَمرُ] အမှုကိစ္စရှုပ်ထွေးသည်။ (၅) [_المَاءُ] ရေငံ၍ ခါးသည်။

[أَجَّ-أَجِيجٌ-أَجَّةٌ] (၁) (မီး)တောက်လောင်ခြင်း။ တဟုန်းဟုန်းတောက်လောင်ခြင်း။ (၂) တောက်ပခြင်း။ ထည်ဝါခြင်း။ အသွေးအရောင်ပြောင်ခြင်း။ (၃) (နေ)အပူချိန် မြင့်မားခြင်း။ (၄) အမှုကိစ္စရှုပ်ထွေးခြင်း။

[أُجُوجٌ-أُجُوجَةٌ] (ပင်လယ်ရေ)ငံ၍ခါးခြင်း။

[أَجَّجَ] [_المَاءَ](ရေကို)ရေငံပြုလုပ်သည်။ ရေ၌ သားထည့်သည်။

[إِيجَاجٌ] ရေငံပြုလုပ်ခြင်း။ ရေ၌ ဆားထည့်ခြင်း။

[أَجَّجَ] (၁) [_النَّارَ] မီးဟုန်းဟုန်းတောက်စေသည်။ မီးရှို့သည်။ (၂) [_بَيْنَهُمُ العَدَاوَةَ] အမုန်းပွားစေသည်။ ရန်ပွားစေသည်။ ပြဿနာဖန်တီးသည်။ (၃) [_المَاءَ]ရေငံပြုလုပ်သည်။

[اِئْتَجَّ] (၁) [_النَّارُ](မီး)တဟုန်းဟုန်းတောက်သည်။ (၂) [_النَّهَارُ](နေ့)ပူလောင်သည်။ အပူချိန်ပြင်းထန်သည်။

[تَأَجَّجَ] (၁) [_النَّارُ]မီးဟုန်းဟုန်းတောက်သည်။ (၂) [_النَّهَارُ](နေ့)ပူလောင်သည်။ အပူချိန်ပြင်းထန်သည်။

[الأَجَاجُ] အလွန်ခါးသော၊ ငံသော(အရာ)။

[الأَجُوجُ] လင်းဝင်းတောက်ပသော(အရာ)။

✿ [اجد_] (၁) အားရှိစေသည်။ အားပေးသည်။ [الحَمْدُ لِلّٰهِ الَّذِى أَجَدَنِى بَعْدَ ضُعْفٍ] ချီးမွမ်းသမျှသည် အလ္လာဟ်အရှင်မြတ်အဖို့သာလျှင်ဖြစ်ပါသည်။ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးအား အားအင်ချိနဲ့ရာမှ ပြန်လည်၍ အားအင် ဖြည့်ဆည်းပေးတော်မူသည်။ (၂) [_البِنَاءَ](အဆောက်အဦးကို)မြဲမြံ ခိုင်ခန့်စေသည်။

[أَجْدٌ] (၁) အားရှိစေခြင်း။ အားပေးခြင်း။ (၂) မြဲမြံခိုင်ခန့်စေခြင်း။

[أُجُدٌ] (၁) အားရှိသော(သူ၊ အရာ)။ (၂) မြဲမြံခိုင်ခန့်သော(သူ၊ အရာ)။ [نَاقَةٌ أُجُدٌ] ခန္ဓာကိုယ် သန်မာကြံ့ခိုင်သော ကုလားအုတ်မ။

[آجَدَ] (၁) အားရှိစေသည်။ အားပေးသည်။ (၂) မြဲမြံခိုင်ခန့်စေသည်။

[إِيجَادٌ] (၁) အားရှိစေခြင်း။ အားပေးခြင်း။ (၂) မြဲမြံခိုင်ခန့်စေခြင်း။

[مُؤْجَدٌ] အားရှိသော၊ မြဲမြံခိုင်ခန့်သော(သူ၊ အရာ)။ [ثَوْبٌ مُؤْجَدُ النَّسِيجِ] ခိုင်ခန့်စွာ ယက်လုပ်ထားသောအဝတ်။

[أَجَّدَ] (၁) အားရှိစေသည်။ အားပေးသည်။ (၂) မြဲမြံခိုင်ခန့်စေသည်။

[مُؤَجَّدٌ] အားရှိသော၊ မြဲမြံခိုင်ခန့်သော(သူ၊ အရာ)။

✿ [أَجَرَ_] (၁) [_العَظْمُ] မူလအနေအထားအတိုင်းမဟုတ်ပဲ အရိုးပြန်ဆက်သွားသည်။ (၂) [_العَظْمَ] အရိုးအနေအထားကို ပုံမှန်အတိုင်း မပြင်ပဲ ပတ်တီးစည်းသည်။ (၃) [_الشَّىْءَ] (တစ်စုံတစ်ရာကို)အခကြေးငွေပေး၍ ငှားရမ်းသည်။ (၄) [_فُلانًا] အခကြေးငွေပေးသည်။

လုပ်ခပေးသည်။ ❺ [ـــ العَامِلَ]လုပ်ခစားအဖြစ် လုပ်ကိုင်သည်။ အလုပ်ကို လက်ခံသည်။﴿عَلَى اَنْ تَاْجُرَنِى ثَمَانِىَ حِجَجٍ﴾အသင်သည် ကျွန်ုပ်ထံ၌ ရှစ်နှစ်တိုင်တိုင် သူရင်းငှားအဖြစ် အလုပ်လုပ်ရန်(သတ်မှတ်ချက်)အပေါ်။ ❻ [ـــ اللهُ عَبْدَهُ]အကျိုးကုသိုလ်ချီးမြှင့်သည်။

[اَجْرٌ-اُجُوْرٌ-اِجَارٌ] ❶ မူလအနေအထားအတိုင်း မဟုတ်ပဲ အရိုးပြန်ဆက်သွားခြင်း။ ❷ အရိုးအနေအထားကို ပုံမှန်အတိုင်း မပြင်ပဲ ပတ်တီးစည်းခြင်း။ ❸ (တစ်စုံတစ်ရာကို)အခကြေးငွေပေး၍ ငှားရမ်းခြင်း။ ❹ အခကြေးငွေပေးခြင်း။ လုပ်ခပေးခြင်း။ ❺ လုပ်ခစားအဖြစ် လုပ်ကိုင်ခြင်း။ အလုပ်ကို လက်ခံခြင်း။ ❻ အကျိုးကုသိုလ်ချီးမြှင့်ခြင်း။

[اُجِرَ] [ـــ فُلَانٌ فِىْ وَلَدِهٖ]ကလေးငယ်သေဆုံးသဖြင့် ယင်းကလေးငယ်သည် မိမိအတွက် အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုလာဘ်တစ်ခု ဖြစ်ရှိသည်။

[اَجَّرَ] ❶ ငှားရမ်းသည်။[ـــ مِنْهُ الدَّارَ]သူ့ထံမှ အိမ်ကို ငှားရမ်းသည်။ ❷ [ـــ فُلَانًا الدَّارَ] အိမ်ကို တစ်ဦးတစ်ယောက်အား ငှားရမ်းသည်။

[اِيْجَارٌ] ငှားရမ်းခြင်း။

[اَجَرَ] လုပ်ခစားအဖြစ် ခန့်အပ်သည်။ အလုပ်သမားအဖြစ် ပြုလုပ်ခန့်ထားသည်။

[مُاجَرَةٌ] လုပ်ခစားအဖြစ် ခန့်အပ်ခြင်း။ အလုပ်သမားအဖြစ် ပြုလုပ်ခန့်ထားခြင်း။

[اِئْتَجَرَ] ❶ (အလှူဒါန သို့မဟုတ်ကောင်းမှု တစ်စုံတစ်ရာ၏)အကျိုးကုသိုလ်ကို တောင်းဆိုသည်။ ❷ [ـــ عَلَى فُلَانٍ بِكَذَا](တစ်ဦးတစ်ယောက်ထံ၌)အခကြေးငွေပမာဏတစ်ခုဖြင့် အလုပ်လုပ်သည်။

[اِسْتَاْجَرَ] လုပ်ခစားအဖြစ် ခန့်အပ်သည်။ အလုပ်သမားအဖြစ် ပြုလုပ်ခန့်ထားသည်။

[اَلْاِجَارَةُ] ❶ လုပ်ခ။ ❷ လုပ်ခအကျိုးခံစားမှုဆိုင်ရာ အပေးအယူ ကတိစာချုပ်။

[اَلْاَجْرُ] ❶ လုပ်အားခ။ ❷ အကျိုးအမြတ်ခံစားခွင့်။ ❸ ထိမ်းမြားမှုပြုရာ၌ သတို့သမီးရပိုင်ခွင့် ခန်းဝင်ကြေး။ ထိမ်းမြားလက်ထပ်ယူသည့်သတို့သားက သတို့သမီးအား ပေးဆောင်ရသည့် မင်္ဂလာဦးလက်ဆောင်ပစ္စည်း။﴿فَاٰتُوْهُنَّ اُجُوْرَهُنَّ فَرِيْضَةً﴾အသင်တို့သည် ယင်းမိန်းမတို့အား သတ်မှတ်ထားသော သူမတို့၏မင်္ဂလာဦးရပိုင်ခွင့်'မဟာရ်'ကို ပေးဆောင်ကြကုန်။[اَلْاَجْرُ الْحَقُّ]ရသင့်ရထိုက်သော လုပ်အားခ။ အလုပ်သမား၏ ဘဝရပ်တည်မှုအတွက် လုံလောက်သောလစာ။(ဇ)[اُجُوْرٌ]။

[اَلْاُجْرَةُ] လုပ်အားခ။ အကျိုးအမြတ်ခံစားခွင့်။ အခကြေးငွေ။(ဇ)[اُجَرٌ]

[اَلْاَجِيْرُ] လုပ်ခစား။ အလုပ်သမား။ (ဇ)[اُجَرَاءُ]။

✿ [اِسْتَاْجَزَ] ❶ [ـــ عَلَى الْوِسَادَةِ](ခေါင်းအုံး၊ မှီအုံးစသည်ကို)ရင်ဘတ်ဖြင့် မှီထားသည်။ ❷ [ـــ عَنِ الْوِسَادَةِ]ခေါင်းအုံး၊ မှီအုံးစသည်ကို မမှီပဲနေသည်။

[اَلْاِجَازُ] ခေါင်းအုံး၊ မှီအုံးစသည်ကို ရင်ဘတ်

သည်။ ဟန်ဆောင်လုပ်စားသည်။ လိမ်ညာဖျားယောင်းသည်။ ❻ [_عَنِ الشَّىْءِ]လိုချင်ပါလျက် မလိုချင်ဟန်ဆောင်သည်။ မူသည်။ ❼ [_النَّارَ]မီးထည့်ရန်အတွက် တွင်းလုပ်သည်။ ဖိုလုပ်သည်။

[اِئتَرَى] ❶ [_النَّحلُ](ပျား)ပျားရည်ထုတ်လုပ်သည်။ ❷ [_فُلَانٌ بِالْمَكَانِ]အတည်တကျနေထိုင်သည်။ ❸ [_الاَرْىُ بِالْخَلِيَّةِ](ပျားရည်)ပျားအိမ်၌ကပ်သည်။

[تَاَرَّى] ❶ [_النَّحلُ](ပျား)ပျားရည်ထုတ်လုပ်သည်။ ❷ [_فُلَانٌ بِالْمَكَانِ]အတည်တကျနေထိုင်သည်။ ❸ [_عَنهُ]နောက်ချန်နေရစ်သည်။ နောက်ကျကျန်ရစ်သည်။ ❹ [_الشَّىْءَ]အကောင်းဆုံးကို စဉ်းစားရွေးချယ်သည်။

[الاَرِىّ ـ الاٰرِىُّ]❶ တိရစ္ဆာန်ကိုထားသည့်နေရာ။ တင်းကုပ်။ စောင်း။ ❷ နံရံသို့မဟုတ်ငုတ်တိုင်တွင် တိရစ္ဆာန်ကို ချည်နှောင်ရန် ပြုလုပ်ထားသောကွင်း။(ج)[ اَوَارِ ]။

[الاٰرِىُّ] အရိယာန်မျိုးနွယ်ဖွား။ အရိယာန်ယဉ်ကျေးမှု။(ج) [اَوَارِىُّ ]။

[الاٰرِيَّةُ] အရိယာန်မျိုးနွယ်နှင့်ဆိုင်သော (ယဉ်ကျေးမှု)။

[الاِرَةُ] ❶ မီးဖိုရန်ပြုလုပ်ထားသောတွင်း။ ❷ လမ်းခရီး၌ ရိက္ခာအဖြစ် ပြုလုပ်ထားသော အသားခြောက်။

[الاَرْوِيَةُ ـ الاِرْوِيَةُ]တောင်ဆိတ်။(ج)[اَرَاوِى ـ اَرْوَى]။

[ الاَرْىُ ] ❶ ပျားရည်။ ❷ နှင်းစက်။ ❸ ထမင်းချိုး၊ ဟင်းချိုး။

✿[الاَرْيَحِىُّ]ကြည့်။ (روح)

✿ [ اَزَبَ ـِ ] [_المَاءُ](ရေ)စီးတွေသည်။ စီးဆင်းသည်။

[اَزْبٌ] စီးတွေခြင်း။ စီးဆင်းခြင်း။

[آزِبٌ] စီးတွေသော၊ စီးဆင်းသော(ရေ)။

[اَزِبَ ـَ] [_المَاشِيَةُ](တိရစ္ဆာန်)စားမြို့မပြန်ပဲနေသည်။ စားမြို့မပြန်သောသတ္တဝါ ဖြစ်သည်။

[اَزَبٌ] စားမြို့မပြန်ပဲနေခြင်း။ စားမြို့မပြန်သော သတ္တဝါဖြစ်ခြင်း။

[اَزَّبَ] ခွဲဝေသည်။ မျှယူသည်။

[الاِزْبُ] ❶ လူပု။ ❷ လူဆိုး။ ❸ ဘေးဒုက္ခ။

[المِئزَابُ] ❶ ရေမြောင်း။ ❷ ရေတံလျှောက်။ [مَاٰزِيبُ ـ مَيَازِيبُ](ج)။

✿ [اَزَجَ ـِ] ❶ အလျှင်အမြန်လျှောက်သည်။ အလျှင်စလိုပြုလုပ်သည်။ ❷ [_عَنهُ]နောက်ချန်နေရစ်သည်။ လေးလံစွာလျှောက်သည်။

[اُزُوجٌ] ❶ အလျှင်အမြန်လျှောက်ခြင်း။ အလျှင်စလိုပြုလုပ်ခြင်း။ ❷ နောက်ချန်နေရစ်ခြင်း။ လေးလံစွာလျှောက်ခြင်း။

[آزِجٌ ـ اَزُوجٌ]❶ အလျှင်အမြန်လျှောက်သူ။ အလျှင်စလိုပြုလုပ်သူ။ ❷ နောက်ချန်နေရစ်သူ။ လေးလံစွာလျှောက်သူ။

[اَزِجَ ـَ] ❶ အလျှင်အမြန်လျှောက်သည်။ အလျှင်စလိုပြုလုပ်သည်။ ❷ [_عَنهُ]နောက်ချန်နေရစ်သည်။ လေးလံစွာလျှောက်သည်။ ❸ [_العُشبُ]မြက်ပင်ရှည်လျားသည်။

[اَزِجٌ] ရှည်လျားသော(မြက်)။

[اَزَّجَ] (အိမ်သို့မဟုတ်အဆောက်အဦးကို)

အရှည်ဆောက်သည်။ တန်းလျားဆောက်သည်။

[الآزَجُ] အိမ်ရှည်။ တန်းလျား။ (ج)[آزَاجٌ] [أُزُجٌ]။

✿ [أَزِحَ ـَ] ❶ တစ်ခုနှင့်တစ်ခု စုပြုံပြည့်ကြပ်သည်။ ကျစ်လျစ်သိပ်သည်းသည်။ ❷ နောက်ကျသည်။ နောက်ကျကျန်ရစ်သည်။ လေးလံနှောင့်နှေးသည်။ ❸ [العِرْقُ ـ] အကြောလှုပ်သည်။ အသားလှုပ်သည်။ ❹ [القَدَمُ ـ] ချော်လဲသည်။ လဲကျသည်။ ခြေချော်သည်။

[أُزُوحٌ] ❶ တစ်ခုနှင့်တစ်ခု စုပြုံပြည့်ကြပ်ခြင်း။ ကျစ်လျစ်သိပ်သည်းခြင်း။ ❷ နောက်ကျခြင်း။ နောက်ကျကျန်ရစ်ခြင်း။ လေးလံနှောင့်နှေးခြင်း။ ❸ အကြောလှုပ်ခြင်း။ အသားလှုပ်ခြင်း။ ❹ ချော်လဲခြင်း။ လဲကျခြင်း။ ခြေချော်ခြင်း။

[أَزِحٌ ـ أَزُوحٌ] ❶ တစ်ခုနှင့်တစ်ခု စုပြုံပြည့်ကြပ်သော(အရာ)။ ကျစ်လျစ်သိပ်သည်းသော(အရာ)။ ❷ နောက်ကျသော(အရာ)။ နောက်ကျကျန်ရစ်သော(အရာ)။ လေးလံ နှောင့်နှေးသော(အရာ)။ ❸ လှုပ်သော(အကြော)။ ❹ ချော်လဲသော(သူ)။ လဲကျသော(သူ)။ ခြေချော်သော(သူ)။

[تَأَزَّحَ] ❶ တစ်ခုနှင့်တစ်ခု စုပြုံပြည့်ကြပ်သည်။ ကျစ်လျစ်သိပ်သည်းသည်။ ❷ နောက်ကျသည်။ နောက်ကျကျန်ရစ်သည်။ လေးလံ နှောင့်နှေးသည်။ ❸ [العِرْقُ ـ] အကြောလှုပ်သည်။ အသားလှုပ်သည်။ ❹ [القَدَمُ ـ] ချော်လဲသည်။ လဲကျသည်။ ခြေချော်သည်။

[الأَزُوحُ] ❶ နောက်ကျသူ။ ❷ တွန့်ဆုတ်သူ။ ❸ ဝန်ထုပ်ကို သည်ပိုးရသဖြင့် ညည်းတွားသူ။

✿ [الآزَاذُ] အလွန်မျိုးကောင်းသော စွန်ပလွန်သီး။

✿ [أَزَرَ ـُ] ❶ [الزَّرْعُ ـ](စိုက်ခင်းရှိအပင်များ)ထူထပ်သည်။ သိပ်သည်းစွာပေါက်ရောက်သည်။ ❷ [ـ بِهِ]ဝိုင်းရံထားသည်။ ❸ [ـ فُلَانًا]လုံချည်ဝတ်ပေးသည်။ ❹ [ـ الشَّيْءَ]ခိုင်မာစေသည်။ တောင့်တင်းစေသည်။ အားပေးသည်။ ထောက်ကန်ထားသည်။ ကြားကန်ပေးသည်။ လဲပြိုမကျစေရန် ထောက်ထားသည်။

[أَزْرٌ] ❶ (စိုက်ခင်းရှိ အပင်များ)ထူထပ်ခြင်း။ သိပ်သည်းစွာပေါက်ရောက်ခြင်း။ ❷ ဝိုင်းရံထားခြင်း။ ❸ လုံချည်ဝတ်ပေးခြင်း။ ❹ ခိုင်မာစေခြင်း။ တောင့်တင်းစေခြင်း။ အားပေးခြင်း။ ထောက်ကန်ထားခြင်း။ ကြားကန်ပေးခြင်း။ လဲပြိုမကျစေရန် ထောက်ထားခြင်း။

[أَزِرَ ـَ] [الحِصَانُ ـ](မြင်း)ကိုယ်နောက်ပိုင်းဖြူ၍ ရှေ့ပိုင်းအခြားအရောင်ဖြစ်သည်။

[أَزَرٌ] (မြင်း)ကိုယ်နောက်ပိုင်းဖြူ၍ ရှေ့ပိုင်းအခြားအရောင်ဖြစ်ခြင်း။

[آزَرُ] ကိုယ်နောက်ပိုင်းဖြူ၍ ရှေ့ပိုင်းအခြားအရောင်ဖြစ်သော(မြင်း)။(မ)[أَزْرَاءُ]။ (ج)[أُزْرٌ]။

[آزَرَ] ❶ [الزَّرْعُ ـ](စိုက်ခင်းရှိအပင်များ)

ထူထပ်သည်။ သိပ်သည်းစွာပေါက်သည်။ ❶ [ـ بِهِ]ဝိုင်းရံထားသည်။ ❷ [ـ فُلَانًا]လုံချည် ဝတ်ပေးသည်။ ❸ [ـ الشَّيْءَ]ခိုင်မာစေသည်။ တောင့်တင်းစေသည်။ အားပေးသည်။ ထောက်ကန်ထားသည်။ ကြားကန်ပေးသည်။ လဲပြိုမကျစေရန် ထောက်ထားသည်။ ❹ [ـ فُلَانًا]ကူညီစောင်မသည်။ ❺ [ـ الشَّيْءَ] ညီညာအောင်ဖြစ်နဲ့သည်။ ညှိသည်။ တူညီအောင်လုပ်သည်။

[آزَرَ] ❶ ကူညီစောင်မသည်။ ထောက်ကန်ပေးထားသည်။ အထောက်အကူဖြစ်စေသည်။ ❷ [ـ الْكِتَابَ](စာအုပ်၌)မိမိ၏ အမြင်ကို ဖြည့်စွက်သည်။ အောက်ခြေအမှတ်ဖော်ပြသည်။

[مُؤَزِّرٌ] ခိုင်မာသော၊ အင်အားတောင့်တင်းခိုင်မာသော(အရာ)။[نَصَرَهُ نَصْرًا مُؤَزَّرًا]သူ့ကို အလွန်ခိုင်မာသော အကူအညီပေးသည်။

[اِئْتَزَرَ-اِتَّزَرَ] လုံချည်ဝတ်သည်။

[تَآزَرَ] ❶ လုံချည်ဝတ်သည်။ ❷ [ـ الزَّرْعُ] သီးနှံဖြစ်ထွန်းသည်။ အပင်ထူထပ်စွာပေါက်ရောက်သည်။

[الْإِزَارُ-الْإِزَارَةُ]❶ လုံချည်။ ပုဆိုး။ ထဘီ။ ❷ စာမျက်နှာအောက်ခြေရှိ ရှင်းလင်းဖော်ပြချက်။ ❸ နံရံအောက်ခြေ။[عَفِيفُ الْإِزَارِ] မိန်းမများနှင့် ကင်းကင်းရှင်းရှင်းနေသော(သူ)။ (ج) [أُزُرٌ-آزِرَةٌ]။

[الْأَزْرُ] အင်အား။ စွမ်းအား။[شَدَّ أَزْرَهُ]အင်အားတောင့်တင်းခိုင်မာစေသည်။ အားပေးသည်။﴿اشْدُدْ بِهِ أَزْرِي﴾အရှင်မြတ်သည် ၄င်းဖြင့် ကျွန်တော်မျိုး၏အင်အားကို ဖြည့်ပေးတော်မူပါ။

[الْإِزْرُ] ❶ လုံချည်။ ပုဆိုး။ ထဘီ။ ❷ စာမျက်နှာ အောက်ခြေရှိ ရှင်းလင်းဖော်ပြချက်။ ❸ နံရံအောက်ခြေ။ ❹ အရင်းအမြစ်။ ❺ အခြေခံ။

[الْمِئْزَرُ] ❶ လုံချည်။ ပုဆိုး။ ထဘီ။ ❷ စာမျက်နှာ အောက်ခြေရှိ ရှင်းလင်းဖော်ပြချက်။ ❸ နံရံအောက်ခြေ။(မ)[الْمِئْزَرَةُ]။(ج)[مَآزِرُ]။[شَدَّ مِئْزَرَهُ]အသင့်ပြင်ဆင်သည်။ [شَدَّ مِئْزَرَهُ دُونَ النِّسَاءِ]မိန်းမများနှင့် ကင်းကင်း ရှင်းရှင်းနေသည်။(ج)[مَآزِرُ]။

✿ [أَزَّ ـ] ❶ လှုပ်ရှားသည်။ တုန်ခါသည်။ ❷ လှုပ်ရှားသံထွက်ပေါ်သည်။ ❸ ဆူပွက်သံထွက်ပေါ်သည်။ ❹ [ـ النَّارَ](မီးကို)တဟုန်းဟုန်းတောက်လောင်စေသည်။ ❺ [ـ الْقِدْرَ] (အိုးကို)ဆူပွက်လာအောင် ကျိုချက်သည်။ ❻ [ـ الشَّيْءَ]လှုပ်ရမ်းသည်။ ❼ [ـ بَيْنَهُمَا]ရန်တိုက်ပေးသည်။ သွေးကွဲအောင် ပြုလုပ်သည်။ ❽ [ـ بَيْنَهُمْ]လှုံ့ဆော်သည်။

[أَزٌّ-أَزِيزٌ-أَزَازٌ]❶ လှုပ်ရှားခြင်း။ တုန်ခါခြင်း။ ❷ လှုပ်ရှားသံထွက်ပေါ်ခြင်း။ ❸ ဆူပွက်သံ ထွက်ပေါ်ခြင်း။ ❹ တဟုန်းဟုန်းတောက်လောင်စေခြင်း။ ❺ ဆူပွက်လာအောင်ကျိုချက်ခြင်း။ ❻ လှုပ်ရမ်းခြင်း။ ❼ ရန်တိုက်ပေးခြင်း။ သွေးကွဲအောင် ပြုလုပ်ခြင်း။ ❽ လှုံ့ဆော်ခြင်း။

[اِئْتَزَّ] ❶ လှုပ်ရှားသည်။ တုန်ခါသည်။ ❷ လှုပ်ရှားသံထွက်ပေါ်သည်။ ❸ ဆူပွက်သံ

ထွက်ပေါ်သည်။ ❹ [ــتِ النَّارُ]တဟုန်းဟုန်း တောက်လောင်သည်။ ❺ [ــالْقِدْرُ]ဆူပွက် လာအောင် ကျိုချက်သည်။ ❻ [ــالشَّيْءَ]လှုပ် ရမ်းသည်။ ❼ [ــبَيْنَهُمَا]ရန်တိုက်ပေးသည်။ သွေးကွဲအောင် ပြုလုပ်သည်။ ❽ [ــبَيْنَهُمْ] လှုံ့ဆော်သည်။

[تَآزَرَ] ❶ လှုပ်ရှားသည်။ တုန်ခါသည်။ ❷ လှုပ်ရှားသံထွက်ပေါ်သည်။ ❸ ဆူပွက်သံ ထွက်ပေါ်သည်။ ❹ [ــالنَّارُ]တဟုန်းဟုန်း တောက်လောင်သည်။ ❺ [ــالْقِدْرُ]ဆူပွက် လာအောင် ကျိုချက်သည်။ ❻ [ــالشَّيْءَ]လှုပ် ရမ်းသည်။ ❼ [ــبَيْنَهُمَا]ရန်တိုက်ပေးသည်။ သွေးကွဲအောင် ပြုလုပ်သည်။ ❽ [ــبَيْنَهُمْ] လှုံ့ဆော်သည်။ ❾ [ــالْمَكَانُ]လူခြေထူထပ် သည်။ ပျားပန်းခတ်မျှလှုပ်ရှားစည်ကား သည်။

[اَلأَزْزُ] လူခြေထူထပ်မှု။ ပျားပန်းခတ်မျှ လှုပ်ရှားစည်ကားမှု။

[اَلأَزَّةُ] အသံ။

[اَلأَزِيزُ] အလွန်လျှင်မြန်သော လှုပ်ရှားမှု အသံ။ အရှိန်။ တဝီဝီမြည်သံ။[الْجَوْفِهِ أَزِيزٌ] သူ့ဗိုက်ထဲက တဂွီဂွီမြည်တယ်။

❀ [اَزِفَ ـَ] ❶ နီးကပ်သည်။ အချိန်ကျလုနီး ဖြစ်သည်။《اَزِفَتِ الآزِفَةُ》ကိယာမတ်သည် နီးကပ်၍လာခဲ့ချေပြီ။ ❷ [ــالرَّجُلُ]အလျှင် စလိုလုပ်သည်။ အမြန်သွားအမြန်လာသည်။ ❸ [ــالْجُرْحُ]အနာကျက်စပြုသည်။ စတင် ပျောက်ကင်းလာသည်။

[اَزَفٌ] ❶ နီးကပ်ခြင်း။ အချိန်ကျလုနီး ဖြစ်ခြင်း။ ❷ အလျှင်စလိုလုပ်ခြင်း။ အမြန်သွား အမြန်လာခြင်း။ ❸ အနာကျက်စပြုခြင်း။ စတင်ပျောက်ကင်းလာခြင်း။

[آزَفَ] အလျှင်စလိုလုပ်စေသည်။ လော ဆော်သည်။

[تَآزَفَ] ❶ [ــالْخَطْوُ]ခြေလှမ်းစိပ်သည်။ ❷ [ــالْقَوْمُ]တစ်ဦးနှင့်တစ်ဦးနီးကပ်လာသည်။ ❸ [ــالرَّجُلُ]စိတ်ဓါတ်သိမ်ဖျင်းယုတ်ညံ့ သည်။ အကျင့်ပျက်သည်။

[اَلآزِفَةُ] ကိယာမတ်နေ့(လူသားအားလုံး သေ ပြီးနောက် ပြန်လည်ရှင်ပြန်ထရမည့်နေ့)။

[اَلآزِفُ] ❶ စီးပွားရေးကြပ်တည်းမှု။ ❷ စား ဝတ်နေရေးခက်ခဲမှု။ ❸ စိတ်ညစ်ဖွယ်ရာ ကိစ္စ။

❀ [اَزَقَ ـِ] ❶ ကျဉ်းမြောင်းသည်။ ကြပ်တည်း သည်။ ❷ [ــالشَّيْءَ]ကျဉ်းမြောင်းစေသည်။ ကြပ်တည်းစေသည်။

[اَزْقٌ] ❶ ကျဉ်းမြောင်းခြင်း။ ကြပ်တည်း ခြင်း။ ❷ ကျဉ်းမြောင်းစေခြင်း။ ကြပ်တည်း စေခြင်း။

[تَأَزَّقَ] ❶ ကျဉ်းမြောင်းသည်။ ကြပ်တည်း သည်။ ❷ ကျဉ်းမြောင်းစေသည်။ ကြပ် တည်းစေသည်။

[اَلْمَأْزِقُ] ကျဉ်းမြောင်းသည့်နေရာ။ အကြပ် အတည်း။(ج)[مَآزِقُ]။

❀ [اَزَلَ ـِ] ❶ [ــالْمَكَانُ](နေရာ)ကျဉ်းမြောင်း သည်။ ❷ [ــالرَّجُلُ]စိတ်ညစ်သည်။ စိတ် ကျဉ်းကြပ်သည်။ စိတ်ရှုပ်သည်။ ❸ [ــفُلاَنًا] ဖမ်းဆီးချုပ်နှောင်သည်။ ❹ စိတ်ရှုပ်ထွေးစေ

သည်။ ❺ ဒုက္ခပေးသည်။ ❻ [ـالدَّابَّةَ]တိရစ္ဆာန်အားချည်နှောင်ထားသည့်ကြိုးကို ဆောင့်ဆွဲသည်။ ကြိုးကိုတိုအောင်လုပ်သည်။ ❼ စားကျက်၌ လွှတ်ထားသည်။

[اَزِلَ] [ـالنَّاسُ]အငတ်ဘေးနှင့် ရင်ဆိုင်ကြရသည်။

[اَزْلٌ] ❶ (နေရာ)ကျဉ်းမြောင်းခြင်း။ ❷ စိတ်ညစ်ခြင်း။ စိတ်ကျဉ်းကြပ်ခြင်း။ စိတ်ရှုပ်ခြင်း။ ❸ ဖမ်းဆီးချုပ်နှောင်ခြင်း။ ❹ စိတ်ရှုပ်ထွေးစေခြင်း။ ❺ ဒုက္ခပေးခြင်း။ ❻ တိရစ္ဆာန်အားချည်နှောင်ထားသည့်ကြိုးကို ဆောင့်ဆွဲခြင်း။ ကြိုးကိုတိုအောင်လုပ်ခြင်း။ ❼ စားကျက်၌ လွှတ်ထားခြင်း။

[اَزَلَ] [ـالسَّنَةُ](နှစ်)အလွန်အမင်း မိုးခေါင်ရေရှားဖြစ်သည်။ အငတ်ဘေးဆိုက်သောနှစ်ဖြစ်သည်။

[اِيزَالٌ] (နှစ်)အလွန်အမင်း မိုးခေါင်ရေရှား ဖြစ်ခြင်း။ အငတ်ဘေးဆိုက်သောနှစ်ဖြစ်ခြင်း။

[تَاَزَّلَ] ❶ [ـصَدْرُهُ]စိတ်ညစ်သည်။ ❷ ကြပ်တည်းကျဉ်းမြောင်းသည်။

[اَلْاَزِلُ] ❶ ဘေးဒုက္ခသို့မဟုတ် ရောဂါဖိစီးခြင်းခံရသဖြင့် မသွားနိုင်မလာနိုင်ဖြစ်သူ။ ❷ အလွန်စိုးရိမ်နေရပြီး အပြင်ကိုမထွက်နိုင်သူ။

[اَلْاَزْلُ] ❶ စားဝတ်နေရေးကြပ်တည်းမှု။ ❷ ခေတ်ဆိုး၊ အခါကာလဆိုး။ အလွန်ကြပ်တည်းခဲယဉ်းသောကာလ။

[اَلْاَزَلُ] ❶ အစမထင်သောအစ။ ❷ အစမထင်သောအစကတည်းက တည်ရှိသောအရာ။ ❸ အချိန်ကာလမှလွန်မြောက်သောအရာ။

[اَلْاَزَلِيُّ] အစမထင်သော အစကတည်းကတည်ရှိသောအရာနှင့်ဆိုင်သော။

[اَلْمَاْزِلُ] ကျဉ်းမြောင်းကြပ်တည်းသည့် နေရာ။ (ج) [مَآزِلُ]။

✿ [اَزَمَ ـِ] ❶ မြဲမြဲစွာကိုက်ထားသည်။ ❷ [ـالشَّيْءَ]ဖြတ်တောက်သည်။ ❸ [ـالْحَبْلَ] ကြိုးအထုံးကို အခိုင်အမာထုံးဖွဲ့သည်။ ခိုင်မာအောင်ကျစ်သည်။ ❹ [ـالْبَابَ]တံခါးပိတ်သည်။ ❺ [ـفُلَانٌ عَلَى كَذَا]စွဲစွဲမြဲမြဲ ပြုမူလုပ်ကိုင်သည်။ ❻ [ـعَلَيْهِمُ السَّنَةُ]အလွန်ကြပ်တည်းသည့်နှစ်ဖြစ်သည်။ အလွန် ဘေးဒုက္ခနှင့်ကြုံတွေ့ရသောနှစ်ဖြစ်သည်။

[اَزْمٌ] ❶ မြဲမြဲစွာကိုက်ထားခြင်း။ ❷ ဖြတ်တောက်ခြင်း။ ❸ ကြိုးအထုံးကို အခိုင်အမာထုံးဖွဲ့ခြင်း။ ခိုင်မာအောင်ကျစ်ခြင်း။ ❹ တံခါးပိတ်ခြင်း။ ❺ စွဲစွဲမြဲမြဲ ပြုမူလုပ်ကိုင်ခြင်း။ ❻ အလွန်ကြပ်တည်းသည့်နှစ်ဖြစ်ခြင်း။ အလွန်ဘေးဒုက္ခနှင့်ကြုံတွေ့ရသောနှစ်ဖြစ်ခြင်း။

[اَزِمَ ـَ] ❶ မြဲမြဲစွာကိုက်ထားသည်။ ❷ [ـالشَّيْءَ]ဖြတ်တောက်သည်။ ❸ [ـالْحَبْلَ] ကြိုးအထုံးကို အခိုင်အမာထုံးဖွဲ့သည်။ ခိုင်မာအောင်ကျစ်သည်။ ❹ [ـالْبَابَ]တံခါးပိတ်သည်။ ❺ [ـفُلَانٌ عَلَى كَذَا]စွဲစွဲမြဲမြဲ ပြုမူလုပ်ကိုင်သည်။ ❻ [ـعَلَيْهِمُ السَّنَةُ]အလွန်ကြပ်တည်းသည့်နှစ်ဖြစ်သည်။ အလွန် ဘေးဒုက္ခနှင့်ကြုံတွေ့ရသောနှစ်ဖြစ်သည်။

[أَزَمٌ] ❶ မြဲမြဲစွာကိုက်ထားခြင်း။ ❷ ဖြတ်တောက်ခြင်း။ ❸ ကြိုးအထုံးကို အခိုင်အမာထုံးဖွဲ့ခြင်း။ ခိုင်မာအောင်ကျစ်ခြင်း။ ❹ တံခါးပိတ်ခြင်း။ ❺ စွဲစွဲမြဲမြဲ ပြုမူလုပ်ကိုင်ခြင်း။ ❻ အလွန် ကြပ်တည်းသည့်နှစ်ဖြစ်ခြင်း။ အလွန်ဘေးဒုက္ခနှင့် ကြုံတွေ့ရသောနှစ်ဖြစ်ခြင်း။

[تَأَزَّمَ] ❶ အကြပ်အတည်းနှင့် ရင်ဆိုင်ရသည်။ ❷ ဆင်းရဲဒုက္ခရောက်သည်။

[اَلْآزِمُ] အစွယ်။(ဇ)[أُزُمٌ]။

[اَلْأَزِمَةُ] ❶ ဒုက္ခအခက်အခဲ။ ❷ ဘေးဆိုး။ ကြမ္မာဆိုး။ ကပ်ဆိုး။(ဇ)[أَوَازِمُ]။

[اَلْأَزْمَةُ] ❶ ဒုက္ခအခက်အခဲ။ ❷ ကြပ်တည်းကျဉ်းမြောင်းမှု။[أَزْمَةٌمَالِيَّةٌ]ငွေစွာခနေ ချို့တဲ့မှု။ [أَزْمَةٌسِيَاسِيَّةٌ]နိုင်ငံရေးအကြပ်အတည်း။ [أَزْمَةٌمَرَضِيَّةٌ]ရောဂါအခြေအနေ ဆိုးရွားပြင်းထန်မှု။ ❸ ရုတ်တရက်ပြင်းထန်စွာ ခံစားရသောဝေဒနာ။ ❹ မိုးခေါင်ရေရှားမှု။ ❺ အစာရေစာ ရှားပါးမှု။

[اَلْمَأْزِمُ] ကျဉ်းမြောင်းသော တောင်ကြားလမ်း။ (ဇ)[مَآزِمُ]။

✿ [أَزَا ـُ] ❶ [الظِّلُّ ـ](အရိပ်)တဖြည်းဖြည်းတိုလာသည်။ နေမြင့်သည်။ ❷ [النَّهَارُ ـ](နေ့)အပူချိန်မြင့်မားသည်။

[أَزْوٌ] ❶ (အရိပ်)တဖြည်းဖြည်း တိုလာခြင်း။ နေမြင့်ခြင်း။ ❷ အပူချိန်မြင့်မားခြင်း။

✿ [أَزِيَ ـِ] ❶ ကျုံ့ဝင်လာသည်။ စုဝင်သိပ်သည်းလာသည်။ ❷ [الظِّلُّ ـ]အရိပ်တိုလာသည်။ ❸ [الثَّوْبُ ـ](အဝတ်ဖွတ်လျှော်ပြီးနောက်) တွန့်ကြေသည်။ ❹ [بِهِ ـ]အယုံသွင်းသည်။ ပူးသတ်သည်။ မကောင်းသောအကြံအစည်ဖြင့် လာရောက်ချည်းကပ်သည်။

[أَزْيٌ-أُزِيٌّ] ❶ ကျုံ့ဝင်လာခြင်း။ စုဝင်သိပ်သည်းလာခြင်း။ ❷ အရိပ်တိုလာခြင်း။ ❸ (အဝတ်ဖွတ်လျှော်ပြီးနောက်)တွန့်ကြေခြင်း။ ❹ အယုံသွင်းခြင်း။ ပူးသတ်ခြင်း။ မကောင်းသော အကြံအစည်ဖြင့် လာရောက်ချည်းကပ်ခြင်း။

[أَزَى ـِ] ❶ [الظِّلُّ ـ](အရိပ်)တဖြည်းဖြည်း တိုလာသည်။ နေမြင့်သည်။ ❷ [النَّهَارُ ـ](နေ့)အပူချိန်မြင့်မားသည်။

[أَزَّى] ❶ ပေါင်းစုသည်။ ❷ ထပ်ထည့်သည်။ ထပ်ပေါင်းသည်။ ❸ ကန်ထဲသို့ရေသွင်းရန် အပေါက်ပြုလုပ်သည်။

[إِيزَاءٌ] ❶ ပေါင်းစုခြင်း။ ❷ ထပ်ထည့်ခြင်း။ ထပ်ပေါင်းခြင်း။ ❸ ကန်ထဲသို့ ရေသွင်းရန် အပေါက်ပြုလုပ်ခြင်း။

[آزَى] ❶ ယှဉ်ထားသည်။ ❷ ထိပ်တိုက် အနေအထားဖြင့်နေသည်။

[مُآزَاةٌ-إِزَاءٌ] ❶ ယှဉ်ထားခြင်း။ ❷ ထိပ်တိုက် အနေအထားဖြင့်နေခြင်း။

[أَزَّى] [الْحَوْضَ ـ]ကန်ထဲသို့ ရေသွင်းရန် အပေါက်ပြုလုပ်သည်။

[تَآزَى] တစ်ဦးနှင့်တစ်ဦး ယှဉ်ရပ်သည်။

[تَأَزَّى] ❶ [عَنْهُ ـ]နောက်တွန့်သည်။ တွန့်ဆုတ်သည်။ ❷ ကြောက်ရွံ့လေးစားသည်။ ❸ [السَّهْمُ ـ](မြား)ပစ်မှတ်ကို ထိမှန်ပြီး ခါရမ်းသည်။

[اَلْاِزَاءُ] ၁ ရှေ့တည့်တည်း။ ၂ မျက်နှာချင်းဆိုင်။ ၃ ဆန့်ကျင်ဘက်။ ၄ ဦးစီးဦးကိုင်၊ အကြီးအမှူး။ ၅ ကန်ရေဝင်ပေါက်။

❁[اَلْاِسْبَانَاخُ]ဟင်းနုနွယ်ပင်။

❁[اَلْاِسْبِيْدَاجُ]ခဲဖြူ(သတ္တု)။

❁ [اَلْاِسْتُ] ၁ အခြေခံ။ ၂ မူလရင်းမြစ်။ ၃ အုတ်မြစ်။ ၄ ခန္ဓာကိုယ်အောက်ပိုင်း။

❁[اَلْاِسْتَاجُ۔اَلْاِسْتِيْجُ]ချည်ငင်သည့်ရစ်လုံး။ ရစ်ဘီး။ ယက္ကန်းစင်သုံးလွန်းပျံ။

❁ [اَلْاِسْتَادُ] အားကစားကွင်း။

❁ [اَلْاُسْتَاذُ] ဆရာ။ နည်းပြ။(ج)[اَسَاتِذَةٌ۔اَسَاتِيْذُ]။

❁ [اَلْاِسْتَارُ] ၁ (အရေအတွက်)လေး။ ၂ မစ်စ်ကာလ်လေးခုနှင့် တစ်ဝက်(အလေးချိန်)။(ج)[اَسَاتِيْرُ]။

❁[اَلْاِسْتَبْرَقُ]၁ ပိုးထည်အထူ။ ၂ ကတ္တီပါ။

❁ [اَسِدَ ـَ] ၁ ခြင်္သေ့ကဲ့သို့ဖြစ်သည်။ ၂ ခြင်္သေ့ကို ရုတ်တရက် တွေ့မြင်ရသဖြင့် ထိတ်လန့်တုန်လှုပ်သည်။ ၃ [ـعَلَيْهِ]အတင့်ရဲသည်။

[اَسَدٌ] ၁ ခြင်္သေ့ကဲ့သို့ဖြစ်ခြင်း။ ၂ ခြင်္သေ့ကို ရုတ်တရက် တွေ့မြင်ရသဖြင့် ထိတ်လန့်တုန်လှုပ်ခြင်း။ ၃ အတင့်ရဲခြင်း။

[اَسَدَ] ၁ ခုန်အုပ်သည်။ ခုန်ကိုက်သည်။ ၂ [ـبَيْنَهُمْ]အဖျက်လုပ်ငန်းလုပ်သည်။ ၃ [ـالْكَلْبَ بِالصَّيْدِ]အမဲလိုက်ခွေးဖြင့် သားကောင်ကို ထွက်လာရန် ခြောက်လှန့်သည်။

[مُؤَاسَدَةٌ] ၁ ခုန်အုပ်ခြင်း။ ခုန်ကိုက်ခြင်း။ ၂ အဖျက်လုပ်ငန်းလုပ်ခြင်း။ ၃ အမဲလိုက်ခွေးဖြင့် သားကောင်ကို ထွက်လာရန် ခြောက်လှန့်ခြင်း။

[اِيْسَادٌ] အမဲလိုက်ခွေးဖြင့် သားကောင်ကို ထွက်လာရန် ခြောက်လှန့်ခြင်း။

[اَسَّدَ] [ـالْكَلْبَ بِالصَّيْدِ]အမဲလိုက်ခွေးဖြင့် သားကောင်ကို ထွက်လာရန် ခြောက်လှန့်သည်။

[تَاَسَّدَ] သားကောင်ကို ဖမ်းဆီးရန် အမဲလိုက်ခွေးကို လွှတ်ထားသည်။

[اِسْتَاْسَدَ] ၁ ခြင်္သေ့ကဲ့သို့ ရဲရင့်သည်။ ၂ အတင့်ရဲသည်။ ၃ [ـالنَّبَاتُ](အပင်)ရှည်လျားသည်။ ခက်လက်ဝေဆာသည်။

[اَلْاَسَدُ] ၁ ခြင်္သေ့။ ၂ ဂြိုဟ်နက္ခတ်တစ်ခု၏ အမည်။ သိဟ်ရာသီ။ (ج)[اُسُوْدٌ۔اُسْدٌ۔اُسُدٌ۔اٰسَادٌ]။[دَاءُ الْاَسَدِ]နူနာ။

[اَلْمَاْسَدَةُ] ခြင်္သေ့နယ်မြေ။ ခြင်္သေ့ပေါသော အရပ်။(ج)[مَاسِدُ]။

❁ [اَسَرَ ـِ] ၁ ဖမ်းဆီးသည်။ ၂ အကျဉ်းသားအဖြစ် ဖမ်းဆီးသည်။ ၃ စစ်သုံ့ပန်းအဖြစ် ဖမ်းဆီးသည်။

[اَسْرٌ] ၁ ဖမ်းဆီးခြင်း။ ၂ အကျဉ်းသားအဖြစ် ဖမ်းဆီးခြင်း။ ၃ စစ်သုံ့ပန်းအဖြစ် ဖမ်းဆီးခြင်း။

[اُسِرَ ـ] [ـالْبَوْلُ](ဆီး)ချုပ်သည်။ ဆီးမသွားနိုင်ပဲရှိသည်။

[اُسْرٌ] (ဆီး)ချုပ်ခြင်း။ ဆီးမသွားနိုင်ပဲရှိခြင်း။

[اَسِرٌ] (ဆီး)ချုပ်သူ။ ဆီးမသွားနိုင်ပဲရှိသူ။

[اِسْتَاْسَرَ] ၁ ဖမ်းဆီးသည်။ ၂ အကျဉ်းသားအဖြစ်ဖမ်းဆီးသည်။ ၃ အကျဉ်းသားအဖြစ် အညံ့ခံသည်။

[اَلْاِسَارُ] ၁ အကျဉ်းသားကို ချည်နှောင်သည့်ကြိုး။ ၂ လက်ထိပ်။ ၃ ချည်နှောင်သည့်

✿[اَلْاَسْطَبَّةُ] ဂုံလျှော် သို့မဟုတ်ဝါဂွမ်းအကြမ်း။
✿[اَلْاِسْطَبْلُ] မြင်းစောင်း။
✿[اَلْاَسْطُرْلَابُ][ဂြိုဟ်နက္ခတ်တို့၏ပမာဏနှင့် အကွာအဝေးကို တိုင်းတာသည့်ကိရိယာ။
✿[اَلْاَسْطُقُسُّ][❶ဓါတ်သဘာဝ။ ❷ဒြပ်စင်။
[اَلْاَسْطُقُسَّاتُ]ဓါတ်ကြီးလေးပါး(ရေ၊ မြေ၊ လေ၊ မီး)။
✿[اَلْاَسْطُوْرَةُ]❶ပုံပြင်။ ဒဏ္ဍာရီ။ ❷အခြေအမြစ်မရှိသော ယုံတမ်းစကား။(ج)[اَسَاطِيْرُ]။
✿[اَلْاَسْطُوْلُ]ရေတပ်သင်္ဘောများ။ သယ်ယူပို့ဆောင်ရေးသင်္ဘောများ။ ကုန်တင်ရေယာဉ်တပ်ဖွဲ့။(ج)[اَسَاطِيْلُ]။
✿[اَلْاَسْطُوَانَةُ]❶တိုင်။ မဏ္ဍိုင်။ ❷ထုလုံးရှည်။ ❸အသံဖမ်းတိပ်ခွေ။(ج)[اَسَاطِيْنُ]။
[اَسَاطِيْنُ الْعِلْمِ]မဟာဘွဲ့ရရှိသူများ။ အထူးတတ်မြောက်ကျွမ်းကျင်သူများ။
✿ [اَسِفَ ـَ] ❶[ـعَلَيْهِ]ပူဆွေးသောကရောက်သည်။ ကြေကွဲသည်။ နာကျင်ခံစားရသည်။ ❷[ـلَهُ]နောင်တရသည်။
[اَسَفٌ] ❶ပူဆွေးသောကရောက်ခြင်း။ ကြေကွဲခြင်း။ နာကြင်ခံစားရခြင်း။ ❷နောင်တရခြင်း။
[اَسِفٌ ـ اَسَفٌ ـ اَسِيْفٌ]❶ပူဆွေးသောကရောက်သူ။ ကြေကွဲသူ။ နာကြင်ခံစားရသူ။ ❷နောင်တရသူ။
[اَسَّفَ] ❶ပူဆွေးသောကရောက်စေသည်။ ကြေကွဲစေသည်။ နာကျင်ခံစားရစေသည်။ ❷နောင်တရစေသည်။
[تَاَسَّفَ] ❶[ـعَلَيْهِ]ပူဆွေးသောကရောက်သည်။ ကြေကွဲသည်။ နာကြင်ခံစားရသည်။

ကိရိယာ။(ج)[اُسُرٌ]။
[اَلْاَسْرُ] ❶ခန္ဓာကိုယ်ကြံ့ခိုင်မှု။[شَدَّاللّٰهُ اَسْرَهُ]အလ္လာဟ်အရှင်မြတ်က သူ၏ရုပ်ခန္ဓာကို ကြံ့ခိုင်စေတော်မူသည်။ ❷ချည်နှောင်မှု။ အနှောင်အဖွဲ့။ ❸ဟူဟူသရွေ့။ အားလုံး။ [هٰذَا الشَّيُّ لَكَ بِاَسْرِهِ]ဒီအရာအားလုံး မင်းအတွက်ချည်းပဲ။
[اَلْاَسْرُ ـ اَلْاُسُرُ]ဆီးချုပ်ခြင်း။
[اَلْاُسْرَةُ] ❶သံချပ်အကျႌ။ ❷မိသားစု။ ❸အကျိုးတူ ပေါင်းစပ်ပါဝင်သော အစုအဖွဲ့။(ج)[اُسَرٌ]။
[اَلْاَسِيْرُ] ❶အကျဉ်းသား။ ❷စစ်သုံ့ပန်း။(ج)[اَسَارَى ـ اُسَارَى ـ اُسَرَاءُ]။
✿[اَلْاَسْرُبُّ] ခဲသတ္တု။
✿ [اَسَّ ـُ] ❶ဖျက်ဆီးသည်။ အဖျက်လုပ်ငန်းလုပ်သည်။ ❷[ـالْبِنَاءَ]အုပ်မြစ်ချသည်။ ❸[ـفُلَانًا]ဒေါသဖြစ်အောင်နှိုးဆွသည်။
[اَسٌّ] ❶ဖျက်ဆီးခြင်း။ အဖျက်လုပ်ငန်းလုပ်ခြင်း။ ❷အုတ်မြစ်ချခြင်း။ ❸ဒေါသဖြစ်အောင်နှိုးဆွခြင်း။
[اَسَّسَ] [ـالْبِنَاءَ]အုပ်မြစ်ချသည်။
[اَلْاَسَاسُ] ❶အုပ်မြစ်။ ❷အခြေခံ။ ❸ *[اَلنِّظَامُ الْاَسَاسِيُّ]* အခြေခံဥပဒေ။
[اَلْاَسُّ ـ اَلْاِسُّ ـ اَلْاُسُّ]❶အုပ်မြစ်။ ❷အခြေခံ။ ❸ရှေးဟောင်းခေတ်ကာလ။
[اَلْاُسُّ] ❶အခြေခံအုပ်မြစ်။[قَلَعَهُ مِنْ اُسِّهِ]အရင်းအမြစ်မှ ဖြိုချသည်။ ❷ခြေရာလက်ရာ။ ကျန်ရစ်ခဲ့သည့်အမှတ်အသား။ ❸မီးကြွင်းမီးကျန်။ ❹နလုံးသား။(ج)[اِسَاسٌ ـ اَسَاسٌ]။
[اَلْمُؤَسَّسَةُ] ❶အခြေခံအုပ်မြစ်။ ❷အဖွဲ့အစည်း။

❷ နောင်တရသည်။

[اَلْآسِيْفُ] ❶ အခကြေးငွေဖြင့် အလုပ်လုပ်သူ။ ❷ ပိန်လှီသူ။ ❸ စိတ်ဓါတ်ပျော့ညံ့သူ။ ❹ မျက်ရည်လွယ်သူ။(ج)[اُسَفَاءُ]။

✿[اَلْإِسْفَانَاخُ]ဟင်းနုနွယ်ပင်။

✿[اَلْآسْفَلْتُ] ကတ္တရာစေး။

✿[اَلْإِسْفَنْجُ] ❶ ပင်လယ်ရေမြှုပ်ကောင်။ ❷ ရေမြှုပ်။

✿[اَلْإِسْفِيْدَاجُ]ခဲဖြူ(သတ္တု)။ကြည့်[اَلْإِسْبِيْدَاجُ]။

✿[اَلْإِسْفِيْنُ] သပ်။ သပ်ချောင်း။[دَقَّ بَيْنَهُمْ إِسْفِيْنًا]သူတို့ကြားမှာ သပ်လျှိုသည်(ရန်တိုက်သည်)။

✿[اَلْإِسْقَالَةُ] ငြမ်း။ အမြင့်သို့တက်ရန်ဆင်ထားသော ကြိုးငြမ်းသို့မဟုတ်သစ်ငြမ်း၊ ဝါးငြမ်း။ (ج)[اَسَاقِيْلُ]။

✿[اَلْآسْقَرْبُوْطُ]အဟာရချို့တဲ့သည့်ရောဂါ။ စကားဗီရောဂါ။

✿[اَلْآسْقُفُّ] ခရစ်ယာန်ဘုန်းကြီးများ ခံယူသောဘွဲ့။

✿[اَلْآسْكُرُجَّةُ]ဟင်းချို၊ ရှလကာရည်ထည့်သောခွက်။

✿[اَلْإِسْكَارِيَّةُ]သံကောင်ကြောင့်ဖြစ်သော အစ်စ်ကာရီရောဂါ။

✿[اَلْإِسْكَافُ] ကြည့်(س ك ف)

✿[اَلْإِسْكَلَةُ] ကြည့်(س ك ل)

✿[اَلْإِسْكِيْمُ] ခရစ်ယာန်ဘုန်းကြီးများ ဝတ်သော အဝတ်။

✿[اَلْإِسْكِيْمُو]အက်စကီးမိုးလူမျိုး။

✿ [اَسَلَ ـُ] ညီညာပြန့်ပြူးသည်။ ချောမွေ့သည်။

[اَسَالَةٌ] ညီညာပြန့်ပြူးခြင်း။ ချောမွေ့ခြင်း။

[اَسَّلَ] ❶ ညီညာပြန့်ပြူးစေသည်။ ချောမွေ့အောင်လုပ်သည်။ ❷ [ـُ الْحَدِيْدَ]ပါးလွှာသောသံပြားချပ်များ ပြုလုပ်သည်။ ❸ [ـُ السِّلَاحَ](လက်နက်ကို)ချွန်မြစေသည်။ ချွန်မြအောင် သွေးသည်။

[تَاَسَّلَ] (ဖခင်)ခြေရာနင်းသည်။ စရိုက်တူသည်။ ကြည့် (تاسن)

[اَلْآسَلُ] ❶ ကျူပင်တစ်မျိုး။ ❷ ရှည်လျားသောဆူး။ ❸ လှံ။ ❹ သံဖြင့်ပြုလုပ်၍ ထက်မြက်စွာသွေးထားသော သံများ၊ ဓါးစသည်။

[اَلْآسَلَةُ] ❶ ရှည်လျားဖြောင့်တန်း၍ ချောမွေ့အောင် ပြုလုပ်ထားသောအချောင်း၊ အတံ။ ❷ ထိပ်စွန်း။[اَسَلَةُ اللِّسَانِ]လျှာထိပ်။ ❸ ထိပ်ဦး(ဓါးဖျား၊ လှံဖျားစသည်)။

✿[اَلْآسْلُوْبُ] ကြည့် (س ل ب)

✿[اَلْآسْمَنْتُ] အင်္ဂတေ၊ ဘိလပ်မြေ။

✿[اَسْمَنْجُوْمُ]အပြာနုရောင်။

✿ [اَسِنَ ـَ] (လေ၊ ရေ)ညစ်ညမ်းသည်။

[اَسْنٌ ـ اُسُوْنٌ] (လေ၊ ရေ)ညစ်ညမ်းခြင်း။

[اَسِنَ ـَ] ❶ (လေ၊ ရေ)ညစ်ညမ်းသည်။ ❷ [ـَ فُلَانٌ]လေကောင်း၊ လေသန့်မရသဖြင့် မူးမေ့သည်။

[اَسَنٌ] လေကောင်း၊ လေသန့်မရသဖြင့် မူးမေ့ခြင်း။

[اَسِنٌ] လေကောင်း၊ လေသန့်မရသဖြင့် မူးမေ့သူ။

[تَاَسَّنَ] ❶ (လေ၊ ရေ)ညစ်ညမ်းသည်။ ❷ [ـَ وُدُّ فُلَانٍ]အချစ်ပေါ့သည်။ အချစ်ပြယ်သည်။ ❸ [ـَ عَهْدُ فُلَانٍ](ကတိ)ပျက်သည်။

[اَلْآسِنَةُ] ကြိုးသို့မဟုတ်ခါးပတ် ပြုလုပ်ရာ၌ သုံးသောသားရေ။(ج)[اَسَائِنُ ـ اُسُنٌ]။

✿ [اَسَا ـُ] ❶ စေ့စပ်ဖြန်ဖြေပေးသည်။ သင့်မြတ်စေသည်။ ❷ [ـــالْجُرْحَ]ဒဏ်ရာကို ပျောက်ကင်းအောင်ကုသည်။ ❸ [ـــالشَّيْءَ] ပျက်စီးနေသောအရာကို ကောင်းအောင်ပြုပြင်သည်။

[اَسْوٌ] စေ့စပ်ဖြန်ဖြေပေးခြင်း။ သင့်မြတ်စေခြင်း။

[اَلْاَسْوَارُ] စစ်ခေါင်းဆောင်။

[اَسِیَ ـَ] ❶ ကုသသည်။ ဝေဒနာကို သက်သာစေသည်။ ❷ ဖြေသိမ့်ပေးသည်။

[اَسْیٌ] ❶ ကုသခြင်း။ ဝေဒနာကို သက်သာစေခြင်း။ ❷ ဖြေသိမ့်ပေးခြင်း။

[اَسِیَ ـَ] ပူဆွေးဝမ်းနည်းသည်။

[اَسًا] ပူဆွေးဝမ်းနည်းခြင်း။

[اَسٍ ـ اَسِیٌّ ـ اَسْوَانٌ ـ اَسْیَانٌ]ပူဆွေးဝမ်းနည်းသူ။

[اٰسَا] ပူဆွေးဝမ်းနည်းအောင် လုပ်သည်။ ဝမ်းနည်းကြေကွဲစေသည်။

[اٰسَی] ❶ ညီညာအောင်လုပ်သည်။ ပြေပြစ်ချောမွေ့စေသည်။ ❷ [ـــ فُلَانًا بِمَالِهِ]ရရှိစေသည်။ ပေးကမ်းသည်။ ❸ အတူတကွ မျှဝေခံစားသည်။[اِنَّ اَخَاكَ مَنْ اٰسَاكَ]အသင့်အားသာတူညီမျှ ဆက်ဆံသူသည်သာ အသင်*၏ညီ၊ အစ်ကို*ဖြစ်သည်။(စစ်မှန်သော မိတ်ဆွေဖြစ်သည်။) ❹ [ـــ فُلَانًا بِمُصِيْبَتِهِ]ဖြေသိမ့်အားပေးသည်။

[اَسَّی] ❶ စေ့စပ်ပေးသည်။ ညှိနှိုင်းပေးသည်။ ပြေလည်အောင်ဆောင်ရွက်ပေးသည်။ ❷ အားပေးစကားပြောသည်။

[اِئْتَسٰی] ❶ နောက်လိုက်သည်။ ❷ စံနမူနာယူသည်။

[تَاٰسَی] ❶ အချင်းချင်း ပြေလည်အောင် ညှိနှိုင်းဆောင်ရွက်သည်။ ❷ တစ်ဦးနှင့်တစ်ဦး သင့်မြတ်အောင်နေသည်။

[تَاَسَّی] ❶ နောက်လိုက်သည်။ ❷ စံနမူနာယူသည်။

[اَلْاٰسِی] ဆရာဝန်။ ခွဲစိတ်ကုသသူ။(ဇ)[اِسَاءٌ ـ اُسَاةٌ]။

[اَلْاٰسِیَةُ] ❶ မဏ္ဍိုင်။ ❷ အခြေခံအုပ်မြစ်။ ❸ အခြေခံခိုင်မာသော အဆောက်အဦး။ (ဇ)[اَوَاسٍ]။

[اَلْاُسْوَةُ] ❶ စံနမူနာ။ ❷ ခံယူကျင့်သုံးအပ်သော အပြုအမူ။ ❸ ဥပမာပုံစံ။

[اَلْمَاٰسَاةُ] သမိုင်းအဖြစ်အပျက်တို့ကို ပြောင်မြောက်စွာဖေါ်ညွှန်းနိုင်ပြီး ကြေကွဲဖွယ် ဇာတ်သိမ်းခန်းဖြင့် ကပြဖြေဖျော်သည့် ကြေကွဲဖွယ်ပြဇာတ်။(ဇ)[مَاٰسٍ]။

✿[اَسْيَا ـ اٰسِيَا] အာရှတိုက်။

✿[اَلْاَسِيْتُوْنُ] ထူးခြားသောအနံ့ရှိပြီး အငွေ့ပြန်တတ်သော ဓါတ်ငွေ့ရည်တစ်မျိုး။

✿ [اَشَبَ ـِ] ❶ စုပေါင်းရောနှောသည်။ ❷ ရောမွှေသည်။ ❸ [ـــ فُلَانًا]ပြစ်တင်ရှုတ်ချသည်။ ဝေဖန်ကဲ့ရဲ့သည်။

[اَشْبٌ] ❶ စုပေါင်းရောနှောခြင်း။ ❷ ရောမွှေခြင်း။ ❸ ပြစ်တင်ရှုတ်ချခြင်း။ ဝေဖန်ကဲ့ရဲ့ခြင်း။

[اَشِبَ ـَ] ❶ အကိုင်းအလက် ထူထပ်စွာရှင်သန်ပေါက်ရောက်သည်။ ထူထပ်များပြားသည်။ ❷ [ـــ الْاَمْرُ]အမှုပွေသည်။ ဇာတ်လမ်းရှုပ်ထွေးသည်။ ပြဿနာပေါင်းစုံကျရောက်သည်။ ❸ [ـــ بَيْنِی وَبَيْنَهُ](သူနှင့်ကျွန်

တော်၏ကြား၌)အချစ်ပြယ်သည်။

[اَشِبَ] အကိုင်းအလက် ထူထပ်စွာ ရှင်သန်ပေါက်ရောက်သော။ ထူထပ်များပြားသော။

[اَشَّبَ] ❶ စုပေါင်းရောနှောသည်။ ❷ ရောမွှေသည်။ ❸ [ـفُلَانًا]အလွန်အမင်း ပြစ်တင်ရှုတ်ချသည်။ ဝေဖန်ကဲ့ရဲ့သည်။ ❹ [ـبَيْنَهُمْ] ပြဿနာဖန်တီးသည်။ ခိုက်ရန်ဖြစ်ပွားအောင် ရန်ထောင်ပေးသည်။ ❺ သတ္တုစပ်ပြုလုပ်သည်။

[اِئْتَشَبَ] စုပေါင်းရောနှောသည်။ စုပြုံရောထွေးသည်။

[تَاَشَّبَ] ❶ အကိုင်းအလက် ထူထပ်စွာရှင်သန်ပေါက်ရောက်သည်။ ထူထပ်များပြားသည်။ ❷ [ـالْاَمْرُ]အမှုပွေသည်။ ဇာတ်လမ်းရှုပ်ထွေးသည်။ ပြဿနာပေါင်းစုံကျရောက်သည်။ ❸ [ـبَيْنِيْ وَبَيْنَهُ](သူနှင့်ကျွန်တော်၏ကြား၌)အချစ်ပြယ်သည်။ ❹ စုပြုံတိုးဝှေ့သည်။ အလုအယက်နေရာယူသည်။

[اَلْاُشَابَةُ] ❶ လူစုလူဝေး။ ❷ မတရားသဖြင့် ရယူထားသော ပစ္စည်း။ ❸ သမ္မာအာဇီဝမကျသောနည်းဖြင့် ရှာဖွေထားသော ငွေကြေး။ ❹ သတ္တုစပ်၊ အလှိုင်း။ (ج)[اَشَائِبُ]။

✿ [اَشَرَ ـِ] ❶ [ـالْخَشَبَةَ](သစ်သားကို)ဖြန့်ခင်းသည်။ ❷ ဖြန့်နှံ့စေသည်။ ❸ (အသွားများကို)ချွန်မြအောင်သွေးသည်။

[اَشْرٌ] ❶ (သစ်သားကို)ဖြန့်ခင်းခြင်း။ ❷ ဖြန့်နှံ့စေခြင်း။ ❸ (အသွားများကို)ချွန်မြအောင်သွေးခြင်း။

[اَشِرَ ـَ] ❶ ပျော်ရွှင်တက်ကြွသည်။ မြူးသည်။ ❷ မောက်မာသည်။ မာနကြီးသည်။ ❸ [ـالْبَرْقُ](လျှပ်စီး)တဖြတ်ဖြတ် တောက်ပသည်။ ❹ [ـالنَّبَاتُ](အပင်)ယိမ်းထိုးလှုပ်ရှားသည်။

[اَشَرٌ] ❶ ပျော်ရွှင်တက်ကြွခြင်း။ မြူးခြင်း။ ❷ မောက်မာခြင်း။ မာနကြီးခြင်း။ ❸ (လျှပ်စီး)တဖြတ်ဖြတ် တောက်ပခြင်း။ ❹ (အပင်) ယိမ်းထိုးလှုပ်ရှားခြင်း။

[اَشِرٌ-اَشْرَانُ] ❶ ပျော်ရွှင်တက်ကြွသူ။ မြူးသူ။ ❷ မောက်မာသူ။﴿بَلْ هُوَ كَذَّابٌ اَشِرٌ﴾သို့သာမက သူသည် အလွန်လိမ်ညာ၍ မောက်မာသူဖြစ်၏။

[اَشَّرَ] ❶ [ـالْخَشَبَةَ](သစ်သားကို)ဖြန့်ခင်းသည်။ ❷ ဖြန့်နှံ့စေသည်။ ❸ (ဓါးသွား၊ လှံသွားစသည်ကို)ချွန်မြအောင်သွေးသည်။ ❹ [ـعَلَى الْكِتَابِ]ကျမ်းညွှန်းရေးသည်။ မိမိ၏ အမြင်ကို ထည့်သွင်းရေးသားသည်။

[مُؤَشَّرٌ] ❶ ဖြန့်ခင်းထားသော(သစ်သား)။ ❷ ဖြန့်နှံ့နေသော(အရာ)။ ❸ ချွန်မြအောင် သွေးထားသော(အသွား)။ ချွန်မြသော(အရာ)။

[ثَغْرٌ مُؤَشَّرٌ]ချွန်ထွက်နေသောလည်စေ့။

[اَلْاَشَارَةُ] ❶ လွှစာ။ ❷ သစ်တိုသစ်စ။

[اَلْاِشَارَةُ] ကြည့် [ش و ر]

[اَلْاُشُرُ] သွားများညီညာထက်မြက်မှု။

[اَلْمِئْشَارُ] လွှ။ (ج)[مَاشِرُ]။

✿[اَلْاِشْرَاسُ] ကော်ရည်ထုတ်သော အပင်တစ်မျိုး။

✿ [اَشَّ ـُ] ❶ တုတ်သို့မဟုတ်ချိုတံဖြင့် ခူးဆွတ်သည်။ ခူးဆွတ်သည်။ ❷ ရွှင်မြူးသည်။ ပျော်သည်။

[اَشٌّ] ❶ တုတ်သို့မဟုတ်ချိုတံဖြင့် ခူးဆွတ်

ခြင်း။ ခုံးဆွတ်ခြင်း။ ❷ ရှင်မြူးခြင်း။ ပျော်ခြင်း။

[اَلْاَشُّ] မုန့်ခြောက်။

✽ [اَلْاِشْفٰی] အပေါက်ဖောက်သည့်စူး။ တံစို့။

✽ [تَاَشَّنَ] သရော်ဖြင့်ဆေးကြောသည်။

[اَلْاُشْنَانُ۔اَلْاِشْنَانُ] ❶ သရော်။ ❷ ဆပ်ပြာ။ ❸ သရော်ပင်။ ❹ ဖွတ်လျှော်ရာ၌ ဆပ်ပြာကဲ့သို့ အသုံးပြုရသော သရော်ပင်၏ပြာ။

[اَلْاُشْنَةُ] ကပ်ပါးပင်တစ်မျိုး။(ج)[اُشَنٌ]။

✽ [اَصَدَ۔] ❶ ပိတ်သည်။ ❷ ဖုံးကာသည်။

[اَصْدٌ۔اِصَادٌ] ❶ ပိတ်ခြင်း။ ❷ ဖုံးကာခြင်း။

[اَصَدَ۔اَوْصَدَ] ❶ ပိတ်သည်။ ❷ ဖုံးကာသည်။

[اِيْصَادٌ] ❶ ပိတ်ခြင်း။ ❷ ဖုံးကာခြင်း။

[مُؤْصَدٌ] ❶ ပိတ်ထားသော(အရာ)။ ❷ ဖုံးကာထားသော(အရာ)။﴿اِنَّهَا عَلَيْهِمْ مُؤْصَدَةٌ﴾မုချကေန် ထိုမီးသည် ၎င်းတို့အပေါ်၌ ပိတ်ဆို့ထားမည်။

[اَصَّدَ] ❶ [۔الثَّوْبَ]လက်မပါသည့်အင်္ကျီပြုလုပ်သည်။ လက်ပြတ်အင်္ကျီချုပ်သည်။ ❷ [۔الْجَارِيَةَ]မိန်းကလေးကို လက်မပါသည့်အင်္ကျီဝတ်ဆင်ပေးသည်။

[اَلْاَصْدَةُ] လက်မပါသည့်အင်္ကျီ။ အင်္ကျီလက်ပြတ်။ (ج)[اُصُدٌ]။

[اَلْاِصْدَةُ] လူမျိုးစုများ စုဝေးရာနေရာ။ လူစုလူဝေး။ လူစုရာအရပ်။(ج)[اِصَدٌ]။

[اَلْاَصِيْدُ] ခွက်။ ပန်းကန်။

[اَلْاَصِيْدَةُ] ❶ လက်မပါသည့်အင်္ကျီ။ အင်္ကျီလက်ပြတ်။ ❷ ခြံ။(ကြက်ခြံ၊ ဘဲခြံစသည်)။ (ج)[اُصُدٌ۔اَصَائِدُ]။

[اَلْمُؤَصَّدُ] လက်မပါသည့်အင်္ကျီ။ အင်္ကျီလက်ပြတ်။

[اَلْمُؤَصَّدَةُ] လက်မပါသည့်အင်္ကျီ။ အင်္ကျီလက်ပြတ်။

✽ [اَصَرَ۔] ❶ ချည်နှောင်သည်။ ❷ ဖမ်းဆီးသည်။ ချုပ်နှောင်သည်။ ❸ သံယောဇဉ်ဖြစ်သည်။ ❹ ချိုးဖဲ့သည်။ ❺ ထိန်းသိမ်းထားသည်။ [اَصَرَ مَالَهُ عَنْهُ]သူ့ပစ္စည်းကို မပေးပဲ ထိန်းသိမ်းထားသည်။ ❻ [۔الْخَيْمَةَ]ရွက်ဖျင်တဲအတွက် ကြိုးပြုလုပ်သည်။

[اَصْرٌ] ❶ ချည်နှောင်ခြင်း။ ❷ ဖမ်းဆီးခြင်း။ ချုပ်နှောင်ခြင်း။ ❸ သံယောဇဉ်ဖြစ်ခြင်း။ ❹ ချိုးဖဲ့ခြင်း။ ❺ ထိန်းသိမ်းထားခြင်း။ ❻ ရွက်ဖျင်တဲအတွက် ကြိုးပြုလုပ်ခြင်း။

[اِئْتَصَرَ] ❶ [۔الْاَرْضُ](မြေ၌)အပင်များ တစ်ပင်နှင့်တစ်ပင် ချိတ်ဆက်သည်။ အပင်များ ရှည်လျားထူထပ်စွာ ပေါက်ရောက်သည်။ ❷ [۔الْقَوْمُ]လူဦးရေများပြားသည်။

[اَلْاَصِرَةُ] ❶ သံယောဇဉ်။ ❷ ကြင်နာမှု။ ❸ ထောက်ထားညှာတာမှု။ ❹ လက်မောင်းရင်းနှစ်ဘက်ကို ချည်နှောင်ရသောကြိုး။ (ج)[اَوَاصِرُ]။

[اَلْاِصَارُ] ❶ လက်မောင်းရင်းနှစ်ဘက်ကို ချည်နှောင်ရသောကြိုး။ ❷ ရွက်ဖျင်တဲဆောက်လုပ်ရာ၌ အသုံးပြုရသောကြိုး။(ج)[اِصَرَةٌ۔اُصُرٌ]။

[اَلْاِصْرُ] ❶ နိုင်မာသော ကတိဝန်ခံချက်။ ❷ အလွန်လေးလံသောဝန်ထုပ်၊ ဝန်ပိုး။ အလွန်လေးလံသောတာဝန်။

﴿قَالَ ءَاَقْرَرْتُمْ وَاَخَذْتُمْ عَلٰى ذٰلِكُمْ اِصْرِى﴾

အလ္လာဟ်အရှင်မြတ်က အသင်တို့သည် ယင်းကိစ္စနှင့်စပ်လျဉ်း၍ ဝန်ခံခဲ့ကြပြီး ငါအရှင်မြတ်၏ကတိတော်ကိုလည်း လက်ခံယူခဲ့ကြပြီ မဟုတ်လောဟု မိန့်ကြားတော်မူ၏။

﴿رَبَّنَا وَلَا تَحْمِلْ عَلَيْنَا إِصْرًا كَمَا حَمَلْتَهُ عَلَى الَّذِينَ مِنْ قَبْلِنَا﴾ အို ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကျွန်တော်မျိုးတို့၏ အလျင် ရှိခဲ့ကြကုန်သောသူတို့အား ထမ်းဆောင်စေတော်မူသကဲ့သို့ လေးလံသောတာဝန်ကို သတ်မှတ်တော်မမူပါနှင့်။

[اَلْاَصِيْرُ] ရှည်လျားရှုပ်ထွေးသော(အပင်၊ ဆံပင်၊ ချည်ခင်စသည်)။(ဇ)[اُصُرٌ]။

[اَلْمَاصِرُ] ❶ သင်္ဘောများဖြတ်သန်းမှုမပြုနိုင်ရန် မြစ်၌ကန့်လန့် ဖြတ်ကာရံထားသော သံကြိုး။ ❷ ဖြတ်သန်းသွားလာမှုမပြုနိုင်ရန် လမ်း၌ကာရံထားသော အတားအဆီး။ (ဇ) [مَاصِرُ]။

✿ [اَصَّ ـُ] ❶ [ـــ اللَّحْمُ](အသားအရေ)ကျစ်လျစ်မာကျောသည်။ ပြည့်တင်းနိုင်မာသည်။ ❷ [ـــ النَّاقَةُ](ကုလားအုတ်၏အသားအရေ) မာကျောသည်။ ပြည့်တင်းနိုင်မာသည်။ ❸ [ـــ الْقَوْمُ بَعْضُهُمْ بَعْضًا]လူခြေထူထပ်ရှုပ်ထွေးသည်။ ❹ [ـــ الشَّيْءَ]တိကျခိုင်မာစေသည်။

[اَصٌّ-اَصِيْصٌ]❶ အသားအရေ မာကျောခြင်း။ ပြည့်တင်းနိုင်မာခြင်း။ ❷ လူခြေထူထပ်ရှုပ်ထွေးခြင်း။ ❸ တိကျခိုင်မာစေခြင်း။

[اَصُوْصٌ] အသားအရေ မာကျောသော(ကုလားအုတ်)။(ဇ)[اُصُصٌ-اَصَائِصُ]။

[اَصَّصَ] နိုင်မာစေသည်။ မာပြင်းစေသည်။ သိပ်သည်း ကျစ်လျစ်စေသည်။

[اِئْتَصَّ] ❶ စုရုံးသည်။ ❷ [ـــ الْقَوْمُ]လူခြေထူထပ်သည်။

[اَلْاَصَّاصُ] ❶ မြေသည်သည့် ဒယ်အိုးပြုလုပ်သူ။ ❷ ပန်းအိုးပြုလုပ်သူ။

[اَلْاَصِيْصُ] ❶ မြေသည်သည့် ဒယ်အိုး။ ❷ ပန်းအိုး။(ဇ)[اَصَائِصُ-اُصُصٌ]။

[اَلْاَصِيْصَةُ] နီးကပ်စွာ တည်ဆောက်ထားသော အိမ်များ။

✿[اَلْاَصْطُبَّةُ] ဂုံလျှော်သို့မဟုတ် ဝါဂွမ်းအကြမ်း။ ကြည့်[اَلْاُسْطُبَّةُ]

✿[اَلْاِصْطَبْلُ]မြင်းစောင်း။ကြည့်[اَلْاِسْطَبْلُ]

✿[اَلْاِصْطَفْلِيْنُ]မုန်လာဥတစ်မျိုး။

✿[اَلْاِصْطِيْلُ]မျက်မမြင်။

✿ [اَلْاَصَفُ] အညွန့်ကို ဟင်းချိုရည်သို့မဟုတ် ဆားရည်စိမ်ချဉ်ဖတ်အဖြစ် စားသုံးရသော အပင်တစ်မျိုး။

✿ [اَصَلَ ـُ] အရင်းအမြစ်ကို စူးစမ်းလေ့လာသည်။ အနုလုံပဋိလုံ လေ့လာသည်။

[اَصْلٌ] အရင်းအမြစ်ကို စူးစမ်းလေ့လာခြင်း။ အနုလုံပဋိလုံ လေ့လာခြင်း။ အသေးစိတ်လေ့လာခြင်း။

[اَصِلَ ـَ] ပျက်စီးသည်။ [اَصِلَ اللَّحْمُ]အသားပုပ်သည်။ အသားပျက်သည်။

[اَصَلٌ] ပျက်စီးခြင်း။ ပုပ်ခြင်း။

[اَصُلَ ـُ] ❶ အမြစ်တွယ်သည်။ ❷ တည်တံ့သည်။ ခိုင်မာသည်။ ❸ ခွန်အားရှိသည်။ ❹ [ـــ الرَّاْيُ](အတွေးအခေါ်)မြင့်မားထက်မြက်သည်။ အတွေးအမြင် ကောင်းမွန်နိုင်မာသည်။ ❺ [ـــ الْاُسْلُوْبُ]နည်းလမ်းမှန်ကန်

သည်။ စနစ်ကျသည်။ ❻ [ـ النَّسَبُ]မျိုးရိုး မြင့်မြတ်မှန်ကန်သည်။

[اَصَالَةٌ] ❶ အမြစ်တွယ်ခြင်း။ ❷ တည်တံ့ခြင်း။ ခိုင်မာခြင်း။ ❸ ခွန်အားရှိခြင်း။ ❹ အတွေးအခေါ်မြင့်မားထက်မြက်ခြင်း။ ❺ နည်းလမ်းမှန်ကန်ခြင်း။ စနစ်ကျခြင်း။ ❻ မျိုးရိုးမြင့်မြတ် မှန်ကန်ခြင်း။

[اَصِيْلٌ] ❶ အမြစ်တွယ်သော(အပင်)။ ❷ တည်တံ့သူ။ ခိုင်မာသူ။ ❸ ခွန်အားရှိသူ။ ❹ အတွေးအခေါ်မြင့်မားထက်မြက်သူ။ ❺ နည်းလမ်းမှန်ကန်သူ။ စနစ်ကျသူ။ ❻ မျိုးရိုးမြင့်မြတ်မှန်ကန်သူ။

[اَصَلَ] နေညိုချိန်ကျရောက်သည်။

[اِيْصَالٌ] နေညိုချိန်ကျရောက်ခြင်း။

[اَصَّلَ] အခိုင်အမာတည်ဆောက်သည်။ အခိုင်အမာ အုတ်မြစ်ချသည်။

[تَاَصَّلَ] ❶ အမြစ်တွယ်သည်။ ❷ တည်တံ့သည်။ ခိုင်မာသည်။ ❸ ခွန်အားရှိသည်။ ❹ [ـ الرَّاْىُ](အတွေးအခေါ်)မြင့်မားထက်မြက်သည်။ အတွေးအမြင် ကောင်းမွန်ခိုင်မာသည်။ ❺ [ـ الْاُسْلُوْبُ]နည်းလမ်းမှန်ကန်သည်။ စနစ်ကျသည်။ ❻ [ـ النَّسَبُ]မျိုးရိုးမြင့်မြတ်မှန်ကန်သည်။

[اِسْتَاْصَلَ] ❶ [ـ الشَّيْءَ]အခြေခိုင်သည်။ အခြေခံကောင်းသည်။ ❷ [ـ الشَّيْءَ]အမြစ်လှန်သည်။ အမြစ်ပါမကျန်အောင်နှုတ်သည်။

[اَلْاَصَالَةُ] ❶ အတွေးအခေါ် မြင့်မားထက်မြက်မှု။ ❷ နည်းလမ်းမှန်ကန်မှု။ စနစ်ကျမှု။ ❸ မျိုးရိုးမြင့်မြတ်မှန်ကန်မှု။

[اَصْلٌ] ❶ အမြစ်။ ❷ အခြေခံ။ အုတ်မြစ်။ ❸ မျိုးရိုးမြင့်မြတ်မှန်ကန်မှု။ ❹ မူရင်း။ ❺ ဥပဒေစည်းမျဉ်း။ ❻ လုံးဝ။[مَافَعَلْتُهُ اَصْلًا]ဒါကို ငါလုံးဝမလုပ်ခဲ့ရဘူး။(ج)[اُصُوْلٌ]။

[اَلْاَصْلِيُّ] ❶ မူရင်းနှင့်ဆိုင်သော။ ❷ အခြေခံကျသော။

[اَلْاَصَلَةُ] မြွေပွေး။

[اَلْاُصُوْلُ] ❶ အခြေခံစည်းမျဉ်းများ။ ❷ ဥပဒေသများပြဋ္ဌာန်းရန် အခြေခံစည်းမျဉ်းများ။ [اُصُوْلُ الشَّرْعِ]အစ္စလာမ့်တရားတော်သို့မဟုတ် အစ္စလာမ့်ဥပဒေ၏အခြေခံကြီး(၄)ရပ်။ (ယင်းအခြေခံလေးရပ်မှာ–၁။ကုရ်အာန်ကျမ်းတော်မြတ်။ ၂။'စန္နဟ်'တမန်တော်မြတ်၏ဘဝဆောက်တည်မှုပုံစံ။ ၃။'အိဂျ်မာအ်'ခေတ်အဆက်ဆက် အစ္စလာမ့်သုခမိန်ကြီးများ၏ညီညွတ်သောအဆုံးအဖြတ်။ ၄။'ကိယာစ်'အထက်ပါအခြေခံသုံးရပ်ကို အခြေခံ၍ နှိုင်းယှဉ် သုံးသပ်ထားသော အဆုံးအဖြတ်။

[اَلْاَصِيْلُ] နေညိုချိန်။(ج)[اُصُلٌ۔ اُصْلَانٌ۔ اَصَائِلُ]။

[اَلْاَصِيْلَةُ] ❶ တည်ရှိသောပစ္စည်း။ ❷ အားလုံး။ တစ်ခုမကျန်။ တစ်ယောက်မကျန်။ [اَصِيْلَةُ الرَّجُلِ]လူတစ်ယောက်၏ ခိုင်မာသောပစ္စည်း။ တည်ရှိသောပစ္စည်း။[اَخَذَ الشَّيْءَ بِاَصِيْلَتِهِ]တစ်ခုမကျန်ယူသည်။[جَاءُوْا بِاَصِيْلَتِهِمْ]တစ်ယောက်မကျန်လာသည်။

✿ [اَضَّ ـ] ❶ ရစ်ခွေသည်။ တွန့်လိမ်သည်။ လူးလွန့်သည်။[ـ عِنْدَ الْوِلَادَةِ]မီးဖွားချိန်၌ နာကျင်သဖြင့် ခန္ဓာကိုယ်တွန့်လိမ်လူးလွန့်သည်။ ❷ [ـهُ الْاَمْرُ]ပူပင်သောကရောက်စေသည်။

❷ ဝန်ပိစေသည်။ ခက်ခဲကြပ်တည်းစေသည်။ ❸ [الشَئ ــ]ချိုးဖဲ့သည်။

[اِضَاضٌ] မီးဖွားချိန်နာကြင်သဖြင့် ခန္ဓာကိုယ်တွန့်လိမ်လူးလွန့်ခြင်း။

[اَضٌّ-اِضَاضٌ] ပူပင်သောကရောက်စေခြင်း။ ဝန်ပိစေခြင်း။ ခက်ခဲစေခြင်း။ ချိုးဖဲ့ခြင်း။

[اَضَّ] အလျင်စလို ပြုမူဆောင်ရွက်သည်။ အပြေးအလွှားသွားရောက်သည်။

[مُوَاضَّةٌ] အလျင်စလို ပြုမူဆောင်ရွက်ခြင်း။ အပြေးအလွှားသွားရောက်ခြင်း။

[اِئْتَضَّ] ❶ အခက်အခဲ ဆိုက်ရောက်သည်။ အကြပ်အတည်းတွေ့သည်။ ❷ [اِلَيْهِ ــ]အကြပ်အတည်းတွေ့သည်။ ❸ [الشَئ ــ]ရှာဖွေသည်။ ❹ [فُلَانًا ــ]ရိုက်သည်။

[اَلْاِضَاضُ] ❶ အပူရှိန်။ အပူငွေ့။ ❷ ခိုလှုံရာ။ နားခိုရာ။

[اَلْاُضُّ] အရင်းအမြစ်။ အခြေခံ။ အုတ်မြစ်။ (ج)[اِضَاضٌ]။

❁ [اَضِمَ ــ] ❶ အမုန်းထားသည်။ မုန်းတီးမှုကို သိုဝှက်ထားသည်။ အကောက်ကြံသည်။ အာဃာတထားသည်။ ❷ ဒုက္ခပေးသည်။

[اَضَمٌ] ❶ အမုန်းထားခြင်း။ မုန်းတီးမှုကို သိုဝှက်ထားခြင်း။ အကောက်ကြံခြင်း။ အာဃာတထားခြင်း။ ဒုက္ခပေးခြင်း။

❁ [اَلْاِضَاءُ] မိုးမခပင်များ စုဝေးပေါက်ရောက်ရာနေရာ။

❁. [اَلْاَضَاةُ] ရေအိုင်။ ရေစုဝေးရာနေရာ။(ج) [اَضَوَاتٌ ـ اَضَيَاتٌ]။

❁ [اَطَرَ ــ] ❶ ဘောင်ခတ်သည်။ ဘောင်တပ်ဆင်သည်။ ❷ ကိုင်းညွှတ်စေသည်။ ပျော့ပျောင်းစေသည်။ ကွေးညွှတ်စေသည်။

[اَطْرٌ] ❶ ဘောင်ခတ်ခြင်း။ ❷ ကိုင်းညွှတ်စေခြင်း။ ပျော့ပျောင်းစေခြင်း။

[اَطَّرَ] ❶ ဘောင်ခတ်သည်။ ဘောင်တပ်ဆင်သည်။ ❷ ကိုင်းညွှတ်စေသည်။ ပျော့ပျောင်းစေသည်။ ကွေးညွှတ်စေသည်။

[اِنْاَطَرَ] ကောက်ကွေးသည်။ ကိုင်းညွှတ်သည်။

[تَاَطَّرَ] ❶ ကောက်ကွေးသည်။ ကိုင်းညွှတ်သည်။ ❷ [الْمَرْاَةُ ــ](မိန်းမ)လမ်းလျှောက်ရာ၌ ကိုင်းညွှတ်သည်။ ကန့်ကလျ လမ်းလျှောက်သည်။ ❸ [ــ بِالْمَكَانِ]နေရာမှ မခွါနိုင်အောင်ဖြစ်သည်။

[اَلْاَطِرَةُ] ❶ သံယောဇဉ်။ ကြင်နာမှု။ ထောက်ထားညှာတာမှု။ ❷ လက်မောင်းရင်းနှစ်ဘက်ကို ချည်နှောင်ရသောကြိုး။ (ج) [اَوَاطِرُ]။

[اَلْاِطَارُ] ❶ ဘောင်။ ❷ ကုလားနား။ ❸ ဝိုင်းဖွဲ့နေသောလူစု။ ❹ သပျစ်ကိုင်းအညွန့်။ ❺ နှုတ်ခမ်းနှင့် နှုတ်ခမ်းမွေးကြားရှိ အစိတ်အပိုင်း။ ❻ မြားတံ၏နောက်ပိုင်းရှိလေးကိုင်းချိတ်ရာနေရာ။(ج)[اُطُرٌ]။

[اَلْاَطْرُ] လေးကိုင်း၏ကိုင်းညွှတ်နေသည့် အစိတ်အပိုင်း။

[اَلْاَطْرَةُ] ❶ ဘောင်။ ❷ ကုလားနား။ ❸ ဝိုင်းဖွဲ့နေသောလူစု။ ❹ သပျစ်ကိုင်းအညွန့်။ ❺ နှုတ်ခမ်းနှင့် နှုတ်ခမ်းမွေးကြားရှိ အစိတ်အပိုင်း။ ❻ မြားတံ၏နောက်ပိုင်းရှိလေးကိုင်းချိတ်ရာနေရာ။ ❼ ခြေသည်း၊ လက်သည်းအောက်ရှိအသား။(ج)[اُطَرٌ-اِطَارٌ]။

[اَلْاَطِيْرُ] အပြစ်။[اَخَذَنِى بِاَطِيْرِ غَيْرِى]အခြား သူ၏အပြစ်နှင့် ကျွန်တော်အရေးယူခံရ သည်။

[اَلْمَاطُوْرَةُ] လေးကိုင်း။ တူးလေး။(ج)[مَاطِرُ]။

✿[اَلْاَطْرَبُوْنُ]ရောမခေါင်းဆောင်။

✿ [اَطَّ ـِ] အသံပေးသည်။[ـ الْبَطْنُ]ဆာလောင်သဖြင့် ဗိုက်ထဲမှ အသံမြည်သည်။ ရေကိုများစွာသောက်သဖြင့် ဗိုက်ထဲမှ အသံမြည် သည်။ [ـ الظَّهْرُ]ဝန်လေးလံသဖြင့် ကျောရိုးမှ အသံမြည်သည်။[ـ الْاِبِلُ](ကုလားအုတ်)မောပန်းသဖြင့်၊ ဝန်လေးလံသဖြင့် အော်မြည်သည်။

[اَطٌّ ـ اَطِيْطٌ] အသံပေးခြင်း။ အသံမြည်ခြင်း။

✿ [اَلْاِطِلُ] ခါး။(ج)[آطَالٌ]။

[اَلْاَيْطَلُ] ခါး။(ج)[اَيَاطِلُ]။

✿[اَلْاَطْلَسُ] မြေပုံပေါင်းချုပ်။

✿ [اَطَمَ ـِ] ❶ မြို့သိပ်သည်။ စိတ်ထဲရှိသည်ကို မပြောပဲနေသည်။ ❷ [ـ بِيَدِهٖ]လက်ထဲရှိသောအရာကို သွားဖြင့်ကိုက်ဖဲ့သည်။ ❸ [ـ عَلَى الْبَيْتِ]ခန်းဆီးများကာရံသည်။

[اُطُوْمٌ] မြို့သိပ်ခြင်း။ စိတ်ထဲရှိသည်ကို မပြောပဲနေခြင်း။

*[اَطْمٌ] ❶ လက်ထဲရှိသောအရာကို သွားဖြင့်ကိုက်ဖဲ့ခြင်း။* ❷ ခန်းဆီးများကာရံခြင်း။

[اَطِمَ ـَ] ❶ ဆီး၊ ဝမ်းချုပ်သည်။ ❷ ဒေါသဖြစ်သည်။ ❸ စိတ်ထဲရှိသည်ကို မပြောပဲနေသည်။

[اَطَمٌ] ❶ ဆီး၊ ဝမ်းချုပ်ခြင်း။ ❷ ဒေါသဖြစ်ခြင်း။ ❸ စိတ်ထဲရှိသည်ကို မပြောပဲနေခြင်း။

[اَطَّمَ] ❶ ပိတ်သည်။ ❷ [ـ فُلَانًا]ဒေါသဖြစ်စေသည်။

[اَطَّمَ] ❶ ကာရံသည်။ ဖုံးအုပ်သည်။ ❷ [ـ الْاُطُمَ]ခံတပ်ကို မြင့်မားစွာတည်ဆောက်သည်။

[تَاَطَّمَ] ❶ စိတ်ထဲရှိသည်ကို မပြောပဲနေသည်။ မြို့သိပ်ထားသည်။ ❷ ဒေါသမပြေနိုင်အောင်ဖြစ်သည်။ အခဲမကျေဖြစ်သည်။ ❸ [ـ اللَّيْلُ]ညအမှောင်ထု နက်ရှိုင်းသည်။ ❹ [ـ السَّيْلُ]ရေစီးပြင်းထန်သည်။ လှိုင်းကြီးသည်။ ❺ [ـ النَّارُ]မီး တဟုန်းဟုန်းတောက်သည်။ ❻ [ـ الْبَوْلُ اَوِ الْبَرَازُ]ဆီး၊ ဝမ်းချုပ်သည်။

[اَلْاُطَامُ] လုံးဝဆီးချုပ်နေခြင်း။

[اَلْاُطْمُ ـ اَلْاُطُمُ] ❶ ခံတပ်။ ❷ မြို့ရိုး။ ❸ အလွန်မြင့်မားသည့်အိမ်။(ج)[آطَامٌ ـ اُطُوْمٌ]။

[اَلْاَطُوْمُ] ❶ ပင်လယ်လိပ်။ ❷ ယောက်သွား။ ❸ ဖြူး။(ج)[اُطُمٌ]။

✿[اُغَسْطُسُ] ဩဂုတ်လ။ ကြည့်[اٰب]

✿ [اَفَخَ ـِ] ဦးခေါင်းရိုးကို ရိုက်သည်။ နောက်စေ့ကို ရိုက်သည်။

[اَفْخٌ] ဦးခေါင်းရိုးကို ရိုက်ခြင်း။ နောက်စေ့ကိုရိုက်ခြင်း။

[اَلْيَافُوْخُ] ဦးခေါင်းရိုး။ ဦးခွံ။

✿ [اَفِدَ ـَ] ❶ နီးကပ်သည်။ ❷ ချည်းကပ်သည်။ ❸ လျှင်မြန်သည်။ ❹ အလျှင်အမြန်ပြုလုပ်သည်။

[اَفَدٌ] ❶ နီးကပ်ခြင်း။ ❷ ချည်းကပ်ခြင်း။ ❸ လျှင်မြန်ခြင်း။ အလျှင်အမြန်ပြုလုပ်ခြင်း။

[اِسْتَافَدَ] ❶ နီးကပ်သည်။ ❷ ချည်းကပ်သည်။ ❸ လျှင်မြန်သည်။ ❹ အလျှင်အမြန် ပြုလုပ်

သည်။

[اَلْاَفَدُ] သတ်မှတ်ထားသောအချိန်။

✿ [اَفَرَ ـِ] ❶ တက်ကြွသည်။ ❷ ခုန်အုပ်သည်။ ❸ [ـِ الْقِدْرُ](အိုး)ဆူပွက်သည်။ ❹ [ـِ الْحَيَوَانُ] ဝဖြိုးလာသည်။ ❺ [ـِ الْخَادِمُ]ပေါ့ပါးသွက်လက်သည်။ ဖြတ်ဖြတ်လတ်လတ် ဆောင်ရွက်သည်။

[اَفْرٌ-اُفُوْرٌ] ❶ တက်ကြွခြင်း။ ❷ ခုန်အုပ်ခြင်း။ ❸ ဆူပွက်ခြင်း။ ❹ ဝဖြိုးလာခြင်း။ ❺ ပေါ့ပါးသွက်လက်ခြင်း။ ❻ ဖြတ်ဖြတ်လတ်လတ် ဆောင်ရွက်ခြင်း။

[اِفْرٌ-اَفَّارٌ-مِئْفَرٌ] ❶ တက်ကြွသော(သူ)။ ❷ ခုန်အုပ်သော(သူ)။ ❸ ဆူပွက်သော(အရာ)။ ဝဖြိုးလာသော(သူ)။ ❺ ပေါ့ပါးသွက်လက်သော(သူ)။ ❻ ဖြတ်ဖြတ်လတ်လတ် ဆောင်ရွက်သော(သူ)။

[اَفِرَ ـَ] ❶ တက်ကြွသည်။ ❷ ဝဖြိုးလာသည်။

[اَفَرٌ] ❶ တက်ကြွခြင်း။ ❷ ဝဖြိုးလာခြင်း။

[اَفِرٌ-اَفْرَانُ] ❶ တက်ကြွသူ။ ❷ ဝဖြိုးလာသူ။

[اِسْتَافَرَ] ❶ တက်ကြွသည်။ ❷ ဝဖြိုးလာသည်။

[اَلْاَفْرَةُ] ❶ လူခြေထူထပ်ဆူညံမှု။ ❷ ဘေးဒုက္ခ။

[اَلْاَفَّارُ] အလွန်အပြေးသန်သော(သူ၊ မြင်းစသည်)။

[اَلْمِئْفَرُ] အစေခံ။ အလုပ်အကြွေးပြုရသူ။(ဇ) [مَافِرُ]။

✿[اَلْاِفْرَنْجُ-اَلْاِفْرَنْجَةُ] ပြင်သစ်လူမျိုး။

✿[اَلْاِفْرِيْزُ] ❶ စင်ဝင်အမိုး။ ❷ အိမ်၏နံရံ၊ ပြူတင်းစသည်တို့၌ အပြင်သို့ထုတ်ထားသော အစိတ်အပိုင်း။

✿[اِفْرِيْقِيَّةُ] အဖရိကတိုက်။

✿ [اَفَّ ـُ] ❶ စိတ်ဆိုးသဖြင့်''အို''၊''အား'' စသည်ဖြင့် ငေါက်ငန်းသည်။ ❷ စိတ်နှင့်အခန့်မသင့်သောအခါ ညည်းငြူသံပြုသည်။

[اَفٌّ] ❶ စိတ်ဆိုးသဖြင့်''အို''၊''အား'' စသည်ဖြင့် ငေါက်ငန်းခြင်း။ ❷ စိတ်နှင့်အခန့်မသင့်သောအခါ ညည်းငြူသံပြုခြင်း။

[اَفَّافٌ-اَفُوْفٌ] ❶ စိတ်ဆိုးသဖြင့်''အို''၊''အား'' စသည်ဖြင့် ငေါက်ငန်းသော(သူ)။ ❷ စိတ်နှင့်အခန့်မသင့်သောအခါ ညည်းငြူသံပြုသော(သူ)။ အလွန်ညည်းငြူတတ်သူ။

[اَفَّفَ] ❶ စိတ်ဆိုးသဖြင့်''အို''၊''အား'' စသည်ဖြင့် ငေါက်ငန်းသည်။ ❷ စိတ်နှင့်အခန့်မသင့်သောအခါ ညည်းငြူသံပြုသည်။ ❸ အော်ငေါက်သည်။ ❹ စိတ်အနှောင့် အယှက်ဖြစ်သည်။

[تَاَفَّفَ] ❶ အော်ငေါက်သည်။ ❷ စိတ်အနှောင့်အယှက်ဖြစ်သည်။ ❸ စိတ်ဆိုးသည်။

[اُفِّ-اُفٍّ] ''အို''၊''အား''စသည်ဖြင့် စိတ်ဆိုးသောအခါ၌လည်းကောင်း၊ တစ်ဦးတစ်ယောက်အား ငေါက်ငန်းသောအခါ၌လည်းကောင်း ပြောဆိုသည့်အသံ။

[اَلْاَفَّةُ] ❶ သတ္တိကြောင်ခြင်း။ ❷ ရွံ့ရှာဖွယ်ရာအညစ်အကြေး။

[اَلْيَافُوْفُ] ❶ သတ္တိကြောင်သူ။ ❷ တုန်လှုပ်ချောက်ခြားသူ။ ❸ အလွန်ခါးသောအစားအစာ။ ❹ ခါင့်က်ပေါက်စ။(ဇ)[يَافِيْفُ]။

✿ [اَفِقَ ـِ] ❶ ကမ္ဘာအနှံ့သွားလာသည်။ ❷ [ـِ فُلَانًا وَعَلَيْهِ]သာလွန်သည်။ ပိုမိုထူးကဲ

သည်။ ပိုမိုမြင့်မားသည်။ ❸ [ـــ الْجِلْدَ]သား ရေနယ် လုပ်သည်။

[أَفْقٌ] ❶ ကမ္ဘာအနှံ့သွားလာခြင်း။ ❷ သာလွန်ခြင်း။ ပိုမိုထူးကဲခြင်း။ ပိုမိုမြင့်မားခြင်း။ ❸ သားရေနယ်လုပ်ခြင်း။

[آفِقٌ۔أَفَّاقٌ] ❶ ကမ္ဘာအနှံ့သွားလာသူ။ ❷ သာလွန်သူ။ ပိုမိုထူးကဲသူ။ ပိုမိုမြင့်မားသူ။

[أَفِيقٌ] သားရေနယ် ပြုလုပ်ထားသော (သားရေ)။(ج)[أُفُقٌ۔أُفُقٌ۔أَفِقَةٌ]။

[أَفِقَ ـَ] ❶ အလွန်မြင့်မြတ်သည်။ ❷ ပညာ အရာ၌ တစ်ဘက်ကမ်းခတ် တတ်မြောက်သည်။

[أَفَقٌ] ❶ အလွန်မြင့်မြတ်ခြင်း။ ❷ ပညာအရာ၌ တစ်ဘက်ကမ်းခတ် တတ်မြောက်ခြင်း။

[أَفِقٌ۔أَفِيقٌ] ❶ အလွန်မြင့်မြတ်သူ။ ❷ ပညာအရာ၌ တစ်ဘက်ကမ်းခတ် တတ်မြောက်သူ။

[تَأَفَّقَ] ခေတ္တခဏ သွားရောက်လည်ပတ်သည်။

[الْأَفِقَةُ] ခါး။(ج)[أَوَافِقُ]။

[الْآفَّاقُ] ❶ ကမ္ဘာအနှံ့လျှောက်သွားသူ။ ❷ နိုင်ငံအတည်တကျမရှိသူ။

[الْأُفُقُ۔الْأُفْقُ]❶ ထောင့်။ ❷ မိုးကုတ်စက်ဝိုင်း။ ❸ အသိ။ ❹ ဗဟုသုတ။ ❺ အတွေးအခေါ်။ [هُوَ وَاسِعُ الْأُفُقِ]သူဟာ အလွန်ဗဟုသုတများသူဖြစ်တယ်။ အလွန်အမြင်ကျယ်သူဖြစ်တယ်။ [هُوَ ضَيِّقُ الْأُفُقِ]သူဟာ အလွန်ဗဟုသုတခေါင်းပါးသူဖြစ်တယ်။ အလွန်အမြင်ကျဉ်းသူဖြစ်တယ်။(ج)[آفَاقٌ]။ ﴿سَنُرِيهِمْ آيَاتِنَا فِي الْآفَاقِ وَفِي أَنْفُسِهِمْ﴾ငါအရှင်မြတ်သည် မကြာမီပင် ၎င်းတို့အား မိုးကုတ်စက်ဝိုင်းများ၌လည်းကောင်း ၎င်းတို့၏ကိုယ်များ၌လည်းကောင်း ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ပြသတော်မူမည်။

[الْأُفُقِيُّ] ❶ မိုးကုတ်စက်ဝိုင်းနှင့်ဆိုင်သော။ ❷ နိုင်ငံအတည်တကျမရှိသော။ ❸ အီကွေတာမျဉ်း။

[الْأَفِيقُ] သားရေနယ်ပြုလုပ်ထားသော သားရေ။(ج)[أُفُقٌ۔أَفِقَةٌ]။

✿ [أَفَكَ ـِ] ❶ လိမ်ညာသည်။ လုပ်ကြံပြောဆိုသည်။ မဟုတ်မမှန်စွပ်စွဲသည်။ ❷ လှည့်စားသည်။ ❸ တစ်စုံတစ်ရာမှ မျက်နှာလွှဲစေသည်။ ﴿قَالُوٓا أَجِئْتَنَا لِتَأْفِكَنَا عَنْ آلِهَتِنَا﴾ ၎င်းတို့က အသင်သည် ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ကိုးကွယ်ရာများမှ မျက်နှာလွှဲကျောခိုင်းစေရန် ကျွန်ုပ်တို့ထံ ရောက်ရှိလာခဲ့သလော။ ❹ မျက်စိရှေ့မှ ဖယ်ရှားသည်။ အာရုံပြောင်းစေသည်။

[أَفْكٌ۔إِفْكٌ۔أُفُوكٌ]❶ လိမ်ညာခြင်း။ လုပ်ကြံပြောဆိုခြင်း။ မဟုတ်မမှန်စွပ်စွဲခြင်း။ ❷ လှည့်စားခြင်း။ ❸ တစ်စုံတစ်ရာမှ မျက်နှာလွှဲစေခြင်း။ ❹ မျက်စိရှေ့မှ ဖယ်ရှားခြင်း။ အာရုံပြောင်းစေခြင်း။

[أَفِكَ ـَ] ❶ လိမ်ညာသည်။ လုပ်ကြံပြောဆိုသည်။ မဟုတ်မမှန်စွပ်စွဲပြောဆိုသည်။ ❷ [ــ عَنْهُ]ပျောက်ဆုံးသည်။ လမ်းပျောက်သည်။

[أَفْكٌ۔إِفْكٌ] ❶ လိမ်ညာခြင်း။ လုပ်ကြံပြောဆိုခြင်း။ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်း။ ❷ ပျောက်ဆုံးခြင်း။ လမ်းပျောက်ခြင်း။

[اِفْكٌ-اَفِيْكٌ] ❶ လိမ်ညာသူ။ လုပ်ကြံပြောဆိုသူ။ မဟုတ်မမှန်စွပ်စွဲပြောဆိုသူ။ ❷ ပျောက်ဆုံးသူ။ လမ်းပျောက်သူ။

[اَفَكَ] လိမ်ညာနိုင်းသည်။ လုပ်ကြံပြောဆိုစေသည်။ မဟုတ်မမှန်စွပ်စွဲပြောဆိုစေသည်။

[اَفَّكَ] ❶ လိမ်ညာသည်။ လုပ်ကြံပြောဆိုသည်။ မဟုတ်မမှန် စွပ်စွဲပြောဆိုသည်။ ❷ [ـــ فُلاَنًا]လူလိမ်ဟုစွပ်စွဲသည်။

[اِئْتَفَكَ] ❶ ဂျွမ်းထိုးမှောက်ခုံဖြစ်သည်။ ကပြောင်းကပြန်ဖြစ်သည်။ ❷ [ـــ الْاَرْضُ]မြေ (ပြိုပြီး)ယင်း၌နေထိုင်သူများ ပျက်စီးသည်။ ❸ [ـــ الرِّيَاحُ](လေ)အဘက်ဘက်မှ တိုက်ခတ်သည်။ ❹ [ـــ الْقَوْمُ]တုန်လှုပ်ချောက်ခြားကြသည်။ ၎င်းတို့၏အခြေအနေ တဖြည်းဖြည်းဆိုးရွားပြောင်းလဲသွားသည်။

[تَاَفَّكَ] အလွန်အမင်းလိမ်ညာသည်။ အမြဲတမ်းမုသားဆိုသည်။

[اَلْاَفِيْكَةُ] လုပ်ကြံမှုကြီး။ လိမ်ညာမှုကြီး။ အလွန်ကြီးကျယ်သော မဟုတ်မမှန်လုပ်ကြံမှု။ (ج)[اَفَائِكُ]။

[اَلْمُؤْتَفِكَاتُ] ❶ အဘက်ဘက်မှ တိုက်ခတ်သောလေများ။ ❷ အလ္လာဟ်အရှင်မြတ်က မြေလှန်ဖျက်ဆီးအပြစ်ပေးတော်မူခဲ့သော လူးသ် အမျိုးသားတို့နေထိုင်ခဲ့ကြသောမြို့များ။

✿ [اَفَلَ ـ] ❶ ကွယ်သည်။ ပျောက်သည်။ ❷ [ـــ الْمُرْضِعُ]နို့ရည် ခန်းခြောက်သည်။ ﴾فَلَمَّا اَفَلَ قَالَ لَا اُحِبُّ الْاٰفِلِيْنَ﴿ သို့ဖြင့် ယင်းကြယ်နက္ခတ်သည် ကွယ်ပျောက်သွားသောအခါ ၎င်းက ကျွန်ုပ်သည် ကွယ်ပျောက်သောအရာများကို (ကိုးကွယ်ရာအဖြစ်)နှစ်သက်သည်မဟုတ် ဟုပြောဆိုခဲ့လေသည်။

[اَفْلٌ-اُفُوْلٌ] ကွယ်ပျောက်ခြင်း။

[اٰفِلٌ] ကွယ်ပျောက်သော(သူ၊ အရာ)။ ဝင်ရောက်ပျောက်ကွယ်သော(သူ၊ အရာ)။ (ج) [اُفَّلٌ-اُفُوْلٌ]။

[اَفِلَ ـ] ကွယ်ပျောက်သည်။

[اَفْلٌ-اُفُوْلٌ] ကွယ်ပျောက်ခြင်း။

[اَلْاَفِيْلُ] ကုလားအုတ်ပေါက်စ။ ဆိတ်ပေါက်စ။(ج)[اِفَالٌ-اَفَائِلُ]။

✿[اَفْلَاطُوْنُ] ပလေတို။

✿ [اَفَنَ ـ] ❶ အသိဉာဏ်ချို့တဲ့သည်။ ❷ ဉာဏ်ကို ထိုင်းစေသည်။[اَلْبِطْنَةُ تَاْفِنُ الْفِطْنَةَ]ဗိုက်ပြည့်ခြင်းသည် အသိဉာဏ်ကို ချို့တဲ့စေသည်။ ❸ ရူးသွပ်သည်။ ❹ [ـــ النَّاقَةَ]ကုလားအုတ်မကို အချိန်မကျမီ နို့ညှစ်သည်။

[اَفْنٌ] ❶ အသိဉာဏ်ချို့တဲ့ခြင်း။ ❷ ရူးသွပ်ခြင်း။ ❸ အသိဉာဏ်ချို့တဲ့စေခြင်း။ ❹ ကုလားအုတ်မကို အချိန်မကျမီ နို့ညှစ်ခြင်း။

[مَافُوْنٌ-اَفِيْنٌ] ❶ အသိဉာဏ်ချို့တဲ့သူ။ ❷ ရူးသွပ်သူ။

[اُفْنَةٌ] အသိဉာဏ်ချို့တဲ့သည့်လက္ခဏာ။

[اَفِنَ ـ] ❶ အသိဉာဏ်ချို့တဲ့သည်။ ❷ [ـــ النَّاقَةُ](ကုလားအုတ်မ)နို့အထွက်နည်းသည်။ ❸ [ـــ الطَّعَامُ](အစားအစာ)အပြင်ပန်းအားဖြင့် စားချင်စဖွယ်ဖြစ်သော်လည်း အနှစ်အရသာမဲ့သည်။

[اَفَنٌ-اَفْنٌ] ❶ အသိဉာဏ်ချို့တဲ့ခြင်း။ ❷ ပေါ့သွပ်ခြင်း။

[اَفِيْنٌ] ❶ အသိဉာဏ်ချို့တဲ့သူ။ ❷ ပေါ့သွပ်

သူ။

[اَفِنَةٌ] နို့အထွက်နည်းသော(ကုလားအုတ်မ၊ ဆိတ်မ၊ နွားမစသည်)။

[تَاَفَّنَ] အတွေးအခေါ်ရှိသူ၏အမူအယာကို အတုခိုးသည်။ အသိညာဏ်ပြည့်ဝသူအဖြစ် ဟန်ဆောင်သည်။

✿ [اَفَنْدِى] သခင်။ လူကြီးလူကောင်း။ လူကြီးမင်းခင်ဗျား။

✿ [اَفُوكَاتُو] ရှေ့နေ၊ ဥပဒေဝန်ထမ်း။

✿ [اَفْيُوْنٌ] ဘိန်းဆီ၊ ဘိန်းပင်။[رُوْحُ الْاَفْيُوْنِ]

✿ [اَقَتَ ـ] အချိန်သတ်မှတ်သည်။ကြည့်(وقت)

[اُقَّةٌ] (၁ • ၂၄၈)ကီလိုဂရမ်နှင့်ညီမျှသော အလေးချိန်။(ج)[اُقَّاتٌ.اُقَقٌ]။

✿[اَلْاُقْحُوَانُ]ဒေစီပန်းပင်။(ج)[اَقَاحٍ]။

✿[اَلْاَقْرَبَاذِيْنُ]စပ်ထားသောဆေးဝါး။

[عِلْمُ الْاَقْرَبَاذِيْنِ]ဆေးဖေါ်စပ်သည့်ပညာရပ်။

✿ [اَلْاَقِطُ] ဒိန်ခဲ။

✿ [اَلْاِقْلِيْدُ] သော့။(ج)[اَقَالِيْدُ]။

[اَلْاِقْلِيْمُ] ပြည်နယ်။ နယ်ပယ်။(ج)[اَقَالِيْمُ]။

[اَلْاِقْلِيْمِىُّ] ပြည်နယ်နှင့်ဆိုင်သော။

✿[اَلْاِقْلِيْدِسُ] ယူကလစ်။

✿ [اَلْاَقْنُوْمُ] ❶ ဒြပ်စင်။ ❷ လူပုဂ္ဂိုလ်။ ❸ မူလအရင်းအမြစ်။ ❹ သုံးပါးတစ်ဆူဘုရား(ခရစ်ယာန်တို့၏အယူအဆ)။(ج)[اَقَانِيْمُ]။

✿ [اَقُوْنَةٌ] ရုပ်တု။ ပုံတူ။

✿[اَلْاَقْيَانُسُ]မဟာသမုဒ္ဒရာ။

✿[اَكَادِيْمِيَّةٌ] အကယ်ဒမီ။

✿ [اُكْتُوْبَر] အောက်တိုဘာလ။

✿ [اَكَدَ ـ] ❶ အခိုင်အမာ ဖြစ်စေသည်။ တည်တန့်ခိုင်မြဲစေသည်။ ❷ အတည်ဖြစ်စေသည်။ ❸ လေးနက်စေသည်။

[اَكْدٌ] ❶ အခိုင်အမာဖြစ်စေခြင်း။ ❷ အတည်ဖြစ်စေခြင်း။ ❸ လေးနက်စေခြင်း။

[اَكِيْدٌ] ❶ အခိုင်အမာဖြစ်စေသော(သူ၊ အရာ)။ ❷ အတည်ဖြစ်စေသော(သူ၊ အရာ)။ ❸ လေးနက်သော(သူ၊ အရာ)။

[اَكَّدَ] ❶ အခိုင်အမာဖြစ်စေသည်။ ❷ အတည်ဖြစ်စေသည်။ ❸ လေးနက်စေသည်။

[اِيْكَادٌ] ❶ အခိုင်အမာဖြစ်စေခြင်း။ ❷ အတည်ဖြစ်စေခြင်း။ ❸ လေးနက်စေခြင်း။

[اَكَّدَ] ❶ အခိုင်အမာဖြစ်စေသည်။ ❷ အတည်ဖြစ်စေသည်။ ❸ လေးနက်စေသည်။

[تَاْكِيْدٌ] ❶ အခိုင်အမာဖြစ်စေခြင်း။ ❷ အတည်ဖြစ်စေခြင်း။ ❸ လေးနက်စေခြင်း။

[مُؤَكَّدٌ] ❶ အခိုင်အမာဖြစ်သော။ ❷ အတည်ဖြစ်သော။ ❸ လေးနက်သော။[قَوْلٌ مُؤَكَّدٌ] လေးနက်ခိုင်မာသောစကား။[يَمِيْنٌ مُؤَكَّدَةٌ] တည်ကြည်သောကျိန်ဆိုမှု။

[تَاَكَّدَ] ❶ အခိုင်အမာဖြစ်သွားသည်။ ❷ အတည်ဖြစ်သွားသည်။ ❸ လေးနက်သွားသည်။

[اَلْاِكَادُ] ❶ ခါးပတ်။ ❷ ဇက်ကြိုး။(ج)[اَكَائِدُ]။ ကြည့်။(وكد)

✿ [اَكَرَ ـ] ❶ [ـ الْاَرْضَ](မြေယာကို)ထွန်ယက်စိုက်ပျိုးသည်။ ❷ [ـ النَّهَرَ]ချောင်း၊ ရေမြောင်းစသည်ကို ပိုမိုနက်ရှိုင်းလာအောင် တူးဖေါ်သည်။

[اَكْرٌ] ❶ (မြေယာကို)ထွန်ယက်စိုက်ပျိုးခြင်း။ ❷ ချောင်း၊ ရေမြောင်းစသည်ကို ပိုမိုနက်ရှိုင်းလာအောင်တူးဖေါ်ခြင်း။

[أَكَرَ] အကျိုးအမြတ်တစ်ခုကို သတ်မှတ်၍ (မြေယာကို)ထွန်ယက်စိုက်ပျိုးစေသည်။

[مُاكَرَةٌ] အကျိုးအမြတ်တစ်ခုကို သတ်မှတ်၍ (မြေယာကို)ထွန်ယက်စိုက်ပျိုးစေခြင်း။

[اَلْأُكْرَةُ] ❶ ဆည်။ ❷ ရေလျှောင်ကန်။ ❸ ဘောလုံး။

[اَلْأَكَّارُ] ထွန်ယက်သူ။(ج)[أَكَرَةٌ]။

[اَلْأَكَّارَةُ] မြေတူးစက်။ ထွန်စက်။

✿[اَلْأَكْرِيْمَةُ] နှင်းခူနာ။

✿[اَلْأَكْسِيْجِنُ]အောက်စီဂျင်။

✿ [أَكْسَدَ] ❶ အောက်ဆိုက်ဖြစ်သည်။ ❷ သံချေးတက်သည်။ ❸ အောက်စီဂျင်နှင့်ဓါတ်ပြုသည်။

[تَأَكْسَدَ] ❶ အောက်ဆိုက်ဖြစ်သည်။ ❷ သံချေးတက်သည်။ ❸ အောက်စီဂျင်နှင့်ဓါတ်ပြုသည်။

[اَلْأُكْسِيْدُ] ❶ အောက်ဆိုက်။ ❷ အောက်စီဂျင်နှင့်ဓါတ်ပြုသဖြင့် ဖြစ်ပေါ်လာသော သံချေး။ (ج)[أَكَاسِيْدُ]။ကြည့်(صدا)

✿[اَلْإِكْسِيْرُ] ❶ ပြဒါးရှင်လုံး။(ရှေးလူတို့က သာမာန်သတ္တုကို ရွှေအဖြစ်သို့ ပြောင်းစေနိုင်သည်ဟု ယူဆကြသောဓါတ်ပစ္စည်း။ ❷ ရှေးလူတို့က အသက်ရှည်စေနိုင်သည်ဟု ယူဆကြသောရေတစ်မျိုး။

✿ [أَكَفَ] ❶ မြည်း၊ လားစသည်တို့၌ ကုန်းနှီးကို တပ်ဆင်သည်။ ❷ ကုန်းနှီးပြုလုပ်သည်။ ❸ ကုန်းနှီးကို ယူဆောင်သည်။

[اَلْإِكَافُ] ကုန်းနှီး။(ج)[أُكُفٌ]။

[اَلْأَكَّافُ] ကုန်းနှီးပြုလုပ်သူ။

✿ [أَكَّ ـُ] ❶ [ـــ النَّهَارُ](နေ)ပူအိုက်စွတ်စိုသည်။ အိုက်စပ်စပ်ဖြစ်သည်။ ❷ [ـــ فُلَانٌ]စိတ်ကျဉ်းကြပ်သည်။ ❸ အကျင့်စာရိတ္တပျက်စီးယိုယွင်းသည်။

[اَلْأَكَّةُ] (နေ)ပူအိုက်စွတ်စိုခြင်း။

[اَلْأَكِيْكُ] ပူအိုက်စွတ်စို(သောနေ)။

[اِئْتَكَّ] ❶ [ـــ النَّهَارُ](နေ)ပူအိုက်စွတ်စိုသည်။ အိုက်စပ်စပ်ဖြစ်သည်။ ❷ [ـــ فُلَانٌ]စိတ်ကျဉ်းကြပ်သည်။ ❸ အကျင့်စာရိတ္တပျက်စီးယိုယွင်းသည်။ ❹ [ـــ الْجَمْعُ]လူခြေ ထူထပ်သည်။ ❺ [ـــ فُلَانٌ مِنَ الْأَمْرِ](တစ်စုံတစ်ရာကြောင့်) စိတ်လေးလံသည်။ စိတ်ပင်ပန်းသည်။

✿ [أَكَلَ ـُ] ❶ စားသည်။ ❷ ဝါးသည်။ ❸ မျိုသည်။[ـــهُ النَّارُ]တစ်ခုမကျန် မီးလောင်သွားသည်။[ـــهُ السُّوْسُ]တစ်ခုမကျန် ပိုးစားသွားသည်။ ❹ [ـــ عَلَيْهِ الدَّهْرُ وَشَرِبَ]အသက်ရှည်သည်။ ❺ [ـــ مَالَهُ]သူ့ဥစ္စာကို မတရားသဖြင့် ရယူသိမ်းပိုက်သည်။ ❻ [ـــ حَقَّهُ]သူ့အခွင့်အရေးကို ချိုးဖောက်သည်။ ﴿وَلَا تَأْكُلُوْا أَمْوَالَكُمْ بِالْبَاطِلِ﴾ အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးပစ္စည်းကို တစ်ဦးက မတရားသဖြင့် စားသုံးခြင်းမပြုကြနှင့်။ ❼ [ـــ فُلَانًا]အတင်းပြောသည်။[ـــ لَحْمَهُ]အတင်းပြောသည်။ ❽ [ـــ عُمْرَهُ]ဆံဖြူသွားကိုးအရွယ်သို့ရောက်သည်။ ဇရာထောင်းသည်။ ❾ [ـــ رَأْسَهُ]ဦးခေါင်း၌ ဂွတ်၊ ဒက်စသောယားယံနာဖြစ်သည်။ ကိုက်ခဲနာကျင်သည်။

[كُلْ] အသင်စားပါ။(အမိန့်ပေးကြိယာ)။

[اَلْأَكْلُ] ❶ စားခြင်း။ ❷ ဝါးခြင်း။ ❸ မျိုခြင်း။ ❹ (တစ်ခုမကျန်)မီးလောင်သွားခြင်း။ ❺

(တစ်ခုမကျန်)ပိုးစားသွားခြင်း။ ❻ (သူ့ဥစ္စာကို)မတရားသဖြင့် ရယူသိမ်းပိုက်ခြင်း။ ❼ (သူ့အခွင့်အရေးကို)ချိုးဖေါက်ခြင်း။

[اِكْلَةٌ ـ اِكَالٌ] ကိုက်ခဲနာကျင်ခြင်း။

[اَكِلَ ـ] ❶ အချင်းချင်း တစ်ဦးကိုတစ်ဦး စားသည်။ တစ်ကောင်ကို တစ်ကောင်စားသည်။ ❷ [ـ اَسْنَانُه] သွားများကျိုးပဲ့ ကြွေကျသည်။

[اَكَلٌ] ❶ အချင်းချင်း တစ်ဦးကိုတစ်ဦး စားခြင်း။ တစ်ကောင်ကို တစ်ကောင်စားခြင်း။ ❷ (သွားများ)ကျိုးပဲ့ကြွေကျခြင်း။

[اَكَلَ] ❶ [ـ الشَّجَرُ](အပင်)အသီးဖြစ်ထွန်းသည်။ ❷ [ـ بَيْنَ القومِ]လူအများကြား၌ ကုန်းတိုက်သည်။ ရန်မီးမွှေးသည်။ ❸ [ـ فلانًا]အစားအစာကျွေးမွေးသည်။ စားစေသည်။

[اِيكَالٌ] ❶ (သစ်ပင်)အသီး ဖြစ်ထွန်းခြင်း။ ❷ ကုန်းတိုက်ခြင်း။ ရန်မီးမွှေးခြင်း။ ❸ အစားအစာကျွေးမွေးခြင်း။ စားစေခြင်း။

[اَكَلَ] အတူတကွစားသောက်သည်။

[مُؤَاكَلَةٌ] အတူတကွစားသောက်ခြင်း။

[اَكَّلَ] ❶ အတူတကွစားသောက်သည်။ ❷ ကျွေးသည်။ စားစေသည်။ ❸ [ـ الْمَاشِيَةَ] (တိရစ္ဆာန်ကို)စားကျက်၌ လွှတ်ထားသည်။

[اِئْتَكَلَ] ❶ အချင်းချင်း တစ်ခုကိုတစ်ခုစားသည်။ ❷ [ـ النَّارُ]မီးတောက်တစ်ခုက တစ်ခုကို ဝါးမြိုလောင်ကျွမ်းဘိသကဲ့သို့ တဟုန်းဟုန်းတောက်လောင်သည်။

[تَاَكَّلَ] ❶ အချင်းချင်း တစ်ခုကိုတစ်ခုစားသည်။ ❷ [ـ النَّارُ]မီးတောက်တစ်ခုက တစ်ခုကို ဝါးမြိုလောင်ကျွမ်းဘိသကဲ့သို့ တဟုန်းဟုန်း တောက်လောင်သည်။ ❸ [ـ رَاْسُه] ခေါင်းကိုက်သည်။ ❹ [ـ اَسْنَانُه]သွားကိုက်သည်။ ❺ ပျက်စီးသည်။ ယိုယွင်းသည်။

[اِسْتَاكَلَ] ❶ [ـ فُلَانٌ غَيْرَه]သူ့ပစ္စည်းကို မတရားသဖြင့် ရယူသိမ်းပိုက်သည်။ ❷ အစားအစာတောင်းခံသည်။

[اَلْاِئْتِكَالُ] ❶ တိုက်စားမှု။ ❷ ရေ၊ မြေ၊ လေစသည့် သဘာဝ၏ တိုက်စားမှုကြောင့်လည်းကောင်း၊ ဓါတ်ပြုခြင်းကြောင့်လည်းကောင်း မူလသဘာဝပုံစံပျက်သွားခြင်း။

[اَلْاَكَلَةُ ـ الْاَكَالُ] ဝဲနာ၊ ယားနာ။

[اَلْاَكَالُ] စားသောက်ဖွယ်ရာ။ အစားအစာ။

[اَلْاَكَّالُ] အလွန်စားသူ။ အစားကြီးသူ။ ﴿سَمَّاعُونَ لِلْكَذِبِ اَكَّالُونَ لِلسُّحْتِ﴾ ၄င်းတို့သည် မုသားကို အလွန်နားယူလက်ခံသူများဖြစ်ကြ၍ တားမြစ်ပိတ်ပင်ထားသောအရာများကို အလွန်စားသုံးသူများဖြစ်ကြကုန်၏။

[اَلْاُكْلُ ـ الْاُكُلُ] ❶ အသီးအနှံ။ သစ်သီးဝလံ။ ❷ ကျယ်ဝန်းများပြားသော စားနပ်ရိက္ခာ။ (ဥ) [اُكُلٌ] ﴿اُكُلُهَا دَائِمٌ وَظِلُّهَا﴾ ယင်းဂျန္နတ်၏ သစ်သီးဝလံများနှင့် အရိပ်အာဝါသသည် ထာဝရ တည်ရှိပေမည်။ [غُرْفَةُ الْاَكْلِ]စားသောက်ခန်း။

[اَلْاَكْلَةُ] ❶ စားသောက်ဖွယ်ရာ။ ❷ တစ်ကြိမ်စားခြင်း။ [رُبَّ اَكْلَةٍ مَنَعَتْ اَكَلَاتٍ]တစ်ကြိမ် တစ်ခါစားခြင်းသည် အကြိမ်ကြိမ်စားခြင်းကို တားဆီးထားတတ်သည်။ (တစ်ခါအစားမှားလျှင် နောင်အမြဲ မစားပဲနေရတတ်သည်။)

[اَلْاُكَلَةُ] အစားကျူးသူ။

[اَلْاَكِلَةُ] ဝဲနာ၊ ယားနာ။

[اَلاَكُوْلَةُ] ဖဗဟ်ပြုလည်လှီးရန်အတွက် ဝဖြိုးအောင် ကျွေးမွေးထားသည့် သားကောင်။ (ج)[اَكَائِلُ]။

[اَلاَكِيْلُ] အစားကျူးသူ။ စားဖေါ်စားဘက်။

[اَلاَكِيْلَةُ] စားကြွင်းစားကျန်။[اَكِيْلَةُ الاَسَدِ]ခြင်္သေ့စားထားသောသားကောင်။

[اَلمِئْكَالُ] ဇွန်း။ ခက်ရင်းစသည်။(ج)[مَاكِيْلُ]။

[اَلْمَاكَلُ] ❶ စားဖွယ်သောက်ဖွယ်။ ❷ ရှာဖွေဆည်းပူးထားသော ငွေကြေး၊ ဥစ္စာပစ္စည်း၊ အစားအစာစသည်။(ج)[مَاكِلُ]။

[اَلْمَاكَلَةُ] ❶ စားဖွယ်သောက်ဖွယ်။ ❷ အရသာ။ ❸ ရိက္ခာ။(ج)[مَاكِلُ]။

[ اَلاِكْلِيْلُ ] ကြည့်(كلل)

✿ [اِسْتَاكَمَ] (မြေနေရာ)မြင့်သည်။ တောင်ပူစာပမာဖြစ်သည်။ မို့မောက်သည်။

[اَلاَكَمَةُ] ❶ တောင်ပူစာ။ ❷ ကုန်းမြင့်။(ج)[اَكَمٌ ـ اِكَامٌ ـ اُكَامٌ]။

[اَلْمَاكِمُ ـ اَلْمَاكَمُ] အမြီးပိုင်း။ တင်ပိုင်း။(ج)[مَاكِمُ]။

✿ [اَلاُكْنَةُ] ငှက်သိုက်။(ج)[اُكُنٌ]။ကြည့်(وكن)

✿ [اَكُوْنِتِيْن] ဆီမီးတောက်ပင်တစ်မျိုး။

✿ [اَلْ] တိကျနာမ်အတွက် အသုံးပြုရသောပစ္စည်း။(သဒ္ဒါ)။ဥပမာ။(بَيْتٌ)အိမ်တစ်လုံး။ (اَلْبَيْتُ)ပြောသူ၏အာရုံ၌ တိကျစွာ ရည်ညွှန်းထားသောအိမ်။(The)နှင့်ဆင်တူသည်။

✿ [اَلاَ] သတိ။ သတိမူကြကုန်။(ကြားနာရသူတို့၏အာရုံကို ဆွဲဆောင်ရန် ဝါကျ၏အစ၌ ထည့်သုံးရသောပစ္စည်း)။ဥပမာ။

﴿اَلاَ اِنَّ اَوْلِيَاءَ اللّٰهِ لَاخَوْفٌ عَلَيْهِمْ وَلَاهُمْ يَحْزَنُوْنَ﴾

သတိမူကြကုန်၊ မုချကေန် အလ္လာဟ်အရှင်မြတ်၏ အဆွေတော်တို့သည် ၎င်းတို့၌ တစ်စုံတစ်ရာ စိုးရိမ်ထိတ်လန့်ဖွယ်သည်မရှိ ၎င်းပြင် ထိုသူတို့သည် ပူဆွေးဝမ်းနည်းကြရမည်လည်းမဟုတ်။

✿ [اِلَى] ❶ သို့။ ဆီသို့။ ထံသို့။ ❷ တိုင်အောင်။ အထိ။ ❸ အပါအဝင်။(မှတ်ချက်။[اِلَى]၏နောက်တွင် ဖေါ်ပြထားသောနာမ်သည် ယင်း[اِلَى]၏ရှေ့တွင် ဖေါ်ပြထားသော နာမ်၏အမျိုးအစားတူ သို့မဟုတ် အစိတ်အပိုင်းဖြစ်လျှင်[اِلَى]ကို 'အပါအဝင်'ဟု အဓိပ္ပါယ်ကောက်ရသည်။ [اِلَى]၏နောက်တွင်ဖေါ်ပြထားသောနာမ်သည် ယင်း[اِلَى]၏ရှေ့တွင်ဖေါ်ပြထားသော နာမ်၏အမျိုးအစားတူမဟုတ်လျှင် သို့မဟုတ် အစိတ်အပိုင်းမဖြစ်လျှင်[اِلَى]ကို 'အထိ'ဟု အဓိပ္ပါယ်ကောက်ရသည်။)ဥပမာ–

﴿فَاغْسِلُوْا وُجُوْهَكُمْ وَاَيْدِيَكُمْ اِلَى الْمَرَافِقِ﴾

သို့ဖြစ်ရာ အသင်တို့သည် အသင်တို့၏မျက်နှာများကို ဆေးကြောကြကုန်။ ထို့ပြင် အသင် တို့၏လက်များကို တတောင်စေ့အပါအဝင် ဆေးကြောကြကုန်။ (ဤအာယတ်တော်၌[اِلَى]၏နောက်၌ရှိသော[الْمَرَافِقِ]တတောင်စေ့သည် [اِلَى]၏ရှေ့၌ရှိသော လက်များ၏အစိတ်အပိုင်းဖြစ်သောကြောင့် ဆေးကြောရမည့် လက်သည် တတောင်စေ့အပါအဝင်ဖြစ်သည်။)

﴿ثُمَّ اَتِمُّوا الصِّيَامَ اِلَى الَّيْلِ﴾ထို့နောက် အသင်တို့သည် ဆွိယာမ်ဥပုသ်ကို ညအထိ အပြည့်အဝ စောင့်ထိန်းဖြည့်ဆည်းကြကုန်။(ဤအာယတ်တော်၌ [اِلَى]၏နောက်၌ရှိသော [الليل]ညသည် [اِلَى]၏ရှေ့၌ရှိသော

[الصيام]ဆွဲယာမ်ဥပုသ်၏အစိတ်အပိုင်း မဟုတ်သော့ကြောင့် ဆွဲယာမ်စောင့်ထိန်းရမည့်အချိန်၌ ည၏အစိတ်အပိုင်းအပါအဝင်မဟုတ်။)[اِلَيْكَ عَنِّى]ငါနဲ့ဝေးဝေးနေ။ ငါ့အနားမလာနဲ့။

✿[اُولَى ـ اُولَاءِ ـ اُولٰئِكَ]❶ ဤသူများ။ ❷ ဤသူများ။

✿ [اُولَاتٌ] ပိုင်ရှင်မများ။

✿ [اُولُوْ] ပိုင်ရှင်များ။

✿ [اَلَبَ ـ] ❶ စုဝေးသည်။ ❷ ပူးပေါင်းသည်။ ❸ [ـ السَّمَاءُ]မိုးအဆက်မပြတ်ရွာသည်။ ❹ [ـ الزَّرْعُ اَوِ النَّخْلُ](စိုက်ခင်း၊ စွန်ပလွံပင်) အသီးအနှံ ဖြစ်ထွန်းသည်။ အသီးတင်သည်။ ❺ [ـ الْجُرْحُ]ဒဏ်ရာအပြင်ပိုင်းကျက်ပြီး အတွင်း၌ လိုက်စားသည်။ ❻ [ـ الْقَوْمُ اِلَيْهِ] သူ့ထံအဘက်ဘက်မှ ရောက်ရှိလာကြသည်။ ❼ [ـ فُلَانٌ الْقَوْمَ]စုစည်းသည်။ စုဝေးစေသည်။ ❽ [ـ عَلَيْهِ النَّاسَ](သူ့ကို ရန်ပြုရန် လူအများကို)လှုံ့ဆော်သည်။ ဆူပူအုံကြွလာအောင်နှိုးဆော်သည်။

[اَلْبٌ] ❶ စုဝေးခြင်း။ ❷ ပူးပေါင်းခြင်း။ ❸ မိုးအဆက်မပြတ် ရွာခြင်း။ ❹ အသီးအနှံ ဖြစ်ထွန်းခြင်း။ ❺ ဒဏ်ရာအပြင်ပိုင်းကျက်ပြီး အတွင်း၌လိုက်စားခြင်း။ ❻ အဘက်ဘက်မှ ရောက်ရှိလာကြခြင်း။ ❼ စုစည်းခြင်း။ စုဝေးစေခြင်း။ ❽ လှုံ့ဆော်ခြင်း။ ဆူပူအုံကြွအောင်နှိုးဆော်ခြင်း။

[اَلُوْبٌ] အဆက်မပြတ်ရွာသောမိုး။

[اَلِبَ ـ] ဒဏ်ရာအပြင်ပိုင်းကျက်ပြီး အတွင်း၌ လိုက်စားသည်။

[اَلْبٌ] ဒဏ်ရာအပြင်ပိုင်းကျက်ပြီး အတွင်း၌ လိုက်စားခြင်း။

[اَلَّبَ] ❶ စုဝေးစေသည်။ လူစုသည်။ ❷ [ـ بَيْنَهُمْ]၎င်းတို့အကြား၌ ပျက်စီးရာပျက်စီးကြောင်းပြုလုပ်သည်။ ❸ [ـ عَلَيْهِ النَّاسَ] (သူ့ကို ရန်ပြုရန် လူအများကို)လှုံ့ဆော်သည်။ ဆူပူအုံကြွလာအောင်နှိုးဆော်သည်။

[تَاَلَّبَ] ❶ စုဝေးသည်။ လူစုသည်။ ❷ [تَاَلَّبُوْا عَلَيْهِ]ဝိုင်းဝန်းကူညီကြသည်။

[اَلْاَلْبُ] ❶ ပြင်းထန်စွာဖျားနာခြင်း။ ❷ အပြင်းအထန် ပူလောင်တော်မွတ်ခြင်း။ ❸ ဆန္ဒရမက်နောက်ကိုလိုက်ခြင်း။ ❹ တစ်ဦးတစ်ယောက်အား ရန်ပြုရန်အတွက် စုဝေးနေကြသောလူစုလူဝေး။[اَلْبٌ اَلُوْبٌ]အလွန်များပြားသောလူစုလူဝေး။ လူထုကြီး။

[اَلْاِلْبُ] ❶ တစ်ဦးတစ်ယောက်အား ရန်ပြုရန်အတွက် စုဝေးနေကြသောလူစုလူဝေး။ ❷ တစ်ညှိုး(လက်မနှင့် လက်ညှိုးကြားအကွာအဝေး)။

[اَلْاَلْبَةُ] အငတ်ဘေးကြီး။

[اَلْمَئْلَبُ] လျှင်မြန်ဖြစ်လတ်သော(သူ၊ အရာ)။ (ج)[مَاٰلِبُ]။

✿ [اَلَتَ ـ] ❶ ချို့ယွင်းစေသည်။ ❷ လျော့နည်းစေသည်။ ❸ ဆုတ်ယုတ်ကျဆင်းစေသည်။ ❹ [ـ فُلَانًا عَلَيْهِ]သူ၏ဂုဏ်သိက္ခာကို ထိပါးသည်။ စော်ကားသည်။ ❺ သူ၏တန်ဖိုးကို အသိအမှတ်မပြုပဲနေသည်။ သူ၏အခြေအနေအဆင့်အတန်းကို မထီမဲ့မြင် ပြုသည်။ ❻ [ـ فُلَانًا عَنْ قَصْدِهِ]သူ၏ဦးတည်ချက်ကို ပြောင်းလဲပစ်သည်။ ရည်ရွယ်ချက် ပြောင်း

[بَقْل] ❶ ထင်ရှားပေါ်လွင်ခြင်း။ ❷ အသီးအနှံပေါက်ရောက်ခြင်း။ ❸ (စားကျက်) စိမ်းလန်းစိုပြေခြင်း။ ❹ (တိရစ္ဆာန်အတွက်) မြက်၊ အသီးအရွက်စသည်ကို စုစောင်းခြင်း။

[أبقَلَ] ❶ ထင်ရှားပေါ်လွင်သည်။ ❷ အသီးအနှံပေါက်ရောက်သည်။ ❸ (စားကျက်) စိမ်းလန်းစိုပြေသည်။ ❹ (တိရစ္ဆာန်အတွက်) မြက်၊ အသီးအရွက်စသည်ကို စုစောင်းသည်။ ❺ အသီးအနှံသို့မဟုတ် စားကျက်ကို တွေ့သည်။ ❻ (တိရစ္ဆာန်ကို)အသီးအနှံသို့မဟုတ် စားကျက်၌ ထိန်းကျောင်းသည်။

[بقَّلَ] ❶ [ـ الشَّجرُ]ရွက်နုထွက်သည်။ ❷ [ـ الماشيَةَ](တိရစ္ဆာန်ကို)အသီးအနှံသို့မဟုတ် စားကျက်၌ ကျက်စားစေသည်။ ❸ အသီးအနှံ၊ ဟင်းသီးဟင်းရွက်ဟုမှတ်ယူသည်။

[ابتقَلَ] ❶ [ـتِ الماشيَةُ](တိရစ္ဆာန်)အသီးအနှံသို့မဟုတ် စားကျက်၌ ကျက်စားသည်။ ❷ [ـ القَومُ](တိရစ္ဆာန်ကို)အသီးအနှံသို့မဟုတ် စားကျက်၌ ကျက်စားစေသည်။

[تبَقَّلَ] ❶ [ـتِ الماشيَةُ](တိရစ္ဆာန်)အသီးအနှံသို့မဟုတ် စားကျက်၌ ကျက်စားသဖြင့် ဝဖြိုးသည်။ ❷ [ـ الرَّجلُ]အသီးအနှံ၊ ဟင်းသီးဟင်းရွက် အရှာထွက်သည်။

[البَاقِلاَءُ] ဟင်းရွက်ပင်တစ်မျိုး။

[البَاقِلَّى] ဟင်းရွက်ပင်တစ်မျိုး။

[البَاقُولُ] လက်ကိုင်မပါသောခွက်။(ဖလားခွက်)(ج) [بَوَاقِيلُ]။

[البَقْلُ] ဟင်းသီးဟင်းရွက်။(ج) [بُقُولٌ]

[البَقَّالُ] ဟင်းသီးဟင်းရွက်ရောင်းသူ။

[المَبْقَلَةُ] ဟင်းသီးဟင်းရွက် ပေါက်ရောက်သော နေရာ။

[بقَلاوَةٌ] အစာသိပ်ထားသောပေါင်မုန့်။

❁ [تبَقَّمَ] [ـتِ الغَنَمُ](သိုးမ)မိမိ၏သားအိမ်တွင်းရှိ ကလေးငယ်များမွေးဖွားရန် နီးကပ်သဖြင့် နေရာမှမထနိုင်ဖြစ်သည်။

[البُقَامَةُ] ချည်မျှင်ရက်လုပ်ရန် အသုံးမဝင်တော့သော သားမွေးအပိုင်းအစများ။

[البَقَّمُ] အပင်တစ်မျိုး။

[البُقَّمُ] အပင်တစ်မျိုး။

❁ [بقِيَ ـَ] ❶ ကျန်ရှိသည်။ ❷ တည်မြဲသည်။ ❸ ပိုကျန်၊ ကြွင်းကျန်သည်။ ﴿وَذَرُوا مَا بَقِيَ مِنَ الرِّبَا﴾ကျန်ရှိနေသေးသော အတိုးကို အသင်တို့သည် စွန့်လွှတ်ကြကုန်။

[بقَاءٌ] ❶ ကျန်ရှိခြင်း။ ❷ တည်မြဲခြင်း။ ❸ ပိုကျန်၊ ကြွင်း ကျန်ခြင်း။

[أبقَى] ❶ ကျန်ရှိနေစေသည်။ ❷ တည်မြဲစေသည်။ ❸ ထိန်းသိမ်းစောင့်ရှောက်သည်။ ❹ မူလအခြေအနေအတိုင်းထားသည်။ ❺ [ـ عَلَى فُلاَنٍ]သနားကြင်နာသည်။ ❻ [ـ مِنْ جُهْدِهِ]အစွမ်းအစကို အကုန်ထုတ်မသုံးပဲ ထိန်ချန်ထားသည်။[أبقَتِ الخَيلُ]အစွမ်းကုန်မပြေးပဲနေသည်။[أبقَتِ الحَلُوبُ](ဆိတ်မ၊ နွားမစသည်)မိမိ၏နို့ကို အကုန်မချပဲ ချန်ထားသည်။[أبقَتِ الأرضُ](မြေ)ရေကိုအကုန်မစုပ်သဖြင့် တင်ကျန်နေသည်။

[بقَّى] စွန့်ပစ်ထားသည်။

[تبقَّى] ❶ ပိုလျှံသည်။ ကြွင်းကျန်သည်။

❷ [–الشَّيءَ]တည်မြဲအောင် ကြိုးစားထိန်းသိမ်းသည်။

[اِسْتَبْقَى] တည်မြဲအောင်ကြိုးစားသည်။ [–اَخَاهُ]အချစ်မပျက်အောင် သည်းခံခွင့်လွှတ်သည်။

[اَلاَبْقَى] ❶ ထာဝရဖြစ်သော(အရာ)။ မပျက်မစီး တည်တန့်နိုင်မြဲသော(အရာ)။ ﴿وَ الاٰخِرَةُ خَيْرٌ وَ اَبْقَى﴾တမလွန်ဘဝသည် သာလွန်ကောင်းမွန်၍ ထာဝရတည်မြဲသောဘဝဖြစ်သည်။ ❷ ဂရုစိုက်သော၊ သနားကြင်နာ၍ ထောက်ထားစာနာသော(သူ)။[هُوَ اَبْقَى عَلَى قَوْمِهِ]သူသည် မိမိ၏ အမျိုးသားများအပေါ် အလွန်ဂရုစိုက်သူ။ ထောက်ထားစာနာသူဖြစ်သည်။

[اَلْبَاقِى] ❶ အလ္လာဟ်အရှင်မြတ်၏ နာမတော်တစ်ပါး။(ထာဝရတည်ရှိနေတော်မူသောအရှင်)။ ❷ ကြွင်းကျန်ရစ်သော(သူ၊ အရာ)။

[اَلْبَاقِيَةُ] တည်မြဲသော(အရာ)။ [اَلْحَيٰوةُ الْبَاقِيَةُ]တည်မြဲ၍ ထာဝရဖြစ်သော နောင်တမလွန်ဘဝ။ [اَلْبَاقِيَاتُ الصَّالِحَاتُ] အကျိုးသက်ရောက်မှု အစဉ်မပြတ်ဖြစ်သော ကောင်းမှုများ။

[اَلْبُقْيَا] တည်မြဲစေခြင်း။

[اَلْبَقِيَّةُ] ကြွင်းကျန်သော(အရာ)။ အကြွင်း။ အကျန်။ တည်မြဲ ကျန်ရစ်သောအရာ။ ﴿بَقِيَّةُ اللّٰهِ خَيْرٌ لَّكُمْ﴾အလ္လာဟ်အရှင်မြတ်ထံတော်၌ တည်မြဲကျန်ရစ်မည်ဖြစ်သော ကောင်းမှု၏အကျိုးသည် အသင်တို့အတွက် သာလွန်ကောင်းမွန်သည်။[اُوْلُوْ بَقِيَّةٍ][ကြို]တင်တွေးခေါ်နိုင်သူ။ အမြော်အမြင်ရှိသူ။

✿ [بَكَأَ –] ❶ [–تِ الْبِئْرُ](ရေတွင်း) ရေနည်းပါးသည်။ ❷ [–الْحَيَوَانُ الْحَلُوْبُ](ဆိတ်မ၊ နွားမ စသည့်နို့ထွက်တိရစ္ဆာန်)နို့ရည်ခန်းသည်။

[بَكْأٌ] ❶ (ရေတွင်း)ရေနည်းပါးခြင်း။ ❷ (ဆိတ်မ၊ နွားမ စသည့်နို့ထွက်တိရစ္ဆာန်)နို့ရည်ခန်းခြင်း။

[بَكُؤَ –] စကားနည်းသည်။

[بَكَائَةٌ ـ بَكْأٌ] စကားနည်းခြင်း။

[بَكِىءٌ] စကားနည်းသော(သူ)။(ج)[بِكَاءٌ]။ [بِكَاءٌ ـ بَكَايَا](ج)။[بَكِيءٌ ـ بَكِيئَةٌ](م)

[اَبْكَأَ] ❶ ကောင်းခြင်းနည်းပါးသည်။ အကျိုးနည်းသည်။ ❷ (ဆိတ်မ၊ နွားမ စသည့်နို့ထွက်တိရစ္ဆာန်ကို)နို့ရည်နည်းသည်ဟု ယူဆသည်။

✿ [بَكْبَكَ] ❶ လှုပ်ရမ်းသည်။ ❷ တစ်ခုပေါ် တစ်ခု ပစ်ပုံသည်။

[اَلْبَكْبَكَةُ] ❶ သွားလိုက်၊ လာလိုက်။ အသွားအလာ။ ❷ လူခြေ ထူထပ်သိပ်သည်းမှု။

✿ [بَكَتَ –] ❶ ရိုက်နှက်သည်။ ❷ (သူ့)မကြိုက်သောပုံစံဖြင့် လာရောက်တွေ့ဆုံသည်။ မုန်းစေသည်။ ❸ နိုင်မာသော အထောက်အထားဖြင့် ရှုံးနိမ့်စေသည်။ ❹ ပြစ်တင်ရှုတ်ချသည်။

[بَكْتٌ] ❶ ရိုက်နှက်ခြင်း။ ❷ (သူ့)မကြိုက်သောပုံစံဖြင့် လာရောက်တွေ့ဆုံခြင်း။ မုန်းစေခြင်း။ ❸ နိုင်မာသော အထောက်အထား

ဖြင့် ရှုံးနိမ့်စေခြင်း။ ❹ ပြစ်တင်ရှုတ်ချခြင်း။

[بَكَّتَ] ❶ အပြင်းအထန် ရိုက်နှက်သည်။ ❷ (သူ)အလွန်မကြိုက်သောပုံစံဖြင့် လာရောက်တွေ့ဆုံသည်။ ခါးခါးသီးသီး မုန်းစေသည်။ ❸ ခိုင်မာသော အထောက်အထားဖြင့် အပြတ်အသတ် ရှုံးနိမ့်စေသည်။ ❹ ရစရာမရှိအောင်ပြစ်တင်ရှုတ်ချသည်။

✿ [بَكَرَ ـ] ❶ နေမထွက်မီ စောစောထွက်သည်။ ❷ အလျှင်အမြန်ပြုမူဆောင်ရွက်သည်။ ❸ [ـ اِلَيْهِ]အလျှင်အမြန် ပြေးသွားသည်။ ❹ [بَكَرَ الشَّجَرُ]လျှင်မြန်စွာ သီးပွင့်သည်။

[بُكُوْرٌ] ❶ နေမထွက်မီ စောစောထွက်ခြင်း။ ❷ အလျှင်အမြန်ပြုမူဆောင်ရွက်ခြင်း။ ❸ အလျှင်အမြန် ပြေးသွားခြင်း။ ❹ လျှင်မြန်စွာသီးပွင့်ခြင်း။

[بَكِرَ ـ] ❶ အလျှင်အမြန်ပြုမူဆောင်ရွက်သည်။ ❷ အလျှင်အမြန် ပြေးသွားသည်။

[اَبْكَرَ] ❶ နေမထွက်မီ စောစောထွက်သည်။ ❷ အလျှင်အမြန်ပြုမူဆောင်ရွက်သည်။ ❸ [ـ اِلَيْهِ]အလျှင်အမြန် ပြေးသွားသည်။ ❹ [ـ الشَّجَرُ]လျှင်မြန်စွာ သီးပွင့်သည်။

[بَاكَرَ] ❶ [هٗ ـ]သူ့ထက်အလျှင် နေမထွက်မီ စောစောထွက်သည်။ ❷ အလျှင်အမြန်ပြေးသွားသည်။

[بَكَّرَ] ❶ နေမထွက်မီ စောစောထသည်။ ❷ အလျှင်အမြန် ပြေးသွားသည်။

[اِبْتَكَرَ] ❶ မထချင်ထချင်ဖြင့် နေမထွက်မီ စောစောထသည်။ ❷ [ـتِ الْمَرْاَةُ]သားဦးမွေးဖွားသည်။ ❷ [ـ الْفَاكِهَةَ]အသီးဦးကို ခူးယူသည်။ ❸ အသစ်တီထွင်သည်။

[تَبَكَّرَ] ရှေ့ရောက်သည်။ သူ့ထက်အလျှင်ရောက်သည်။

[اَلْاِبْكَارُ] နေမထွက်မီ မိုးသောက်ချိန်။ ﴿وَسَبِّحْ بِالْعَشِيِّ وَ الْاِبْكَارِ﴾နေမထွက်မီ နံနက်စောစောနှင့် ညနေဆည်းဆာ၌ အလ္လာဟ်အရှင်မြတ် သန့်ရှင်းစင်ကြယ်တော်မူကြောင်းကို မြွက်ဆိုပါလေ။

[اَلْبَاكِرُ] ❶ နေမထွက်မီ နံနက်စောစောအချိန်။ ❷ စောစောထသူ။

[اَلْبَاكُوْرُ ـ اَلْبَاكُوْرَةُ] ❶ အသီးဦး။ ❷ အဦး၊ အစ။

[اَلْبَكَارَةُ] အပျိုမြှေး၊ အမြှေးပါး။

[اَلْبَكْرُ] ပျိုရွယ်သော ကုလားအုတ်။(ج) [اَبْكُرٌ ـ بِكَارٌ] (م) [بَكْرَةٌ]။[جَاؤُا عَلٰى بَكْرَةِ اَبِيْهِمْ]။ သူတို့အားလုံး တစ်ယောက်မကျန် ရောက်လာကြသည်။

[اَلْبِكْرُ] ❶ သားဦး၊ သမီးဦး။ ❷ အဦး၊ အစ။ ❸ အပျို။ ❹ လူပျို။ ❺ အသစ်အဆန်း။

[اَلْبَكَرَةُ ـ اَلْبَكْرَةُ] ❶ စက်သီး။ ❷ ဝင်ရိုးထည့်ရန်အလယ်၌အပေါက်ပါ သောဘီး။

[اَلْبُكْرَةُ] နံနက်စောစော။

[اَلْمِبْكَارُ] နံနက်စောစော ထကျင့်ရှိသူ။

✿ [بَكَسَ ـ] [ـ خَصْمَهٗ]မိမိ၏ပြိုင်ဘက်ကို အနိုင်ယူသည်။

[بَكْسٌ] အနိုင်ယူခြင်း။

✿ [بَكَشَ ـ] [ـ الْعُقْدَةَ]ကြိုးအထုံးကို ဖြည်သည်။

[بَكْش] ဖြည်ခြင်း။

[اَلْبَكَّاش] စကားပရိယာယ်ကြွယ်ဝသူ။ကြည့် [بشك]။

✿ [بَكَعَ ـ] ❶ ဆက်တိုက် ပြင်းပြင်းထန်ထန် ရိုက်သည်။ ❷ သူမကြိုက်သော အမူအရာ၊ ပုံစံ၊ အရာဖြင့်ရင်ဆိုင်တွေ့ဆုံသည်။

[بَكْع] ❶ ဆက်တိုက် ပြင်းပြင်းထန်ထန် ရိုက်ခြင်း။ ❷ သူမကြိုက်သော အမူအရာ၊ ပုံစံ၊ အရာဖြင့်ရင်ဆိုင်တွေ့ဆုံခြင်း။

✿ [بَكَّ ـ] ❶ ချိုးဖွဲ့ စုပ်ဖြဲသည်။ ❷ ချိုးသည်။ [ـعُنُقَه]သူ့လည်ဂုတ်ကို ချိုးသည်။ ❸ ပြန်မလှန်နိုင်အောင် အနိုင်ယူချိုးနှိမ်ထားသည်။ ❹ အခက်တွေ့စေသည်။ အကျဉ်းအကြပ်တွေ့စေသည်။ ❺ [ـالدَّابَّة]အစီးအနင်းပေါ်၌ လေးလံသည့်ဝန်ကို တင်ဆောင်၍ သွားလာရာ၌ လေးလံနှောင့်နှေးစေသည်။

[بَكّ ـ بَكَّة] ❶ ချိုးဖွဲ့ စုပ်ဖြဲခြင်း။ ❷ ချိုးခြင်း။ ❸ ပြန်မလှန်နိုင်အောင် အနိုင်ယူချိုးနှိမ်ထားခြင်း။ ❹ အခက်တွေ့စေခြင်း။ အကျဉ်းအကြပ်တွေ့စေခြင်း။ ❺ အစီးအနင်းပေါ်၌ လေးလံသည့်ဝန်ကို တင်ဆောင်၍ သွားလာရာ၌ လေးလံနှောင့်နှေးစေခြင်း။

[تَبَاكَّ] [اَلْجَمْعُ ـ]တစ်ဦးကိုတစ်ဦး အကြပ်တွေ့စေသည်။ ပြည့်ကြပ်နေအောင် လူခြေထူထပ်သည်။

[اَلْأَبَكّ] အမှားအမှန်ကို ခွဲခြားနိုင်စွမ်းမရှိသူ။ လူနုံလူအ။

[بَكَّة] မက္ကာဟ်မြို့။

✿ [بَكَلَ ـ] ❶ ရောနှောသည်။ ရောထွေးစေသည်။ ❷ စကားကို မူလပုံစံအတိုင်းမဟုတ်ပဲ လိမ်ညာ၍လုပ်ကြံဆင့်ပြန်ပြောဆိုသည်။

[بَكْل] ❶ ရောနှောခြင်း။ ရောထွေးစေခြင်း။ ❷ စကားကို မူလပုံစံအတိုင်းမဟုတ်ပဲ လိမ်ညာ၍လုပ်ကြံဆင့်ပြန်ပြောဆိုခြင်း။

[بَكَّلَ] ❶ ရောနှောသည်။ ရောထွေးစေသည်။ ❷ စကားကို မူလပုံစံအတိုင်းမဟုတ်ပဲ လိမ်ညာ၍လုပ်ကြံဆင့်ပြန်ပြောဆိုသည်။

[تَبَكَّلَ] ❶ [ـفِى كَلَامِه]စကားကို မှသားစွက်၍ပြောသည်။ ❷ [ـفِى مَشْيِه]လမ်းလျှောက်ရာ၌ မောက်မာမော်ကြွားသည်။

[اَلْبَكَالَة] ဂျုံမှုန့်၊ ထောပတ်၊ ရေဖြင့်ရောနှယ်၍ပြုလုပ်ထားသော အစားအစာတစ်မျိုး။

[اَلْبَكْل] စစ်ပွဲ၌ သိမ်းပိုက်ရရှိသောပစ္စည်း။ လက်ရသုံ့ပန်းပစ္စည်း။

[اَلْبِكْل] အသွင်သဏ္ဌာန်။ ပုံစံ။

[اَلْبَكِيلَة] ❶ စစ်ပွဲ၌ သိမ်းပိုက်ရရှိသောပစ္စည်း။ လက်ရသုံ့ပန်းပစ္စည်း။ ❷ ဂျုံမှုန့်၊ ထောပတ်၊ ရေဖြင့်ရောနှယ်၍ပြုလုပ်ထားသော အစားအစာတစ်မျိုး။

✿ [بَكِمَ ـ] ❶ ဆွံ့အသည်။(မွေးရာပါ စကားပြောအင်္ဂါ ချို့ယွင်းသည်)။ ❷ စကားကို ထိရောက်စွာမပြောနိုင်ပဲရှိသည်။

[بَكَم] ❶ ဆွံ့အခြင်း။(မွေးရာပါ စကားပြောအင်္ဂါ ချို့ယွင်းခြင်း)။ ❷ စကားကို ထိရောက်စွာမပြောနိုင်ခြင်း။

[اَبْكَم] ❶ ဆွံ့အသော(သူ)။(မွေးရာပါ စကားပြောအင်္ဂါ ချို့ယွင်းသော(သူ))။ ❷ စကားကို ထိရောက်စွာမပြောနိုင်သော(သူ)။(م)

[بُكَمَاء]။(ج)[بُكْمٌ]။

[بَكِمَ ـَ] စကားအဆက်ပြတ်သွားသည်။ ပြောလက်စ စကားကို ရပ်လိုက်သည်။

[بَكَامَةً] စကားအဆက်ပြတ်သွားခြင်း။ ပြောလက်စ စကားကို ရပ်လိုက်ခြင်း။

[بَكَامَةً] စကားအဆက်ပြတ်သွားသော(သူ)။ ပြောလက်စ စကားကို ရပ်လိုက်သော(သူ)။(ج)[بُكْمَانٌ]။

[تَبَكَّمَ] စကားဆက်မပြောနိုင်အောင် ဖြစ်သွားသည်။ စကား ထစ်အသွားသည်။

✽ [بَكَى ـِ] ❶ ငိုသည်။ ဟစ်အော်ငိုကြွေးသည်။ ❷ [ـ الْمَيِّتَ](သေသူအတွက်)ငိုချင်းချသည်။

[بُكًى ـ بُكَاءً] ❶ ငိုခြင်း။ ဟစ်အော်ငိုကြွေးခြင်း။ ❷ (သေသူအတွက်)ငိုချင်းချခြင်း။

[بَكِيٌّ ـ بَكَّاءٌ] အလွန်ငိုသော(သူ)။ အငိုလွယ်သော(သူ)။

[أَبْكَى] ငိုစေသည်။

[بَكَّى] ❶ ငိုစေသည်။ ❷ [ـ الْمَيِّتَ](သေသူအတွက်)ငိုချင်းချသည်။

[تَبَاكَى] ငိုဟန်ဆောင်သည်။

[اِسْتَبْكَى] ငိုချင်လာအောင် ဖန်တီးသည်။

[اَلتَّبْكَاءُ] အလွန်ငိုခြင်း။

✽ [بَلْ] ❶ အမှန်တော့၊ တကယ်တော့။ [مَا عَلِيٌّ شَاعِرٌ بَلْ خَطِيبٌ]အလီဟာ ကဗျာဆရာတစ်ယောက်မဟုတ်ဘူး တကယ်တော့သူဟာ တရားဟောဆရာသာလျှင်ဖြစ်တယ်။ ❷ ဤသို့အလျင်းမဟုတ် စင်စစ်။ ﴿وَقَالُوا اتَّخَذَ الرَّحْمٰنُ وَلَدًا سُبْحَانَهُ بَلْ عِبَادٌ مُكْرَمُونَ﴾ အနန္တကရုဏာတော်ရှင်သည် သားတော်တစ်ပါးကို ရယူတော်မူသည်ဟု ၎င်းတို့ကဆိုကြ၏။ ဤသို့အလျင်းမဟုတ် စင်စစ်၎င်းတို့သည် မြင့်မြတ်သော ကျွန်များသာလျှင်ဖြစ်ကြ၏။ ❸ သို့တစေလည်း။ ဤသို့ပင်ဖြစ်ပါသော်လည်း။ ﴿قَدْ أَفْلَحَ مَنْ تَزَكَّىٰ وَذَكَرَ اسْمَ رَبِّهِ فَصَلَّىٰ بَلْ تُؤْثِرُونَ الْحَيَاةَ الدُّنْيَا﴾ စင်စစ် မိမိကိုယ်ကို စင်ကြယ်စေ၍ မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၏နာမတော်ကို တသလျက် ဆွလာတ်ဝတ်ပြုသူသည် အောင်မြင်ခဲ့ပြီ။ သို့ပင်ဖြစ်သော်လည်း အသင်တို့သည်ကား ဤလောကီဘဝသက်တမ်းကိုသာလျှင် ဦးစားပေးလျက်ရှိကြ၏။

✽ [اَلْبَلَاتِينُ] ရွှေဖြူ(ပလက်တီနမ်)။

✽ [اَلْبَلَازِمَا] သွေးဆဲလ်ရှိ အစိတ်အပိုင်းတစ်ခု။ (ပလာဆမာ)။

✽ [بَلْبَلَ] ❶ [ـ الْمَتَاعَ]ဥစ္စာပစ္စည်းကို ခွဲဝေပေးသည်။ ❷ [ـ الْقَوْمَ]အတွေးအမြင် အမျိုးမျိုး၊ အယူအဆအမျိုးမျိုး ကွဲပြားခြားနားစေသည်။ ❸ [ـ فُلَانًا]ပူပင်သောကဖြစ်စေသည်။ ဇဝေဇဝါဖြစ်စေသည်။ ❹ [ـ اللّٰهُ الْسِنَةَ الْخَلْقِ] အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံများကို ဘာသာစကားအမျိုးမျိုး ကွဲပြားခြားနားစေသည်။

[تَبَلْبَلَ] ❶ [ـ الْمَتَاعُ]ဥစ္စာပစ္စည်း ပြန့်ကြဲပြန့်နှံ့သွားသည်။ ❷ [ـ الْقَوْمُ]အတွေးအမြင် အမျိုးမျိုး၊ အယူအဆအမျိုးမျိုးကွဲပြားခြားနားသွားသည်။ ❸ [ـ فُلَانٌ]ပူပင်သောကဖြစ်သွားသည်။ ဇဝေဇဝါဖြစ်သွားသည်။ ❹ [ـ الْسِنَةُ الْخَلْقِ]အဖန်ဆင်းခံများ ဘာသာစကားအမျိုးမျိုး ကွဲပြားခြားနားသွားသည်။

[اَلْبَلْبَالُ-اَلْبَلْبَالَةُ] စိတ်သောကဖိစီးမှု၊ စိတ်ကယောင်ခြောက်ခြားဖြစ်မှု။(ج)[بَلَابِلُ-بَلَابِيلُ]။

[اَلْبُلْبُلُ] ❶ နိုက်တင်ဂေးငှက်။ ❷ [اَلْبُلْبُلُ مِنَ الْإِبْرِيقِ] ကရားအိုး၏ ရေကျသည့်နေရာ။(ج)[بَلَابِلُ]။

[اَلْبَلْبُولُ] ရေ၌ကျက်စားသော ငှက်တစ်မျိုး။

✿ [بَلَتَ ـُ] ❶ ပြတ်တောက်သည်။ ❷ [ـ الرَّجُلُ] စကားအဆက်ပြတ်သည်။ ❸ [ـ الشَّيْءَ] ဖြတ်တောက်သည်။

[بَلْتٌ] ❶ ပြတ်တောက်ခြင်း။ ❷ စကားအဆက်ပြတ်ခြင်း။ ❸ ဖြတ်တောက်ခြင်း။

[بَلِتَ ـَ] ❶ ပြတ်တောက်သည်။ ❷ [ـ الرَّجُلُ] စကားအဆက်ပြတ်သည်။ ❸ [ـ الشَّيْءَ] ဖြတ်တောက်သည်။

[بَلَتٌ] ❶ ပြတ်တောက်ခြင်း။ ❷ စကားအဆက်ပြတ်ခြင်း။ ❸ ဖြတ်တောက်ခြင်း။

[بَلُتَ ـُ] စကားကို ထိရောက်ပြောင်မြောက်စွာ ပြောဆိုသည်။

[بَلَاتَةٌ] စကားကို ထိရောက်ပြောင်မြောက်စွာ ပြောဆိုခြင်း။

[بَلِيتٌ] စကားကို ထိရောက်ပြောင်မြောက်စွာ ပြောဆိုသော(သူ)။

[اَبْلَتَ] ❶ [ـ الرَّجُلَ] နိုင်မာသော အထောက်အထားဖြင့် စကားဆက်မပြောနိုင်အောင် လုပ်သည်။ ❷ [ـ فُلَانًا يَمِينًا] ကျိန်ဆိုနိုင်းသည်။

✿ [تَبَلْتَعَ] မိမိ၌မရှိသောအရာ သို့မဟုတ် အရည်အချင်းကို ရှိသယောင် ကြွားဝါပြောဆိုသည်။

✿ [بَلَجَ ـُ] ❶ [ـ الصُّبْحُ] မိုးသောက် ရောင်နီသန်းသည်။ ❷ [ـ الْبَابَ] တံခါးကို ဖွင့်သည်။ ❸ [ـ اَلْبَقُّ] အမှန်တရား ထင်ရှားလာသည်။

[بُلُوجٌ] ❶ မိုးသောက်ရောင်နီသန်းခြင်း။ ❷ တံခါးကို ဖွင့်ခြင်း။

[بَلِجَ ـَ] ❶ [ـ وَجْهُهُ] မျက်နှာ ကြည်ရွှင်လန်းဆန်းသည်။ ❷ [ـ صَدْرُهُ] ရင်ထဲ၌ ရှင်းလင်းသည်။ စိတ်ရှင်းသည်။ ❸ [ـ بِهِ] ပျော်ရွှင်သည်။ ❹ နဖူးကျယ်သည်။

[بَلَجٌ] ❶ မျက်နှာ ကြည်ရွှင်လန်းဆန်းခြင်း။ ❷ ရင်ထဲ၌ ရှင်းလင်းခြင်း။ စိတ်ရှင်းခြင်း။ ❸ ပျော်ရွှင်ခြင်း။ ❹ နဖူးကျယ်ခြင်း။

[اَبْلَجُ] ❶ မျက်နှာ ကြည်ရွှင်လန်းဆန်းသော(သူ)။ ❷ ရင်ထဲ၌ ရှင်းလင်းသော(သူ)။ စိတ်ရှင်းသော(သူ)။ ❸ ပျော်ရွှင်သော(သူ)။ ❹ နဖူးကျယ်သော(သူ)။ ❺ ထင်ရှားပြတ်သားသော(အရာ)။[اَلْحَقُّ اَبْلَجُ وَالْبَاطِلُ لَجْلَجٌ] အမှန်တရားသည် ထင်ရှားပြတ်သား၍ အမှားသည် ရှုတ်ထွေး၏။(م)[بَلْجَاءُ]။(ج)[بُلْجٌ]။

[اَبْلَجَ] ❶ [ـ الصُّبْحُ] မိုးသောက် ရောင်နီသန်းသည်။ ❷ [ـ اَلْحَقُّ] အမှန်တရားထင်ရှားလာသည်။ ❸ ထင်ရှားစေသည်။ ❹ [ـ فُلَانًا] ပျော်ရွှင်စေသည်။

[اِبْتَلَجَ] ❶ [ـ الصُّبْحُ] မိုးသောက် ရောင်နီသန်းသည်။ ❷ [ـ الْبَابَ] တံခါးကို ဖွင့်သည်။ ❸ [ـ اَلْحَقُّ] အမှန်တရား ထင်ရှားလာသည်။

[اِنْبَلَجَ] ❶ [ـ الصُّبْحُ] မိုးသောက် ရောင်နီသန်းသည်။ ❷ [ـ الْبَابَ] တံခါးကို ဖွင့်သည်။ ❸ [ـ اَلْحَقُّ] အမှန်တရား ထင်ရှားလာသည်။

[تَبَلَّجَ] ❶ [ــَ الصُّبْحُ]မိုးသောက် ရောင်နီသန်းသည်။ ❷ [ــَ الْبَابُ]တံခါးကို ဖွင့်သည်။ ❸ [ــَ الْحَقُّ]အမှန်တရား ထင်ရှားလာသည်။

[اَلْبَلْجَةُ ـ اَلْبُلْجَةُ] ❶ မိုးသောက်ရောင်နီ။ ❷ နဖူးနှင့်မျက်နှာကျယ်ခြင်း။

✽ [بَلَحَ ـَ] ❶ အစွမ်းအစကင်းမဲ့သည်။ အားအင်ကုန်ခန်းသည်။ ❷ [ــَتِ الْبِئْرُ]ရေတွင်းရေခန်းခြောက်သည်။ ❸ [ــَ بِشَهَادَتِهِ]သက်သေအထောက်အထားကို ထိန်ချန်ထားသည်။

[بَلْحٌ ـ بُلُوْحٌ] ❶ အစွမ်းအစကင်းမဲ့ခြင်း။ အားအင်ကုန်ခန်းခြင်း။ ❷ ရေတွင်းရေ ခန်းခြောက်ခြင်း။ ❸ သက်သေအထောက်အထားကို ထိန်ချန်ထားခြင်း။

[اَبْلَحَ] ❶ [ــَتِ النَّخْلَةُ]စွန်ပလွံသီး သီးသည်။ ❷ မစွမ်းနိုင်အောင် ဖြစ်စေသည်။ အားအင်ချိနဲ့စေသည်။

[بَالَحَ] မတရားသဖြင့် ငြင်းခုံအနိုင်ယူသည်။

[بَلَّحَ] အားအင်ကုန်ခန်းပြတ်တောက်သည်။

[تَبَالَحَ] တစ်ဦးနှင့်တစ်ဦး အပြိုင်အဆိုင်ငြင်းခုံသည်။

[اَلْبَلَحُ] စွန်ပလွံသီး(အစိမ်း)။

✽ [بَلَخَ ـَ] မောက်မာရမ်းကားသည်။

[بَلْخٌ] မောက်မာရမ်းကားခြင်း။

[اَبْلَخُ] မောက်မာရမ်းကားသော(သူ)။(م)[بَلْخَاءُ]။(ج)[بُلْخٌ]။

[تَبَلَّخَ] မောက်မာရမ်းကားသည်။

✽ [تَبَلْخَصَ] ကြီးမားတုတ်ခိုင်၍ အသားအရေပြည့်ဝဖွံ့ဖြိုးသည်။

✽ [بَلَدَ ـُ] [ــَ بِالْمَكَانِ]မြို့အဖြစ်သတ်မှတ်သည်။

[بُلُوْدٌ] မြို့အဖြစ်သတ်မှတ်ခြင်း။

[بَلِدَ ـَ] အသိဉာဏ် နည်းပါးသည်။ ထုံထိုင်းသည်။ ထူအသည်။

[بَلَدٌ] အသိဉာဏ် နည်းပါးခြင်း။ ထုံထိုင်းခြင်း။ ထူအခြင်း။

[بَلُدَ ـُ] အသိဉာဏ် နည်းပါးသည်။ ထုံထိုင်းသည်။ ထူအသည်။

[بَلَادَةٌ] အသိဉာဏ် နည်းပါးခြင်း။ ထုံထိုင်းခြင်း။ ထူအခြင်း။

[بَلِيْدٌ] အသိဉာဏ် နည်းပါးသော(သူ)။ ထုံထိုင်းသော(သူ)။ ထူအသော(သူ)။

[اَبْلَدَ] ❶ မြေနှင့် တစ်သားတည်းဖြစ်သည်။ ❷ အသိဉာဏ်ခေါင်းပါးသူ ဖြစ်သွားသည်။ ❸ [ــَ بِالْمَكَانِ]မြို့အဖြစ်သတ်မှတ်သည်။ ❹ [ــَ فُلَانًا الْبَلَدَ]မြို့၌ အမြဲနေစေသည်။

[بَلَّدَ] ❶ အလုပ်ကို ဖြစ်ကတတ်ဆန်းလုပ်သည်။ ပေါ့ပျက်ပျက်လုပ်သည်။ ❷ အားအင်ကုန်ခန်း၍ မြေပေါ်သို့ကျသည်။ ❸ [ــَ الْفَرَسُ] (မြင်း)ရှေ့ကို မကျော်နိုင်ဖြစ်သည်။ ❹ [ــَ السَّحَابُ](မိုးတိမ်)မိုးရွာသွန်းခြင်း ကင်းမဲ့သည်။ ❺ [ــَ فُلَانٌ]မလှုပ်နိုင်မကိုင်နိုင်အောင်ဖြစ်သည်။

[تَبَلَّدَ] ❶ အသိဉာဏ်ခေါင်းပါးသည်။ ❷ လူနုံလူအကဲ့သို့ ပြုမူသည်။

[اَلْبَلَدُ ـ اَلْبَلْدَةُ] ❶ မြို့၊ ရွာ၊ နယ်ပယ်ဒေသ၊ တိုင်းပြည်။ ❷ ကျယ်ဝန်းသည့် မြေနေရာ။
﴿وَالْبَلَدُ الطَّيِّبُ يَخْرُجُ نَبَاتُهُ بِإِذْنِ رَبِّهِ﴾ မြေဩဇာကောင်းမွန်သော မြေ၊ ယင်းမြေကို ဖန်ဆင်းတော်မူသောအရှင်မြတ်၏အမိန့်တော်ဖြင့် အပင်များသည် ယင်းမြေမှ ထွက်ပေါ်လေ၏။
[اَلْبَلَدِىُّ] မြို့၊ ရွာ၊ နယ်ပယ်ဒေသ၊ တိုင်းပြည်နှင့်ဆိုင်သော။
[اَلْبَلَدِيَّةُ] မြို့ပြဆိုင်ရာ အဖွဲ့အစည်း။
[اَلْبَلِيْدُ] အသိဉာဏ်ခေါင်းပါးသူ။ ထုအသူ။ ထုံထိုင်းသူ။

✿ [بَلَدَحَ] ❶ ပင်ပန်းနွမ်းနယ်၍ အားအင်ကုန်ခန်းသည်။ ❷ ကတိပေးပြီး ဖေါက်ဖျက်သည်။ ❸ မိမိကိုယ်ကို မြေပေါ်သို့လှဲချသည်။
[تَبَلْدَحَ] ကတိပေးပြီး ဖေါက်ဖျက်သည်။
[اَلْبَلْدَحُ] [اَلْبَلْدَحُ مِنَ النِّسَاءِ] အလွန်ဝဖြိုးသောမိန်းမ။

✿ [بَلْدَمَ] ကြောက်ရသဖြင့် တိတ်တိတ်နေသည်။ မတတ်သာ၍ စကားမပြောပဲနေသည်။
[اَلْبَلْدَمُ] ❶ လည်ပင်း။ ❷ မပြတ်သောဓါး၊ ဓါးတုံး။

✿ [بَلْوَرَ] ❶ ဖန်သားဖြင့် မွမ်းမံခင်းကျင်းသည်။ ❷ ပြဿနာတစ်ရပ်၊ အတွေးအမြင်တစ်ခုကို အရှင်းလင်းဆုံးဖြစ်အောင် ပြုလုပ်သည်။
[تَبَلْوَرَ] ❶ ဖန်သားဖြင့် မွမ်းမံခင်းကျင်းထားသည်။ ❷ ပြဿနာတစ်ရပ်၊ အတွေးအမြင်တစ်ခု အရှင်းလင်းဆုံးဖြစ်သွားသည်။

[اَلْبَلُّوْرُ ـ اَلْبِلَّوْرُ] ❶ ဖန်သား။ ကြည်လင်၍ ထွင်းဖေါက်မြင်နိုင်သော ကျောက်တစ်မျိုး။ ❷ မှန်။

✿ [اَلْاِبْلِيْزُ] ကြည့်။ [ابلز]

✿ [اَبْلَسَ] ရှက်ကြောက်သဖြင့်၊ သို့မဟုတ် ပြောရန် အထောက်အထားကင်းမဲ့သဖြင့် ရေငုံနှုတ်ပိတ်နေသည်။ လုံးဝပါးစပ်မဟနိုင်အောင်ဖြစ်သည်။
﴿يَوْمَ تَقُوْمُ السَّاعَةُ يُبْلِسُ الْمُجْرِمُوْنَ﴾ 'ကိယာမတ်' ရှင်ပြန်ထမြောက်ရမည့်နေ့တွင် အပြစ်လုပ်ထားသူတို့သည် တစ်စုံတစ်ရာ မပြောနိုင်အောင် ရေငုံနှုတ်ပိတ်နေကြရမည်။

✿ [اِبْلِيْسُ] ကြည့်။ [ابلس]
[اَلْبَلَاسُ] သားမွေးထည်အထူ။ (ج) [بُلُسٌ]။
[اَلْبَلَسُ] သဖန်းသီးတစ်မျိုး။
[اَلْبُلُسُ] ပဲရာဇာ။

✿ [اَلْبَلَسَانُ] အပင်တစ်မျိုး။ (balsam)

✿ [بَلْسَمَ] ❶ စကားမပြောပဲ ခေါင်းငုံ့ထားသည်။ ❷ မျက်နှာကို သုန်မှုန်အောင် လုပ်ထားသည်။ မျက်နှာစူပုပ်ထားသည်။
[تَبَلْسَمَ] မျက်နှာကို သုန်မှုန်အောင် လုပ်ထားသည်။ မျက်နှာစူ ပုပ်ထားသည်။
[اَلْبَلْسَمُ] အပင်တစ်မျိုး။ (balsam)

✿ [اَلْبُلْسُنُ] ပဲရာဇာ။

✿ [اَلْبَلْشَفِيَّةُ] ဗော်ရှီဗစ်လမ်းစဉ်။ (အရင်းရှင်စနစ်မှ ကွန်မြူနစ်စနစ်သို့ တိုက်ရိုက်တက်လှမ်း၍မရ။ အဆင့်ဆင့်ပြုပြင်ပြောင်းလဲ၍ ကွန်မြူနစ်စနစ်ကို ထူထောင်ရမည်ဟု ခံယူသောဝါဒလမ်းစဉ်)။

✿ [بَلَصَ ـ] တစ်ခုမကျန် ယူသွားသည်။

[بَلْصٌ] တစ်ခုမကျန် ယူသွားခြင်း။

[بَالَصَ] တစ်ဦးအပေါ်တစ်ဦး ခုန်အုပ်သည်။

[بَلَّصَ] တစ်ခုမကျန် ယူသွားသည်။

[تَبَلَّصَ] တိတ်တဆိတ် တောင်းခံသည်။ တီးတိုး တောင်းဆိုသည်။

[اَلْبَلَّاصُ] လက်ကိုင်နှစ်ဘက်ပါသော ကရားအိုးကြီး။

✿ [بَلَطَ ـُ] ❶ [ـ الدَّارَ]အိမ်ကို ကျောက်ပြားခင်းသည်။ ❷ [ـ الْأَرْضَ]မြေကို ညီညာအောင်ညှိသည်။

[بَلْطٌ] ❶ (အိမ်ကို) ကျောက်ပြားခင်းခြင်း။ ❷ မြေကို ညီညာအောင်ညှိခြင်း။

[اَبْلَطَ] ❶ [ـ الدَّارَ]အိမ်ကို ကျောက်ပြားခင်းသည်။ ❷ [ـ بِالْأَرْضِ]မြေ၌နေထိုင်သည်။ ❸ [ـ الرَّجُلُ]ကုန်းကောက် စရာမရှိအောင် ဆင်းရဲမွဲတေသည်။ ❹ [ـ الْمَطَرُ الْأَرْضَ] မြေ၌ ဖုံနှင့်သဲများလွင့်စင်သွားသည်အထိ မိုးရွာချသည်။ ❺ [ـ اللِّصُّ فُلَانًا](သူခိုး)တစ်ခုမကျန် ခိုးယူသွားသည်။

[بَالَطَ] ❶ [ـ فِي الْأَمْرِ]အစွမ်းကုန် ကြိုးစားဆောင်ရွက်သည်။ ❷ [ـ فُلَانًا]စွန့်ပစ်ထွက်ပြေးသည်။ ❸ တစ်ဦးချင်း စိန်ခေါ်၍ တိုက်ခိုက်သည်။

[بَلَّطَ] ❶ လမ်းမလျှောက်နိုင်အောင် ပင်ပန်းနွမ်းနယ်သည်။ ❷ [ـ الدَّارَ]အိမ်ကို ကျောက်ပြားခင်းသည်။ ❸ နားကို နာကြင်စေသည်အထိ လက်ညှိုးနှင့်ထိုးသည်။

[تَبَالَطَ] တစ်ဘက်နှင့်တစ်ဘက် အပြန်အလှန် ဓါးဖြင့်ယှဉ်ပြိုင် တိုက်ခိုက်သည်။

[اَلْبَلَاطُ] ❶ ကျောက်ပြား။ ❷ မာပြင်းသည့် မြေမျက်နှာပြင်။ ❸ အုပ်ချုပ်သူနေထိုင်သည့် စံအိမ်၊ နန်းတော်။

[اَلْبَلْطُ] ဆွဲဆန့်ထားသည့် သံချောင်း။

[اَلْبَلْطَةُ] ရဲတင်း။

[اَلْبَلْطِيُّ] ငါးတစ်မျိုး။

[اَلْبَلُّوطُ] ဝက်သစ်ချပင်။

✿ [بَلْطَحَ] မြေပေါ်၌ လဲလျောင်းသည်။

✿ [بَلِعَ ـَ] မြိုချသည်။ သောက်မြိုသည်။

[بَلْعٌ] မြိုချခြင်း။ သောက်မြိုခြင်း။

[بَالِعٌ ـ بَلُوعٌ] မြိုချသော(သူ)။ သောက်မြိုသော(သူ)။

[بَلَعَ ـَ] မြိုချသည်။ သောက်မြိုသည်။

[بَلْعٌ] မြိုချခြင်း။ သောက်မြိုခြင်း။

[اَبْلَعَ] မြိုချစေသည်။ သောက်မြိုစေသည်။[اَبْلِعْنِي رِيقِي]ငါ့တံတွေးကို ငါ့ကို မြိုချခွင့်လေးပေးပါ(ငါ့ကို အချိန်အနည်းငယ် ပေးပါ)။

[بَلَّعَ] ထင်ရှားပေါ်လွင်လာသည်။ [بَلَّعَ الشَّيْبُ فِي رَأْسِهِ]သူ့ခေါင်းပေါ်မှာ ဖရာ အရိပ်အရောင် ပေါ်လွင်ထင်ရှားခဲ့ပြီ။

[اِبْتَلَعَ] မြိုချသည်။ သောက်မြိုသည်။

[تَبَلَّعَ] မြိုချသည်။ သောက်မြိုသည်။ [تَبَلَّعَ الشَّيْبُ فِي رَأْسِهِ]သူ့ခေါင်းပေါ်မှာ ဖရာ အရိပ်အရောင် ပေါ်လွင်ထင်ရှားခဲ့ပြီ။

[اَلْبَالُوعَةُ ـ الْبَلُّوعَةُ]ရေတံလျှောက်။ ရေစီးရန်အတွက်ပြုလုပ်ထားသော ရေမြောင်း။(ج) [بَوَالِيعُ ـ بَلَالِيعُ]။

[اَلْبَلَع] အလွန်အစားကြီးသူ။[سَعْدُبَلَع]လ ရောက်ရှိရာစခန်းတစ်ခု။

[اَلْبُلْعَة] မြိုချခြင်း။ သောက်မြိုခြင်း။

[اَلْبَلَّاعَة] ရေတံလျှောက်။ ရေစီးရန်အတွက် ပြုလုပ်ထားသော ရေမြောင်း။

[اَلْبَلُّوْع] (၁) သောက်ဆေး။ (၂) [اِنَاءٌبَلُّوْعٌ] ရေခွက်ကြီး။

✿ [اَلْبَلْعَمُ ـ اَلْبُلْعُوْمُ] (၁) လည်ချောင်းရှိ အစာလမ်းကြောင်း။ (၂) မြေအောက်ရှိ ရေစီးသည့်နေရာ။(ج)[بَلَاعِمُ ـ بَلَاعِيْمُ]။

✿ [بَلَغَ ـ] (၁) [ـ الشَّجَرُ]အသီးသီးသည့် အရွယ်သို့ရောက်သည်။ (၂) [ـ الْوَلَدُ]လူပျိုအရွယ် ရောက်သည်။ (၃) [ـ الْاَمْرُ]ဆုံးခန်းတိုင်သည်။ ပြီးဆုံးသည်။ (၄) [ـ الشَّيْءُ]ရောက်ရှိသည်။

[بُلُوْغٌ ـ بَلَاغٌ] (၁) အသီးသီးသည့် အရွယ်သို့ ရောက်ခြင်း။ (၂) လူပျိုအရွယ်ရောက်ခြင်း။ (၃) ဆုံးခန်းတိုင်ခြင်း။ ပြီးဆုံးခြင်း။ (၄) ရောက်ရှိခြင်း။

[بَلُغَ ـ] စကားကို ထိရောက်ပြောင်မြောက်စွာ ပြောဆိုသည်။ စကားကို လှပစွာတန်ဆာဆင်၍ ပြောသည်။

[بَلَاغَةٌ] စကားကို ထိရောက်ပြောင်မြောက်စွာ ပြောဆိုခြင်း။ စကားကို လှပစွာတန်ဆာဆင်၍ ပြောခြင်း။

[بَلِيْغٌ] စကားကို ထိရောက်ပြောင်မြောက်စွာ ပြောဆိုသော(သူ)။ စကားကို လှပစွာတန်ဆာဆင်၍ ပြောသော(သူ)။(ج) [بُلَغَاءُ]။

[اَبْلَغَ] ပို့ဆောင်ပေးသည်။ အရောက်ပို့သည်။

[بَالَغَ] အစွမ်းကုန် ကြိုးစားဆောင်ရွက်သည်။

[بَلَّغَ] (၁) ထင်ရှားလာသည်။ [ـ الشَّيْبُ فِيْ رَاْسِهِ]သူ၏ခေါင်း၌ ဇရာအရိပ်လက္ခဏာ ထင်ရှားလာသည်။ (၂) [ـ الْفَارِسُ] မြင်းအမြန်ပြေးရန် ဇက်ကြိုးကို ကိုင်၍ ရှေ့သို့ဆန့်ထုတ်ထားသည်။ (၃) [ـ الشَّيْءَ]အရောက်ပို့ဆောင်ပေးသည်။

[تَبَالَغَ] (၁) [ـ فِيْهِ الْمَرَضُ]ရောဂါအခြေအနေ အဆုံးစွန်သို့ရောက်သည်။ (၂) [ـ فِيْ كَلَامِهِ] စကားကို တန်ဆာဆင်၍ ကြိုးစားပြောဆိုသည်။

[تَبَلَّغَ] (၁) [ـ بِكَذَا]လုံလောက်သည်ဟု ခံယူသည်။ ရောင့်ရဲသည်။ (၂) မရောက်မချင်း ဒုက္ခခံ၍ အရောက်သွားသည်။

[اَلْبَلَاغُ] (၁) ရောက်ရှိလာသော တရားဒေသနာတော်။ (၂) တရားတော်ကို လူတို့ထံအရောက် ဖြန့်ချိပေးပို့ခြင်း။﴿هٰذَا بَلَاغٌ لِلنَّاسِ﴾ ဤသည် လူခပ်သိမ်းတို့အတွက် ရောက်ရှိလာသော တရားဒေသနာတော်ဖြစ်သည်။ (၃) လုံလောက်မှု။

[اَلْبَلَاغَةُ] စကားအရာ၌ ပြေပြစ်လှပ၍ အဓိပ္ပါယ်လေးနက် ထိရောက်မှု။

[اَلْبُلْغَةُ] (၁) မိမိ၏လိုအပ်ချက်ကို အပိုအလို မရှိ ဖြည့်ဆည်းပေးနိုင်သော(အရာ)။ (၂) ဘိနပ် တစ်မျိုး။

[اَلتَّبْلِغَةُ] ရေပုံးကြိုး။(ج) [تَبَالِغُ]။

[اَلْمَبْلَغُ] ပန်းတိုင်။ အဆုံးသတ်။ အတိုင်းအ

တာ၊ ပမာဏ။

✿ [اَلْبَلْغَمُ] ချွဲ၊ သလိပ်။

✿ [بَلَقَ ـُ] ❶ [ـ السَّيْلُ](ရေ)တိုက်စားသည်။ ❷ [ـ الْبَابَ]တံခါးကို လုံးဝဖွင့်ထားသည်။

[بَلْقٌ - بُلُوقٌ] ❶ (ရေ)တိုက်စားခြင်း။ ❷ တံခါးကို လုံးဝဖွင့်ထားခြင်း။

[بَلِقَ ـَ] ❶ [ـ الْفَرَسُ](မြင်း)အရောင်အဖြူအနက်ကွက်ကြားဖြစ်သည်။ ❷ [ـ الرَّجُلُ] တွေဝေအံ့သြသည်။

[بَلَقٌ - بَلْقَةٌ] ❶ (မြင်း)အရောင် အဖြူအနက်ကွက်ကြားဖြစ်ခြင်း။ ❷ တွေဝေအံ့သြခြင်း။

[اَبْلَقُ] အရောင် အဖြူအနက်ကွက်ကြားဖြစ်သော(မြင်း)။(م) [بَلْقَاءُ]။(ج) [بُلْقٌ]။

[بَلِقٌ] တွေဝေအံ့သြသော(သူ)။

[بَلُقَ ـُ] [ـ الْفَرَسُ](မြင်း)အရောင် အဖြူအနက်ကွက်ကြားဖြစ်သည်။

[بَلَقٌ - بَلْقَةٌ] (မြင်း)အရောင် အဖြူအနက်ကွက်ကြားဖြစ်ခြင်း။

[اَبْلَقَ] ❶ (မြင်း)အရောင် အဖြူအနက်ကွက်ကြားမွေးသည်။ ❷ [ـ الْبَابَ]တံခါးကို လုံးဝဖွင့်ထားသည်။

[بَلَّقَ] [ـ ظَهْرَهُ بِالسَّوْطِ]သူ၏ကျောပြင်ကို ကြာပွတ်ဖြင့်ရိုက်၍ အသားများအစိတ်စိတ်အမွှာမွှာပြတ်ထွက်စေသည်။

[اِنْبَلَقَ] [ـ الْبَابُ]တံခါးလုံးဝဖွင့်ထားသည်။

[اِبْلَوْلَقَ] [ـ لَوْنُهُ]အရောင် အဖြူအနက်ကွက်ကြားဖြစ်သည်။

[اَلْبَلَقُ] အဖြူအနက် ကွက်ကြားဖြစ်သော(အရောင်)။

✿ [بَلْقَعَ] [ـ الْبَلَدُ]မြို့သူမြို့သားများ၌ ဆင်းရဲငတ်ပြတ်မှု ဆိုက်ရောက်သည်။

[اَلْبَلْقَعُ] တစ်စုံတစ်ရာမျှမရှိသော၊ လစ်ဟာနေသော(နေရာ)။[طَرِيقٌ بَلْقَعٌ]ရှင်းလင်းပြောင်ချောနေသောလမ်း။(ج)[بَلَاقِعُ]။ ﴿اَلْيَمِينُ الْكَاذِبَةُ تَدَعُ الدِّيَارَ بَلَاقِعَ﴾လိမ်ညာ၍ ကျိန်ဆိုခြင်းသည် အိမ်များကို ဟင်းလင်းဖြစ်စေသည်။(လိမ်ညာ၍ ကျိန်ဆိုမှုကို ပြုခြင်းသည် အိုးအိမ်များ၌ ဂုဏ်ကျက်သရေကို ဆုတ်ယုတ်စေသည်။ ဆင်းရဲကြပ်တည်းစေသည်။)

✿ [بَلَّ ـِ] ❶ [ـ مِنْ مَرَضِهِ]နာလန်ထလာသည်။ ပြန်လည်ကျန်းမာလာသည်။ ❷ [ـ الرِّيحُ](လေ)အေးမြစွတ်စိုစေသည်။

[بَلٌّ - بَلَلٌ - بُلُولٌ] ❶ နာလန်ထလာခြင်း။ ပြန်လည်ကျန်းမာလာခြင်း။ ❷ အေးမြစွတ်စိုစေခြင်း။

[بَلَّ ـُ] ❶ စွတ်စိုစေသည်။ ❷ [ـ فُلَانًا] ပေးကမ်းသည်။ ❸ [ـ رَحِمَهُ]မိမိ၏သားချင်းများကို ကောင်းစွာဆက်ဆံသည်။

[بَلٌّ - بِلَّةٌ - بَلَلٌ - بَلَالٌ]❶ စွတ်စိုစေခြင်း။ ❷ ပေးကမ်းခြင်း။ ❸ (မိမိ၏သားချင်းများကို)ကောင်းစွာဆက်ဆံခြင်း။

[بَلَّ ـَ] ❶ [ـ الرَّجُلُ]မတရားငြင်းခုံအနိုင်ယူသည်။ ❷ သေချာစွာသိသည်။ အတိအကျသိရှိသည်။ ❸ [ـ بِالْأَمْرِ]နိုင်နင်းကျွမ်းကျင်သည်။

[بَلَلٌ - بَلَالَةٌ] ❶ မတရားငြင်းခုံအနိုင်ယူခြင်း။ ❷ သေချာစွာသိခြင်း။ ❸ နိုင်နင်းကျွမ်းကျင်ခြင်း။

[اَبَلُّ] ❶ မတရားငြင်းခုံအနိုင်ယူသော(သူ)။ ❷ သေခြာစွာသိသော(သူ)။ ❸ နိုင်နင်းကျွမ်းကျင်သော(သူ)။

[اَبَلَّ] ❶ [ــ الْعُوْدُ](ပိုက်၊ သစ်ချောင်းစသည်၌) ရေစီးသည်။ ❷ [ــ الْمَرِيْضُ](ရောဂါသည်)ပြန်လည်ကျန်းမာလာသည်။ နာလန်ထလာသည်။ ❸ [ــ عَلَيْهِ]နိုင်နင်းလွှမ်းမိုးသည်။ ❹ [ــ فُلَانًا]မတရားငြင်းခုံအနိုင်ယူသည်။

[بَلَّلَ] စွတ်စိုစေသည်။

[اِبْتَلَّ] ❶ စွတ်စိုသည်။ ❷ ပြန်လည်ကျန်းမာလာသည်။ ❸ အခြေအနေကောင်းမွန်သည်။

[تَبَلَّلَ] ❶ စွတ်စိုသည်။ ❷ ပြန်လည်ကျန်းမာလာသည်။ ❸ အခြေအနေကောင်းမွန်သည်။

[اَلْبَالَّةُ] ❶ စွတ်စိုမှု။ ❷ ချမ်းသာသုခ။

[اَلْبَالُوْلُ] ရေ။

[اَلْبِلَالُ] ❶ ရေ။ ❷ လည်ပင်းကို စွတ်စိုစေသည့်အရာ။

[اَلْبَلَالَةُ] စွတ်စိုမှု။

[اَلْبَلَّةُ] ❶ စွတ်စိုမှု။ ❷ ပျိုရွယ်မှု၏ လုပတင့်တယ်မှု။ ❸ ချမ်းသာသုခ။ [طَوَاهُ عَلَى بُلَّتِهٖ] ထိုအခြေအနေကို သူနှစ်သက်လိုလား သည်။

[اَلْبِلَّةُ] ❶ ဘေးရန်ကင်းငြိမ်းမှု။ ❷ နှုတ်ရွှင်မှု၊ စကားလုံးများကို ပီသစွာပြောဆိုနိုင်မှု။ ❸ ချမ်းသာသုခ။

[اَلْبَلِيْلَةُ] ဂျုံ၊ ပြောင်းစသည်ကို ချက်ပြုတ်၍စားရသော အစားအစာတစ်မျိုး

✿ [بَلِمَ ـَ] ❶ နှုတ်ခမ်းထူသည်။ နှုတ်ခမ်းရောင်သည်။ ❷ [ــتِ النَّاقَةُ](ကုလားအုတ်မ)မိတ်တောင်းသည်။ ဖီးတောင်းသည်။ မိတ်လိုက်လိုသည့် လက္ခဏာပြသည်။

[بَلَمَةٌ] ❶ နှုတ်ခမ်းထူခြင်း။ နှုတ်ခမ်းရောင်ခြင်း။ ❷ (ကုလားအုတ်မ)မိတ်တောင်းခြင်း။ ဖီးတောင်းခြင်း။ မိတ်လိုက်လိုသည့်လက္ခဏာပြခြင်း။

[اَبْلَمَ] ❶ တိတ်တိတ်နေသည်။ ရေငုံနှုတ်ပိတ်နေသည်။ ❷ [ــتِ النَّاقَةُ](ကုလားအုတ်မ)မိတ်တောင်းသည်။ ဖီးတောင်းသည်။ မိတ်လိုက်လိုသည့် လက္ခဏာပြသည်။ ❸ နှုတ်ခမ်းထူသည်။ နှုတ်ခမ်းရောင်သည်။

[بَلَّمَ] ❶ တိတ်တိတ်နေသည်။ ရေငုံနှုတ်ပိတ်နေသည်။ ❷ [ــتِ النَّاقَةُ](ကုလားအုတ်မ)မိတ်တောင်းသည်။ ဖီးတောင်းသည်။ မိတ်လိုက်လိုသည့် လက္ခဏာပြသည်။ ❸ နှုတ်ခမ်းထူသည်။ နှုတ်ခမ်းရောင်သည်။

[اَلْاَبْلَمُ] ❶ နှုတ်ခမ်းထူသော(သူ)။ ❷ စွန်ပလွံအရွက်။

[اَلْبِلَامُ] မြင်း၏ပါးစပ်၌ ထည့်ထားသော ဇက်ကြိုးချည်နှောင်ရသော သံကွင်း။

[اَلْبَلَمُ] anchovy,ငါးတစ်မျိုး။ကြည့်(اَنْسُوْن ـ اَلْاَنْشُوْجَةُ)

✿ [اَلْبَلَّانُ] ❶ အိမ်သာ၊ ရေချိုးခန်း။ ❷ အိမ်သာ၊ ရေချိုးခန်း၌ အလုပ်လုပ်သူ။(ဇ)[بَلَّانَاتٌ]။

[اَلْبَلَّانَةُ] အိမ်သာ၊ ရေချိုးခန်း၌ အလုပ်လုပ်သောမိန်းမ။

✿ [اَلْبَلَنْطُ] စကျင်ကျောက်နှင့်သဏ္ဍာန်တူ

သော ကျောက်တစ်မျိုး။

✿ [بَلِهَ ـ] အသိညာဏ်အားနည်းသည်။ မှတ်ညာဏ်အားနည်းသည်။ မကြာခဏမေ့သည်။

[بَلَهٌ. بَلاَهَةٌ] အသိညာဏ်အားနည်းခြင်း။ မှတ်ညာဏ်အားနည်းခြင်း။ မကြာခဏမေ့ခြင်း။

[اَبلَهُ] အသိညာဏ်အားနည်းသော(သူ)။ မှတ်ညာဏ်အားနည်းသော(သူ)။ မကြာခဏမေ့သော(သူ)။ (မ) [بَلْهَاءُ]။(ဇ) [بُلْهٌ]။

[تَبَالَهَ] အသိညာဏ် အားနည်းဟန်ဆောင်သည်။ မှတ်ညာဏ်အားနည်းဟန်ဆောင်သည်။ မေ့ဟန်ဆောင်သည်။

[تَبَلَّهَ] ❶ အသိညာဏ်အားနည်းသည်။ မှတ်ညာဏ်အားနည်းသည်။ မကြာခဏမေ့သည်။ ❷ လမ်းပျောက်သဖြင့် ပူဆွေးသောကရောက်သည်။

[اَلاَبْلَهُ] ❶ [عَيْشٌ اَبْلَهُ]ပြီးပြည့်စုံသော၊ သာယာစိုပြေသော(ဘဝ)။ ❷ [شَبَابٌ اَبْلَهُ]အပျော်ကြူးသော လူငယ်ဘဝ။

[بَلْهَ] လွှတ်ထားလိုက်။ (ကြိယာ၏အဓိပ္ပါယ်ကိုဆောင်သောနာမ်)။

✿ [اَلْبُلَهْنِيَةُ] ပြီးပြည့်စုံသော၊ သာယာစိုပြေသောဘဝ။

✿ [اَلْبِلْهَارِسِيَا] ဆီးအိမ်နှင့် သွေးဥတွယ်ကပ်နေသော ကပ်ပါးကောင်ရောဂါပိုးများကြောင့်ဖြစ်သောရောဂါ။

✿ [بَلَى] ဟုတ်ကဲ့။ (ဤ'ဟုတ်ကဲ့'ဟု အဓိပ္ပါယ်ဆောင်သော[بَلَى]သည်[نَعَمْ]နှင့်မတူပေ။ [بَلَى]သည် မဟုတ်ဝါကျကို ငြင်းဆို၍ ဆန့်ကျင်ဘက်အဓိပ္ပါယ်ကို ထောက်ခံသောစကားလုံးဖြစ်သည်)။သာဓက။ ﴿اَلَسْتُ بِرَبِّكُمْ﴾ ''အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်သည် ငါအရှင်မြတ်မဟုတ်သလော'' ဟူသောမေးခွန်းကို ဖြေဆိုရာ၌[نَعَمْ]ဟုအဖြေပေးလျှင်များ၏။ အကြောင်းကား[نَعَمْ]ဟုအဖြေပေးလျှင် အဓိပ္ပါယ်မှာ''ဟုတ်ကဲ့၊ ကျွန်တော်မျိုးတို့အားဖန် ဆင်းမွေးမြူတော်မူသောအရှင်သည် ကိုယ်တော်အရှင်မြတ် မဟုတ်ပါ'' ဟူ၍ဖြစ်သွားမည်။ ထို့ကြောင့် မဟုတ်ဝါကျသို့မဟုတ် မဟုတ်ဝါကျဖြင့်မေးသောအမေးဝါကျကို ဖြေရာ၌[بَلَى]ဖြင့်ဖြေရသည်။ သို့မှသာ အဓိပ္ပါယ်မှာ''*ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်သည် ကိုယ်တော်အရှင်မြတ်မဟုတ်ဟူသည် မဟုတ်၊* ကိုယ်တော်အရှင်မြတ်သည်သာ ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင် ဖြစ်တော်မူသည်'' ဟူ၍ဖြစ်ပေမည်။

﴿زَعَمَ الَّذِيْنَ كَفَرُوْا اَنْ لَّنْ يُّبْعَثُوْا قُلْ بَلٰى وَرَبِّىْ لَتُبْعَثُنَّ﴾ ငြင်းပယ်သူတို့က မိမိတို့သည် သေပြီးနောက်တဖန် ပြန်လည်ရှင်ထစေခြင်းကို ခံကြရမည်မဟုတ်ဟု ယုံကြည်ထားကြ၏။ အသင်ပြောလော့။ *အသင်တို့ ပြန်လည်ရှင်ထစေခြင်းခံကြရမည်မဟုတ်ဟူသည် မဟုတ်။* ကျွန်ုပ်အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို တိုင်တည်၍ဆိုပါမည်။ အသင်တို့သည် မလွဲကေန် ပြန်လည်ရှင်ထစေခြင်းကို ခံကြရမည်။

✿ [بَلاَ ـ] ❶ စမ်းသပ်သည်။ စုံစမ်းစစ်ဆေး

သည်။ စိစစ်သည်။﴿وَنَبْلُوكُمْ بِالشَّرِّ وَالْخَيْرِ﴾ ငှင်းပြင် ငါအရှင်မြတ်သည် အသင်တို့အား ဘေးဒုက္ခဖြင့်လည်းကောင်း ချမ်းသာသုခဖြင့်လည်းကောင်း စမ်းသပ်တော်မူမည်။ ❷ [السَّفَرُ فُلَانًا_](ခရီး)ပင်ပန်းနွမ်းနယ်စေသည်။

[بَلْوٌ ـ بَلَاءٌ] ❶ စမ်းသပ်ခြင်း။ စုံစမ်းစစ်ဆေးခြင်း။ စိစစ်ခြင်း။❷ (ခရီး)ပင်ပန်းနွမ်းနယ်စေခြင်း။

[بَلِيَ ـ] ❶ ဟောင်းနွမ်းစုပ်ပြိသည်။ ❷ အိုမင်းဟောင်းနွမ်း၊ ဆွေးမြေ့ ပျက်စီးသည်။

[بِلًى ـ بَلَاءٌ] ❶ ဟောင်းနွမ်းစုပ်ပြိခြင်း။ ❷ အိုမင်းဟောင်းနွမ်း၊ ဆွေးမြေ့ ပျက်စီးခြင်း။

[اَبْلَى] ❶ [ـفِي الْاَمْرِ]အစွမ်းကုန် ကြိုးစားဆောင်ရွက်သည်။ ❷ [ـفُلَانًا]စစ်ဆေးစမ်းသပ်သည်။ ❸ [الثَّوْبَ_](အဝတ်ကို)ဟောင်းနွမ်းဆွေးမြေ့စေသည်။

[بَالَى] အလေးထားသည်။ ဂရုစိုက်သည်။ လေးလေးနက်နက် သဘောထားသည်။

[بَلَّى] ❶ [السَّفَرُ فُلَانًا_](ခရီး)ပင်ပန်းနွမ်းရိစေသည်။ ❷ [الثَّوْبَ_](အဝတ်ကို)ဟောင်းနွမ်းဆွေးမြေ့စေသည်။

[اِبْتَلَى] ❶ စမ်းသပ်သည်။ ❷ စမ်းသပ်သိရှိသည်။ ကြုံတွေ့သိရှိသည်။

[اَلْبَلَاءُ] ❶ စမ်းသပ်မှု။ ❷ ဘေးဒုက္ခ။ ❸ ပူပင်သောက။ ❹ ပင်ပန်းခက်ခဲဆင်းရဲမှု။

[اَلْبَلْوَى] ❶ စမ်းသပ်မှု။ ❷ ဘေးဒုက္ခ။ ❸ ပူပင်သောက။ ❹ ပင်ပန်းခက်ခဲဆင်းရဲမှု။

[اَلْبَلِيُّ] အလွန်ဟောင်းနွမ်းစုပ်ခြာသော (အရာ)။

[اَلْبَلِيَّةُ] ❶ စမ်းသပ်မှု။ ❷ ဘေးဒုက္ခ။ ❸ ပူပင်သောက။ ❹ ပင်ပန်းခက်ခဲဆင်းရဲမှု။ ❺ ''ဂျာဟိလီယတ်''အမိုက်ခေတ်၌ သေဆုံးသွားသူ၏သင်္ချိုင်း၌ မသေမချင်း ချည်နှောင်ထားသော ငှင်း၏ကုလားအုတ်မ။(ج) [بَلَايَا]။

✿ [اَلْبَمُّ] တူရိယာရှိ ကြိုးကြီး။(ဂီတာ၊ မယ်ဒလင်စသည်တို့၏ အောက်ဆုံးကြိုးကြီး)။

✿ [بَنَّجَ] မူးယစ်ထုံထိုင်းစေသည်။

[اَلْبَنْجُ] မူးယစ်ထုံထိုင်းစေသောအပင်တစ်မျိုး။ ဆေးခြောက်ပင်တစ်မျိုး။

✿ [اَلْبَنْجَرُ] မုန်လာဥနီ။

✿ [اَلْبَنْدُ] ❶ ဥပဒေအပိုဒ်။ ဥပဒေပုဒ်မ။ ❷ အလံကြီး။

✿ [اَلْبَنْدَارُ] ဈေးအတက်ကို စောင့်၍ပစ္စည်းကို ထိန်းရောင်းသော ကုန်သည်ပွဲစား။ (ج) [بَنَادِرَةٌ]။

[اَلْبَنْدَرُ] ❶ သင်္ဘောများ ကျောက်ချရာဆိပ်ကမ်း။ ❷ မြို့ကြီး။

✿ [بَنْدَقَ] ❶ သေနတ်ကျည်ဆံအလုံး ပြုလုပ်သည်။ သေနတ်ပြုလုပ်သည်။ ❷ [اِلَيْهِ_] စိုက်ကြည့်သည်။

[اَلْبُنْدُقُ] ❶ သစ်အယ်ပင်။ ❷ ကျည်ဆံအလုံး။(ج)[بَنَادِقُ]။

[اَلْبُنْدُقِيُّ] ရှေးဟောင်းဗင်းနစ်မြို့သုံး ရွှေဒင်္ဂါး။

[اَلْبُنْدُقِيَّةُ] ❶ သေနတ်ပြောင်း။ ❷ သေနတ်။

[اَلْبُنْدُوقُ] တရားဝင်မဟုတ်သောသား၊ သမီး။ (ج) [بَنَادِيقُ]။

✿ [اَلْبَنْدَوْلُ] တွဲလွဲ လွှဲနိုင်သည့်အရာ။ ချိန်သီး။
✿ [بَنْزَهِيْرُ] ရှောက်သီး။
✿ [اَلْبِنْزِيْنُ] ဘင်ဇင်းအရည်။ ဓါတ်ငွေ့ရည် တစ်မျိုး။
✿ [اَلْبِنِسِلِيْنُ] ပနယ်စလင်ဆေးဝါး။
✿ [اَلْبِنْصَرُ-اَلْبِنْصِرُ] လက်သူကြွယ်။
✿ [اَلْبَنْطُ] ❶ စာလုံးအရွယ်အစား၊ ဆိုဒ်။ ❷ ပွိုင့်၊ ဒဿမ။
✿ [اَلْبَنْطَلُوْنُ] ဘောင်းဘီရှည်။
✿ [اَلْبَنَفْسَجُ] ခရမ်းရောင်ရင့်ပန်းတစ်မျိုး။
✿ [بَنَقَ ـُ] ❶ [ـعَمَلَهُ] အလုပ်ကို ဆက်တိုက် ပြုလုပ်သည်။ ❷ [ـالشَّىْءَبِآخَرَ] တစ်ခုနှင့် တစ်ခုဆက်သွယ်သည်။

[بَنْقٌ] ❶ အလုပ်ကို ဆက်တိုက်ပြုလုပ်ခြင်း။ ❷ တစ်ခုနှင့် တစ်ခုဆက်သွယ်ခြင်း။

[بَنَّقَ] ❶ လှပအောင် တန်ဆာဆင်သည်။ ❷ [ـالقَمِيْصَ] အကျႌကို ပိုမိုနိုင်မြဲစေရန် အစ ပိုး၍ချုပ်သည်။

[اَلْبَنِيْقَةُ] ❶ တစ်ဆက်တည်း ညီညာစွာစိုက်ပျိုးထားသော သစ်ပင်အတန်း။ ❷ အကျႌကို ပိုမိုနိုင်မြဲစေရန် ပိုး၍ချုပ်ထားသော အစ။

✿ [بَنَّكَ] [ـالْخَادِمَ] (အစေခံ)မိမိအလုပ်လုပ်သော အိမ်၏အတွင်းရေးကို လျှောက်ပြောသည်။

[تَبَنَّكَ] [ـبِالْمَكَانِ] ရပ်တည်နေထိုင်သည်။

[اَلْبَنْكُ] ဘဏ်။(ج) [بُنُوْكٌ]။

✿ [بَنْكَنُوْتُ] ဘဏ်ချက်လက်မှတ်။
✿ [اَلْبِنْكَامُ] သဲနာရီ။
✿ [بَنَّ ـِ] (နေရာ၌)စွဲစွဲမြဲမြဲနေထိုင်သည်။ အတည်တကျ နေထိုင်သည်။

[بَنٌّ] (နေရာ၌)စွဲစွဲမြဲမြဲနေထိုင်ခြင်း။ အတည်တကျ နေထိုင်ခြင်း။

[أَبَنَّ] ❶ [ـتِ الدَّابَّةُ] (တိရစ္ဆာန်)အလုပ်များစွာလုပ်၍ ပင်ပန်းသဖြင့် မိမိနေရာ၌ ပေကပ်နေသည်။ ❷ [ـتِ السَّحَابَةُ] (မိုးတိမ်မှ)အဆက်မပြတ် ရက်ပေါင်းများစွာ မိုးရွာချသည်။

[بَنَّنَ] [ـالْمَاشِيَةَ] (တိရစ္ဆာန်ကို)ဝဖြိုးလာစေရန် အလုပ်မခိုင်းပဲ ချည်နှောင်ကျွေးမွေးထားသည်။

[اَلْبَنَانُ] ❶ လက်ထိပ်များ။ ❷ ပန်းစိုက်ခင်းများ။

[اَلْبِنُّ] အဆီထပ်။ [تَرَاكَبَ جِسْمُهَابِنًّاعَلَى بِنٍّ] သူမ၏ခန္ဓာကိုယ်၌ အဆီတစ်ထပ်ပြီးတစ်ထပ် တက်သည်။(အလွန်ဝလာသည်။)

[اَلْبُنُّ] ကာဖီစေ့။

[اَلْبُنِّيُّ] ❶ ကာဖီစေ့ရောင်။ ❷ ငါးတစ်မျိုး။

✿ [بَنَى ـِ] ❶ တည်ဆောက်သည်။ ❷ [ـمَجْدَهُ] မိမိ၏ဂုဏ်သိက္ခာကို ထိန်းသိမ်းထားသည်။ ❸ [ـالرِّجَالَ] သူရဲကောင်းများကို မွေးဖွားပေးသည်။ ပျိုးထောင်ပေးသည်။ ❹ [ـالْكَلِمَةَ] စကားလုံး၏နောက်ဆုံးအက္ခရာရှိသရကို အပြောင်းအလဲမရှိဟု သတ်မှတ်သည်။ ❺ [ـعَلَى كَلِمَتِهِ] သူ့စကားအတိုင်းလိုက်၍ မှီငြမ်းပြောဆိုသည်။ ❻ [ـبِزَوْجَتِهِ] မိမိ၏ဇနီးမယားနှင့် ကာမစပ်ယှက်သည်။ ❼ [ـالطَّعَامُ جِسْمَهُ] အစားအစာက သူ၏ခန္ဓာကိုယ်ကို အဟာရဖြစ်စေသည်။

[بَنَى - بِنَاءً - بُنْيَانٌ] (၁) တည်ဆောက်ခြင်း။ (၂) မိမိ၏ ဂုဏ်သိက္ခာကို ထိန်းသိမ်းထားခြင်း။ (၃) သူ့ရဲ ကောင်းများကို ဖွေးဖွားပေးခြင်း။ ပျိုး ထောင်ပေးခြင်း။ (၄) စကားလုံး၏ နောက်ဆုံး အက္ခရာရှိသရကို အပြောင်းအလဲမရှိဟု သတ်မှတ်ခြင်း။ (၅) သူ့စကားအတိုင်း လိုက်၍ မှိုငြမ်းပြောဆိုခြင်း။ (၆) မိမိ၏ဇနီးမယားနှင့် ကာမစပ်ယှက်ခြင်း။ (၇) အစားအစာက သူ၏ ခန္ဓာကိုယ်ကို အဟာရဖြစ်စေခြင်း။

[اَبْنَى] (၁) တည်ဆောက်စေသည်။[ـفُلَانًا] အိမ်ဆောက်ရန် နေရာပေးသည်။ (၂) သတို့ သားကို သတို့သမီးနှင့်အတူအိပ်ရန် အခန်း အပ်သည်။

[اِبْتَنَى] (၁) တည်ဆောက်သည်။ (၂) သား သမီးများ ရရှိသည်။

[اِنْبَنَى] (၁) တည်ဆောက်ပြီးဖြစ်သည်။ (၂) သက်ရောက်သည်။

[تَبَنَّى] (၁) ဝဖြိုးသည်။ (၂) သားအဖြစ် မှတ်ယူမွေးစားသည်။

[اِسْتَبْنَى] [ـتِ الدَّارُ](အိမ်)အိုမင်းဟောင်း နွမ်း၍ပျက်စီးသဖြင့် အသစ်ပြန်လည်ဆောက် လုပ်ရန် လက္ခဏာပြသည်။

[اَلْاِبْنُ] (၁) သား။ (၂) သား၏သား(မြေး)၊ မြေး၏သား(မြစ်) စသည်။(ဇ)[اَبْنَاءٌ - بَنُونَ]။ [اِبْنُ الْحَرْبِ]စစ်မြေပြင်၌ သတ္တိပြောင်စွာတိုက် ခိုက်သူ။[اِبْنُ اللَّيْلِ - اِبْنُ الطَّرِيْقِ]သူခိုး။ [اِبْنُ السَّبِيْلِ]ခရီးသည်။ အာဂန္တု။

[اِبْنِىٌّ - بَنَوِىٌّ] (၁) သားနှင့်ဆိုင်သော။ (၂) သား၏ သား(မြေး)၊ မြေး၏သား(မြစ်)၊ စသည်တို့နှင့် ဆိုင်သော။

[بُنَىٌّ - اُبَيْنٌ] (၁) သားငယ်လေး။ (၂) သား၏သား (မြေး)ငယ်လေး၊ မြေး၏သား(မြစ်)ငယ်လေး၊ စသည်။

[اَلْاَبْنَاءُ] (၁) သားများ။ (၂) သား၏သား (မြေး)များ၊ မြေး၏သား(မြစ်)များ၊ စသည်။ (၃) အရပ်များနှင့်သွေးနှော၍ ယမန်၌ နေထိုင် ခဲ့ကြသော ပါးရှားလူမျိုးတစ်မျိုး။

[اِبْنَمٌ] သား။

[اَلْبَانِيَةُ] (၁) ရင်ညွှန့်ရိုး။ (၂) အုတ်မြစ်။ အ ခြေခံ။ (၃) (ခြေလေးချောင်း တိရစ္ဆာန်တို့၏) ခြေတစ်ဘက်။(ဇ)[بَوَانٍ]။

[اَلْبِنَاءُ] (၁) အဆောက်အဦး။ (၂) စကား လုံး၊ ပုဒ်တစ်ခု၏နောက်ဆုံးအက္ခရာရှိ သရ အခြေအနေ အပြောင်းအလဲမရှိခြင်း။(ဇ) [اَبْنِيَةٌ]။(ဇဇ)[اَبْنِيَاتٌ]။

[اَلْبِنَايَةُ] (၁) အဆောက်အဦး ဆောက်လုပ် သည့် အတတ်ပညာ။ ဗိသုကာပညာ။ (၂) အဆောက်အဦး။ (၃) တည်ဆောက်ထားမှု။

[اَلْبِنْتُ] (၁) သမီး။ (၂) မိန်းကလေး။(ဇ) [بَنَاتٌ]။ [بَنَاتُ الصَّدْرِ]ပူပင်သောကများ။ [بَنَاتُ الدَّهْرِ]ခေတ်ကာလဆိုးရွားမှုများ။ ကြမ္မာဆိုးများ။[بَنَاتُ نَعْشٍ]အကြီးမားဆုံး ကြယ်စုနှင့် အသေးဆုံးကြယ်စုကြီးနှစ်ခု။ [بَنَاتُ الْاَرْضِ]ကျက်စားသူများ မတွေ့သော ကွယ်နေသည့် စားကျက်ပုန်းများ။[بَنَاتُ اللَّيْلِ] ကိုယ်နှင့်ရင်း၍ ငွေရှာသောမိန်းမပျက်များ။

[اَلْبَنَّاءُ] (၁) တည်ဆောက်သူ။ (၂) ဗိသုကာ ပညာရှင်။ (၃) လက်သမား။

[اَلْبَنَّاءُوْنَ الْاَحْرَارُ] မြေအောက်အသင်းအဖွဲ့တစ်ခု၏ အမည်။(ယင်းအဖွဲ့ကို ၁၄-ရာစုခန့်က ဗိသုကာပညာရှင်များဖြင့်ဖွဲ့စည်းခဲ့ပြီး ယင်းအဖွဲ့တွင် လူမျိုးပေါင်းစုံ၊ ဘာသာပေါင်းစုံ၊ နိုင်ငံပေါင်းစုံမှလူများပါဝင်သည်။ ၄င်းတို့ကို [اَلْمَاسُوْن]ဟုလည်းခေါ်ပြီး ၄င်းတို့၏ဝါဒကို [اَلْمَاسُوْنِيَّة]ဟုခေါ်သည်။)

[اَلْبُنُوَّة] သားအဖြစ်။ သားဖြစ်ရခြင်း။

[اَلْبُنْيَانُ] အဆောက်အဦး။

[اَلْبُنْيَة] အဆောက်အဦး။(ج)[بُنًى]။

[اَلْبِنْيَة] ❶ အဆောက်အဦး။ ❷ အဆောက်အဦးပုံစံ။(ج)[بِنًى]။

[اَلْبَنِيَّة] ❶ အဆောက်အဦး။ ❷ ကအ်ဗဟ်ကျောင်းတော်။

[اَلْبُنَيَّة] သေးသွယ်သောအရာ။[بُنَيَّةُ الطَّرِيْقِ] လမ်းသေးလမ်းသွယ်။

[اَلْمَبْنَاة] ❶ အဆောက်အဦး။ ❷ ပစ္စည်းများချည်နှောင်သည့် ချည်ကြိုးသို့မဟုတ်သားရေကြိုး။ ❸ ပစ္စည်းများထည့်ရန် ပြုလုပ်ထားသော သားရေအိတ်။

[اَلْمَبْنَى] အဆောက်အဦး။(ج)[اَلْمَبَانِى]။ [حُرُوْفُ الْمَبَانِى]ဗျည်းအက္ခရာများ။

✿ [بَهَا ـ] အတူနေလိုသည်။ အတူနေ၍ကြည်နူးလိုသည်။

[بَهًا ـ بُهُوْءً] အတူနေလိုခြင်း။ အတူနေ၍ကြည်နူးလိုခြင်း။

[بَهِىَ ـ] ကြည်နူးရွှင်ပြသည်။ ထည်ဝါခန့်ငြားသည်။

[بَهًا ـ بَهَاءً] ကြည်နူးရွှင်ပြခြင်း။ ထည်ဝါခန့်ငြားခြင်း။

[اَلْبَهَائِيَّة] ဘဟာအီဝါဒ။ (ဘဟာအွလ္လာဟ် ဟုခေါ်သော မိရ်ဇာဟုစိုင်နှ်က ဘာဘီယဟ်ဝါဒကို တိုးချဲ့ပြုပြင်၍ ဘဟာအီဝါဒကို တည်ထောင်ခဲ့သည်။ ဘဟာအီလှုပ်ရှားမှုသည် ခရစ်ယာန်တို့၏ လှုပ်ရှားမှုနှင့်တူ၍ ယုံကြည်မှုအားဖြင့် ကမ္ဘာ့ဘာသာကြီးများ၏ အယူအဆနှင့် ခံယူချက်များကို စုပေါင်းရောနှောထားသည်။)

✿ [بَهَتَ ـ] ❶ အံ့အားသင့်စေသည်။ တွေဝေငေးမောစေသည်။ မှင်သက်မိစေသည်။ ကြောင်အမ်းအမ်းဖြစ်စေသည်။ ❷ လုပ်ကြံစွပ်စွဲသည်။﴿وَاِنْ لَمْ يَكُنْ فِيْهِ مَا تَقُوْلُ فَقَدْ بَهَتَّهُ﴾ အကယ်၍ သူသည် အသင်ပြောသည့်အတိုင်းမဟုတ်လျှင် အသင်သည် ထိုသူအားမတရားစွပ်စွဲမှုကို ကျူးလွန်ရာရောက်သည်။

[بَهْتٌ] အံ့အားသင့်စေခြင်း။ တွေဝေငေးမောစေခြင်း။ မှင်သက်မိစေခြင်း။ ကြောင်အမ်းအမ်းဖြစ်စေခြင်း။

[بَهْتٌ ـ بَهْتَةٌ ـ بُهْتَانٌ]လုပ်ကြံ စွပ်စွဲခြင်း။

[بَهِتَ ـ] ❶ အထောက်အထားပြသဖြင့် အံ့အားသင့်သွားသည်။ တွေဝေငေးမောသည်။ မှင်သက်မိသည်။ ကြောင်အမ်းအမ်းဖြစ်သည်။ ❷ (အရောင်)ဖြူဖတ်ဖြူရော်ဖြစ်သည်။ ဖျော့သည်။

[بَهَتٌ] ❶ အထောက်အထားပြသဖြင့် အံ့အားသင့်သွားခြင်း။ တွေဝေငေးမောခြင်း။ မှင်သက်မိခြင်း။ ကြောင်အမ်းအမ်းဖြစ်ခြင်း။ ❷ (အရောင်)ဖြူဖတ်ဖြူရော်ဖြစ်ခြင်း။ ဖျော့ခြင်း။

[بَهِتَ] [ـ الرَّجُلُ] အထောက်အထားပြသဖြင့် အံ့အားသင့်သွားသည်။ တွေဝေငေးမောသွားသည်။ မှင်သက်မိသည်။ ကြောင်အမ်းအမ်းဖြစ်သွားသည်။ ﴿فَبُهِتَ الَّذِىْ كَفَرَ﴾ သို့ဖြင့် ငြင်းပယ်သော ထိုသူသည် တစ်စုံတစ်ရာအဖြေမပေးနိုင်ပဲ တွေဝေသွားခဲ့သည်။

[بَاهَتَ] မျက်နှာချင်းဆိုင် လုပ်ကြံစွပ်စွဲသည်။ ပုတ်ခတ်သည်။ [فُلَانٌ يُبَاحِثُ فَيُبَاهِتُ] ဒီလူကတော့ ဆွေးနွေးမယ် ပြီးရင်ပုတ်ခတ်စွပ်စွဲမယ်။

[تَبَاهَتَ] တစ်ဦးကိုတစ်ဦး လုပ်ကြံစွပ်စွဲသည်။ လုပ်ကြံပုတ်ခတ်သည်။

[اَلْبَهْتُ ـ اَلْبُهْتَانُ] လုပ်ကြံစွပ်စွဲမှု။ မဟုတ်မမှန်လုပ်ကြံပုတ်ခတ်မှု။

[اَلْبَهِيْتَةُ] လုပ်ကြံစွပ်စွဲမှု။ မဟုတ်မမှန်လုပ်ကြံပုတ်ခတ်မှု။(ج)[بَهَائِتُ]။

✿ [بَهْتَرَ] လုပ်ကြံပြောဆိုသည်။ လိမ်ညာသည်။

✿ [ـ بَهَثَ] မျက်နှာထား ရွှင်ပြုံးစွာဖြင့် လာရောက်တွေ့ဆုံသည်။

[بَهْثٌ] မျက်နှာထား ရွှင်ပြုံးစွာဖြင့် လာရောက်တွေ့ဆုံခြင်း။

[تَبَاهَثَ] မျက်နှာထား ရွှင်ပြုံးစွာဖြင့် လာရောက်တွေ့ဆုံသည်။

[اَلْبُهْثَةُ] ❶ မျက်နှာထား ရွှင်ပြုံးစွာဖြင့် လာရောက်တွေ့ဆုံခြင်း။ ❷ နွားရိုင်းအမ။

✿ [ـ بَهَجَ] ပျော်ရွှင်ကြည်နူးစေသည်။ ရွှင်လန်းအားရဖြစ်စေသည်။

[بَهْجٌ] ပျော်ရွှင်ကြည်နူးစေခြင်း။ ရွှင်လန်းအားရဖြစ်စေခြင်း။

[ـ بَهُجَ] ပျော်ရွှင်ကြည်နူးစေသည်။ ရွှင်လန်းအားရဖြစ်စေသည်။ စိုပြေလန်းဆန်းသည်။

[اَبْهَجَ] ❶ ပျော်ရွှင်ကြည်နူးစေသည်။ ရွှင်လန်းအားရဖြစ်စေသည်။ ❷ [ـتِ الْاَرْضُ] (မြေပြင်၌)သစ်ပင်များဖြင့် စိမ်းလန်းသာယာသည်။

[بَاهَجَ] ❶ နောက်ပြောင်ကျီစယ်၍ ပျော်ရွှင်ကြည်နူးစေသည်။ ရွှင်လန်းအားရလာအောင် ကျီစယ်သည်။ ❷ အလှပြိုင်သည်။ [ـتِ الْمَرْاَةُ تِرْبَهَا] (အမျိုးသမီး)မိမိနှင့် သက်တူရွယ်ကို အလှချင်းယှဉ်သည်။

[بَهَّجَ] တင့်တယ်လှပစေသည်။

[اِبْتَهَجَ] ပျော်ရွှင်ကြည်နူးသည်။ ကြည်နူးအားရသည်။

[تَبَاهَجَ] ❶ [ـ الرَّوْضُ] ဥယျာဉ်၌ ပန်းများဖြင့်ဝေဆာလှပစိုပြေသည်။ ❷ [ـ بِفُلَانٍ] ကောင်းမွန်ချိုသာသော အမူအရာဖြင့် တွေ့ဆုံသည်။

[اِسْتَبْهَجَ] ❶ ကြည်နူးမှုကို ရယူလိုသည်။ ပျော်ရွှင်ကြည်နူးချင်သည်။ ❷ ပျော်ရွှင်သည်။

[اَلْمُبْهَاجُ] ရွှင်လန်းအားရသော(သူ၊ သူမ)။

✿ [بَهْدَلَ] ရင်သားများ လှုပ်ရမ်းသည်အထိ အမြန်လျှောက်သွားသည်။

[اَلْبَهْدَلُ] ❶ သားပိုက်ကောင်ငယ်။ ❷ ငှက်စိမ်းတစ်မျိုး။

[اَلْبَهْدَلَةُ] ❶ ရင်သားအရင်း။ နို့အုံရင်း။ ❷ လည်ဂုတ်ရှိ အသား။

✿ [بَهَرَ-] ❶ လွှမ်းမိုးချုပ်ကိုင်သည်။[ـهُ الْاَمْرُ] ကိစ္စတစ်ခုက သူ့ကို ဘာမှစိတ်မဝင်စားနိုင်အောင် လွှမ်းမိုးထားတယ်။ ❷ [ـالْاِنَاءَ](ခွက်ကို)ပြည့်အောင်ဖြည့်သည်။ ❸ တွေဝေအံ့အားသင့်စေသည်။ ငေးမောမှင်သက်မိစေသည်။ ❹ လွှမ်းမိုးအောင်နိုင်သည်။ [ـالْقَمَرُ النُّجُوْمَ]လ၏အလင်းရောင်က ကြယ်တာရာများကို ဖုံးလွှမ်းသွားသည်။ [ـتِ الشَّمْسُ الْاَرْضَ]နေရောင်ချည်က ကမ္ဘာကြီးကို လွှမ်းခြုံထားသည်။[ـتْ فُلَانَةُ النِّسَاءَ] သူမ၏အလှက ကျန်မိန်းမများ၏အလှကို မှေးမှိန်စေသည်။

[بَهْرٌ-بُهُوْرًا] ❶ လွှမ်းမိုးချုပ်ကိုင်ခြင်း။ ❷ (ခွက်ကို)ပြည့်အောင်ဖြည့်ခြင်း။ ❸ တွေဝေအံ့အားသင့်စေခြင်း။ ငေးမောမှင်သက်မိစေခြင်း။ ❹ လွှမ်းမိုးအောင်နိုင်ခြင်း။

[بُهِرَ] (ပင်ပန်းလွန်းသဖြင့်)စိတ်ကုန်သည်။ စိတ်လျှော့သည်။ စိတ်ဓါတ်ကျသည်။

[اَبْهَرَ] ❶ နေ့လည်ချိန်ရောက်သည်။ ❷ အမျိုးမြတ်သောမိန်းမနှင့် လက်ထပ်ထိမ်းမြားသည်။ ❸ အံ့သြဖွယ်ရာကို ယူဆောင်လာသည်။ ❹ အကျင့်သီလ အမျိုးမျိုးပြောင်းလဲဖေါက်ပြန်သည်။ ❺ ချမ်းသာလာသည်။

[بَاهَرَ] မော်ကြွားဝင့်ဝါသည်။

[اِبْتَهَرَ] ❶ စိတ်လိုက်မာန်ပါဖြစ်သည်။ ❷ လိမ်ညာ၍ ကြေညာသည်။ ❸ မရမနေအစွမ်းကုန် ကြိုးစားဆောင်ရွက်သည်။

[تَبَهَّرَ] ❶ တောက်ပသည်။ ❷ ပြည့်သည်။

[اِبْهَارًا] ❶ [ـالنَّهَارُ]နေမွန်းတည့်ချိန်ရောက်သည်။ ❷ [ـاللَّيْلُ]ညလယ်သန်းခေါင်ချိန်ရောက်သည်။ ❸ ညတာရှည်သည်။ [ـعَلَيْهِ اللَّيْلُ]သူ့အတွက် ညတာရှည်လွန်းသည်။

[اَلْاَبْهَرُ] ❶ ငှက်၏ဒုတိယတောင်ပံနှင့်နီးသော အမွေးအတောင်။ ❷ ကောင်းမွန်သည့်မြေ။

[اَلْاَبْهَرَانِ] ပင်မသွေးပြန်ကြောနှစ်ခု။

[اَلْبَهَارُ] ❶ တောက်ပ၊ လှပသော(အရာ)။ ❷ မြင်း၏ရင်ဘတ်အောက်ရှိ ဖြူဖွေးတောက်ပသော အကွက်။ ❸ မွှေးကြိုင်သော ပန်းပင်တစ်မျိုး။ ယင်းအပင်ကို အချို့က[اَلْعَرَارُ] ဟုခေါ်သည်။

[اَلْبُهَارُ] ❶ ဝန်စည်။ ကုန်ပစ္စည်း။ ❷ ကရားအိုး။ ❸ ပျံလွှားငှက်တစ်မျိုး။ ❹ ငါးတစ်မျိုး။

[بَهْرًا لَهُ] ❶ ပျက်စီးပါစေ။ ❷ အံ့သြစရာပဲ။

[اَلْبُهْرُ] ❶ မောပန်းသဖြင့် အသက်ကိုမြန်မြန်ရှူခြင်း။ ❷ ကျယ်ဝန်းသည့်မြေနေရာ ❸ လထိန်ထိန်သာသော။[لَيْلَةُ الْبُهْرِ]လသာသောည။

[اَلْبَهْرَةُ] ❶ ထင်ရှားမှု။ ❷ လူသိရှင်ကြား။ [فَعَلَ ذَالِكَ بَهْرَةً]သူဒီအလုပ်ကို လူသိရှင်ကြားလုပ်ခဲ့တယ်။

[اَلْبُهْرَةُ] ❶ အလယ်ဗဟို။ ❷ ရှီအာမွတ်စ်လင်မ်အုပ်စုတစ်စု၏ အမည်။

[اَلْبَهِيْرَةُ] မြတ်သောမိန်းမ။

✿ [بَهْرَجَ] ❶ ခွင့်ပြုသည်။ ❷ လွတ်ငြိမ်းချမ်းသာခွင့်ပေးသည်။ ❸ အဆိုပြုချက် မှားယွင်း

သည်။ အားနည်းသည်။ ❸ အဆိုပြုချက်များယွင်းစေသည်။ အားနည်းစေသည်။

[تَبَهَّرَجَ] ခွင့်ပြုချက်ရသည်။ ခွင့်ပြုထားသည်။

[اَلْبَهْرَجُ] ❶ ခွင့်ပြုထားသော(အရာ)။ ❷ များယွင်းသော(အဆို၊ စကား၊ အယူစသည်)။

✿ [بَهْرَمَ] အနီရောင်ဆိုးသည်။

[تَبَهْرَمَ] အနီရောင်ဆိုးထားသည်။

[بَهْرَامُ] မားစ်ဂြိုဟ်။

[اَلْبَهْرَمُ] အနီရောင်ဆိုးဆေး ထုတ်ယူရသော အပင်တစ်မျိုး။

[اَلْبَهْرَمَانِيُّ] အနီရောင်။

✿ [بَهَزَ-] ❶ ရင်ဘတ်ကို တွန်းထိုးသည်။ ❷ နှင်ထုတ်သည်။[-عَنْ عَمَلِهِ]အလုပ်ဖြုတ်သည်။

[بَهْزٌ] ❶ ရင်ဘတ်ကို တွန်းထိုးခြင်း။ ❷ နှင်ထုတ်ခြင်း။

[اَبْهَزَ] ❶ ရင်ဘတ်ကို တွန်းထိုးသည်။ ❷ နှင်ထုတ်သည်။

[بَاهَزَ] ❶ သူ့ထက်ဦးသည်။ ❷ ကျော်တက်သည်။

[تَبَهَّزَ] ပြုလုပ်သည်။[تَبَهَّزْتُ اَشْيَاءَ كَثِيْرَةً] ကျွန်တော် အများကြီး လုပ်ခဲ့တယ်။

✿ [بَهَسَ-] အတင့်ရဲသည်။ သတ္တိရှိသည်။

[بَهْسٌ] အတင့်ရဲခြင်း။ သတ္တိရှိခြင်း။

[تَبَيْهَسَ] ဝင့်ကြွားစွာ လမ်းလျှောက်သည်။ မော်ကြွားသည်။

[اَلْبَهْسُ] စွန်ပလွံမျိုးဝင် အပင်တစ်မျိုး။

[اَلْبَيْهَسُ] ❶ ခြင်္သေ့။ ❷ သတ္တိရှိသော(သူ)။ ❸ မော်ကြွားလျက် လမ်းလျှောက်သူ။ (ج) [بَيَاهِسُ]။

[اَلْبَيْهَسِيَّةُ] အစ္စလာမ့်လူ့အဖွဲ့အစည်းမှ ခွဲထွက်သွားခဲ့သော 'ခါရိဂျီ' အုပ်စုတစ်စု၏ အမည်။(အဘူဘိုင်ဟတ်စ်၏နောက်လိုက်များ)။

✿ [بَهَشَ-] ❶ ရီတော့မလိုလုပ်သည်။ ရယ်မောစပြုသည်။ ပြုံးသည်။ ❷ [-اِلَى الشَّيْءِ] ရွှင်လမ်းတက်ကြွစွာသွားသည်။ ❸ [-عَنْهُ] ရှာဖွေသည်။

[بَهْشٌ] ❶ ရီတော့မလိုလုပ်ခြင်း။ ရယ်မောစပြုခြင်း။ ပြုံးခြင်း။ ❷ ရွှင်လမ်းတက်ကြွစွာသွားခြင်း။ ❸ ရှာဖွေခြင်း။

[اِبْتَهَشَ] ရွှင်လန်းအားရသည်။

[تَبَاهَشَ] ❶ [-الرَّجُلَانِ]တစ်ဦး၏နဖူးဆံစကို တစ်ဦးက ကိုင်ဆွဲသည်။ ❷ [-بِعَصَا]တစ်ဦးကိုတစ်ဦး တုတ်ဖြင့်ရိုက်ပုတ်အနိုင်ယူသည်။

[اَلْبَهْشُ] ❶ မျက်နှာထားရွှင်ပြမှု။ ❷ စွန်ပလွံပင်မျိုးစိတ်ဝင် အပင်တစ်မျိုး။

✿ [بَهِصَ-] ရေငတ်သည်။

[بَهَصٌ] ရေငတ်ခြင်း။

[بَهِصٌ] ရေငတ်သူ။

[اَبْهَصَ] ❶ ရေငတ်စေသည်။ ❷ တားဆီးထားသည်။

✿ [بَهْصَلَ] [-الرَّجُلَ]သူ့ပစ္စည်းကို မပေးပဲထားသည်။

[تَبَهْصَلَ] ❶ ဝတ်လစ်စလစ်ဖြစ်သည်။ ❷ မိမိ၏အဝတ်ကို ချွတ်၍လောင်းကစားသည်။

✿ [بَهَضَ-] ❶ ဝန်ပိသည်။ ❷ ခက်ခဲ လေးလံ

စေသည်။

[بَهْضٌ] ❶ ဝန်ပိခြင်း။ ❷ ခက်ခဲလေးလံစေခြင်း။

[أَبْهَضَ] ❶ ဝန်ပိစေသည်။ ❷ ခက်ခဲလေးလံစေသည်။

[اَلْمَبْهُوضُ] ❶ မနိုင်ဝန်ကို ထမ်းဆောင်ရသူ။ ❷ ရှုံးနိမ့်သူ။

✿ [بَهَطَ ـ] ❶ အောင်နိုင်သည်။ ❷ ဝန်ပိစေသည်။ ❸ ခက်ခဲလေးလံစေသည်။

✿ [بَهَظَ ـ] ❶ အောင်နိုင်သည်။ ❷ ဝန်ပိစေသည်။ ❸ ခက်ခဲလေးလံစေသည်။

[بَهْظٌ] ❶ အောင်နိုင်ခြင်း။ ❷ ဝန်ပိစေခြင်း။ ❸ ခက်ခဲလေးလံစေခြင်း။

[أَبْهَظَ] ❶ [ـ الْحَوْضَ] ရေကန်ကို ဖြည့်သည်။ ❷ ဝန်ပိစေသည်။ ❸ ခက်ခဲလေးလံစေသည်။

[اَلْبَاهِظُ] ❶ ခက်ခဲသော(အလုပ်၊ အမှုကိစ္စ စသည်)။ ❷ လေးလံသော(ဝန်)။(ج)[بَوَاهِظُ]။

[اَلْبَاهِظَةُ] ❶ ခက်ခဲသော(အလုပ်၊ အမှုကိစ္စ စသည်)။ ❷ လေးလံသော(ဝန်)။ ❸ ဘေးဆိုး၊ ကပ်ဆိုး။ (ج)[بَوَاهِظُ]။

✿ [بَهِقَ ـ] သမင်ဖြူရောဂါစွဲကပ်သည်။ ရောဂါကြောင့် အရေပြား၌ အဖြူကွက်များဖြစ်ပေါ်သည်။

[بَهَقٌ] သမင်ဖြူရောဂါစွဲကပ်ခြင်း။ ရောဂါကြောင့် အရေပြား၌ အဖြူကွက်များဖြစ်ပေါ်ခြင်း။

[أَبْهَقُ] သမင်ဖြူရောဂါစွဲကပ်သော(သူ)။ ရောဂါကြောင့် အရေပြား၌ အဖြူကွက်များ ဖြစ်ပေါ်သော(သူ)။(م)[بَهْقَاءُ]။(ج)[بُهْقٌ]။

[اَلْبُهَاقُ ـ اَلْبَهَقُ] သမင်ဖြူရောဂါ။ အရေပြား၌ အဖြူကွက်များ ဖြစ်ပေါ်စေသည့်ရောဂါ။

✿ [تَبَهْكَنَ] ဆင်မယဉ်သော လမ်းလျှောက်သည်။ တစ်လှမ်းချင်း လျှောက်သည်။

[اَلْبَهْكَنُ] မိန်းမဆန်သော လူပျို၊လူရွယ်။ နူးညံ့နွဲ့ပြောင်းသော ယောက်ျား။

✿ [بَهَلَ ـ] ❶ အချိန်ဆွဲထားသည်။ ❷ ဖြေးဖြေးလုပ်သည်။ ❸ စိတ်တိုင်းကျ ကျက်စားစေသည်။ စိတ်တိုင်းကျ လွှတ်ထားသည်။ ❹ ကျိန်ဆဲသည်။

[بَهْلٌ] ❶ အချိန်ဆွဲထားခြင်း။ ❷ ဖြေးဖြေးလုပ်ခြင်း။ ❸ စိတ်တိုင်းကျ ကျက်စားစေခြင်း။ စိတ်တိုင်းကျ လွှတ်ထားသည်။ ❹ ကျိန်ဆဲခြင်း။

[بَهِلَ ـ] ❶ အလုပ်အကိုင်မဲ့ဖြစ်သည်။ ❷ လက်နက်မဲ့ဖြစ်သည်။ ❸ [ـتِ الْمَرْأَةُ] လင်မရှိ၊ သားသမီးမရှိသောဘဝနှင့် နေထိုင်သည်။

[بَهَلٌ] ❶ အလုပ်အကိုင်မဲ့ဖြစ်ခြင်း။ ❷ လက်နက်မဲ့ဖြစ်ခြင်း။ ❸ လင်မရှိ၊ သားသမီး မရှိသောဘဝနှင့် နေထိုင်ခြင်း။

[أَبْهَلَ] ❶ စိတ်တိုင်းကျ နေထိုင်စေသည်။ ❷ ဘေးမဲ့ပေးထားသည်။ ❸ [ـ الأَرْضَ] မျိုးကြဲပြီးနောက် ရေသွင်းသည်။

[بَاهَلَ] ❶ တစ်ဦးနှင့်တစ်ဦး တစ်ဘက်နှင့် တစ်ဘက် အပြန်အလှန် ကျိန်ဆဲသည်။ (မှားသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ် အထံတော်မှ ကရုဏာတော်ကင်းဝေးမှု သက်

ရောက်ပါစေဟု အပြန်အလှန် ဆုတောင်းသည်။)

[اِبْتَهَلَ] (၁) ရိုကျိုးနှိမ့်ချလျက် ဆုတောင်းသည်။ (၂) တစ်ဦးနှင့်တစ်ဦး တစ်ဘက်နှင့်တစ်ဘက် အပြန်အလှန် ကျိန်ဆဲသည်။(မှားသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်အထံတော်မှ ကရုဏာတော်ကင်းဝေးမှု သက်ရောက်ပါစေဟု အပြန်အလှန် ဆုတောင်းသည်။)။ ﴿ثُمَّ نَبْتَهِلْ فَنَجْعَلْ لَعْنَةَ اللّٰهِ عَلَى الْكَاذِبِيْنَ﴾ ထို့နောက် ကျွန်ုပ်တို့သည် 'မုသားပြောဆိုကြသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်မှကင်းဝေးခြင်းသည် ကျရောက်ပါစေသား'ဟု ဆုတောင်းကြမည်။

[تَبَاهَلَ] တစ်ဦးနှင့်တစ်ဦး တစ်ဘက်နှင့်တစ်ဘက် အပြန်အလှန် ကျိန်ဆဲသည်။(မှားသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်အထံတော်မှ ကရုဏာတော်ကင်းဝေးမှု သက်ရောက်ပါစေဟု အပြန်အလှန် ဆုတောင်းသည်။)။

[تَبَهَّلَ] တစ်ဦးနှင့်တစ်ဦး တစ်ဘက်နှင့်တစ်ဘက် အပြန်အလှန် ကျိန်ဆဲသည်။(မှားသူတို့အပေါ်၌ အလ္လာဟ်အရှင်မြတ် အထံတော်မှ ကရုဏာတော်ကင်းဝေးမှု သက်ရောက်ပါစေဟု အပြန်အလှန် ဆုတောင်းသည်။)။

[اِسْتَبْهَلَ] (၁) အချိန်ဆွဲထားသည်။ (၂) ဖြေးဖြေးလုပ်သည်။ (၃) စိတ်တိုင်းကျ ကျက်စားစေသည်။ စိတ်တိုင်းကျ လွှတ်ထားသည်။ (၄) ကျိန်ဆဲသည်။

[اَبْهَلَ] အမြဲစိမ်းသစ်ပင်ငယ်တစ်မျိုး။(savin)

[اَلْبَهْلُ] (၁) ဘေးမဲ့ပေးထားသော(တိရစ္ဆာန်)။ (၂) သေးနုတ်သိမ်ဖျင်းသော(အရာ)။ (၃) အိန္ဒြေသိက္ခာမဲ့သော(အပြုအမူ၊ အနေအထိုင်)။

[اَلْبَهْلَةُ] အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးမှု။
﴿مَنْ وَلِيَ مِنْ اُمُوْرِ النَّاسِ شَيْئًا فَلَمْ يُعْطِهِمْ كِتَابَ اللّٰهِ فَعَلَيْهِ بَهْلَةُ اللّٰهِ﴾
မည်သူမဆို လူတို့အပေါ် အုပ်ချုပ်ပြီး အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်အရ ကိုင်တွယ်ဆုံးဖြတ်ခြင်းမပြုလျှင် ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှကင်းဝေးမည်။

[اَلْبُهْلُوْلُ] (၁) ဂုဏ်သိက္ခာနှင့်ပြည့်စုံသော လူကြီးလူကောင်း၊ ခေါင်းဆောင်။ (၂) အလွန်ရယ်မောပျော်ရွှင်၍နေတတ်သူ။(ج)[بَهَالِيْلُ]။

[اَلْبُهْلُوَانُ] ဘားဂျမ်းသမား။

✿ [اَبْهَمَ] (၁) မြှုတ်ကွယ်သည်။ ဖုံးကွယ်နေသည်။ (၂) ဖုံးဖိထားသည်။ ကွယ်ဝှက်ထားသည်။ လျှို့ဝှက်ထားသည်။ (၃) ပိတ်သည်။ (၄) ဖယ်ရှားသည်။

[تَبَهَّمَ] မြှုတ်ကွယ်သည်။ ဖုံးကွယ်နေသည်။ လျှို့ဝှက်နက်နဲသည်။

[اِسْتَبْهَمَ] (၁) မြှုတ်ကွယ်သည်။ ဖုံးကွယ်နေသည်။ (၂) လျှို့ဝှက်နက်နဲသည်။ နားလည်ရခက်သည်။ (၃) စကားမပြောနိုင်ပဲရှိသည်။

[اَلْاِبْهَامُ] လက်မ။(ج) [اَبَاهِمُ - اِبْهَامَاتٌ]။

[اَلْاَبْهَمُ] (၁) စကားမပြောနိုင်အောင် နှုတ်

ပိတ်ထားခြင်းခံရသူ။ ❷ ဆွံ့အသူ။

[اَلْبَهْمَةُ] သိုးပေါက်စ။(ဇ) [بَهْمٌ ـ بِهَامٌ]။

[اَلْبُهْمَةُ] ❶ မာပြင်းသော ကျောက်တုံး။ ❷ အဖြေရှာရန်ခက်ခဲသော(ပြဿနာ)။ ❸ ဖြေရှင်း၍မရသောအမှုကိစ္စ။ ❹ လမိုက်သော(ည)။ (ဇ) [بُهَمٌ]။

[اَلْبَهِيمُ] ❶ နက်မှောင်သော။ ❷ တစ်ရောင်တည်းဖြစ်သော။ ❸ အနိမ့်အမြင့်မရှိသော အသံ။(ဇ) [بُهُمٌ ـ بُهْمٌ]။

[اَلْبَهِيمَةُ] ခြေလေးချောင်းတိရစ္ဆာန်။ (ဇ) [بَهَائِمُ]။

[اَلْمُبْهَمُ] ❶ နားလည်ရခက်သော(အရာ၊ စကား၊ စသည်)။ ❷ နှုတ်ပိတ်ခြင်းခံထားရသော(သူ)။ ❸ မည်သည့်အရာနှင့်မျှ ရောနှောထားခြင်းမရှိသော(အရာ)။(ဇ) [بُهَّمٌ ـ بُهُمٌ]။

[اَلْمُبْهَمَةُ] [اَسْمَاءُ الْاِشَارَةِ]အညွှန်းနာမ်များ၊ [اَسْمَاءُ الْمَوْصُوْلِ]ပုဒ်ဆက်အညွှန်းနာမ်များ၊ [اَلضَّمَائِرُ]နာမ်စားများစသည်တို့ကို [اَلْمُبْهَمَةُ]ဟုခေါ်သည်။

✿ [اَلْبَهْنَانَةُ] နွဲ့နှောင်းသော၊ ပျော့ပျောင်းသော မိန်းမ။

✿ [بَهْنَسَ] [ـفِى مَشْيِهِ]လမ်းလျှောက်ရာ၌ မော်ကြွားသည်။ ဝင့်ကြွားသည်။

[تَبَهْنَسَ] လမ်းလျှောက်ရာ၌ မော်ကြွားသည်။ ဝင့်ကြွားသည်။

[اَلْبَهْنَسُ] ခြင်္သေ့။(ဇ) [بَهَانِسُ]။

✿ [بَهَا ـُ] ❶ လှပသည်။ ချောမောပြေပြစ်သည်။ လှပခန့်ညားသည်။ ❷ [ـفُلَانًا]သာလွန်သည်။ ပိုမိုထူးကဲသည်။

[بَهَاءٌ] ❶ လှပခြင်း။ ချောမောပြေပြစ်ခြင်း။ လှပခန့်ညားခြင်း။ ❷ သာလွန်ခြင်း။ ပိုမို ထူးကဲခြင်း။

✿ [بَهِيَ ـَ] ❶ လှပသည်။ ချောမောပြေပြစ်သည်။ လှပခန့်ညားသည်။ ❷ သာလွန်သည်။ ပိုမို ထူးကဲသည်။ ❸ [ـالْمَكَانُ](နေရာ)လစ်လပ်သည်။ လစ်ဟာသည်။ ကျယ်ဝန်းသည်။

[بَهَاءٌ ـ بَهَائَةٌ] ❶ လှပခြင်း။ ချောမောပြေပြစ်ခြင်း။ လှပခန့်ညားခြင်း။ ❷ သာလွန်ခြင်း။ ပိုမိုထူးကဲခြင်း။ ❸ (နေရာ)လစ်လပ်ခြင်း။ လစ်ဟာခြင်း။ ကျယ်ဝန်းခြင်း။

[بَهِيٌّ] ❶ လှပသော(သူ)။ ချောမောပြေပြစ်သော(သူ)။ လှပခန့်ညားသော(သူ)။ ❷ သာလွန်သော(သူ)။ ပိုမို ထူးကဲသော(သူ)။ ❸ လစ်လပ်သော(နေရာ)။ လစ်ဟာသော(နေရာ)။ ကျယ်ဝန်းသော(နေရာ)။ (ဇ) [أَبْهِيَاءُ]။(မ) [بَهِيَّةٌ]။(ဇ) [بَهَايَا]။

[اَبْهَى] ❶ လှပသည်။ ချောမောပြေပြစ်သည်။ လှပခန့်ညားသည်။ ❷ သာလွန်သည်။ ပိုမို ထူးကဲသည်။ ❸ [ـالْمَكَانَ](နေရာကို)လစ်လပ်စေသည်။ လစ်ဟာစေသည်။ ကျယ်ဝန်းစေသည်။

[بَاهَا] ဂုဏ်ပြိုင်သည်။ မော်ကြွားသည်။ ဝင့်ကြွားသည်။

[بَهَّى] ပို၍ကျယ်ဝန်းအောင်လုပ်သည်။

[اِبْتَهَى] မောက်မာသည်။

[تَبَاهَا] တစ်ဦးကိုတစ်ဦး မောက်မာစွာ

ဆက်ဆံသည်။

[اَلْبَهْوُ] ❶ ကျယ်ဝန်းသော(အရာ)။ [هُوَ فِى بَهْوٍ مِنَ الْعَيْشِ]သူဟာ ချောင်လည်တဲ့ဘဝနဲ့နေရတယ်။ ❷ မျက်နှာစာတန်း၌ရှိသော အိမ်။ ❸ ဧည့်ခန်း။(ج) [اَبْهَاءٌ]။

[اَلْبَهَا-اَلْبَهَاءُ] ❶ လှပခန့်ငြားမှု။ ❷ သာယာလှပသော ရှုမြင်ကွင်း။ ❸ တောက်ပမှု။

✿ [بَاءَ ـ] ❶ ပြန်လှည့်လာသည်။ ❷ ပြန်ယူလာသည်။ ﴿وَبَاءُوْا بِغَضَبٍ مِنَ اللهِ﴾ထို့ပြင် ၄င်းတို့သည် အလ္လာဟ်အရှင်မြတ်၏အမျက်တော်ကို ယူဆောင်လျက်ပြန်လာခဲ့ကြကုန်၏။ ❸ အသေစား သေစေခြင်းခံရသည်။

[بَوْءٌ-بَوَاءٌ] ❶ ပြန်လှည့်လာခြင်း။ ❷ ပြန်ယူလာခြင်း။ ❸ အသေစား သေစေခြင်းခံရခြင်း။

[اَبَاءَ] ❶ ပြန်ယူလာသည်။ ❷ နေရာထိုင်ခင်းပေးသည်။ ❸ ဝန်ခံစေသည်။ ❹ အသေစားသေစေသည်။

[بَاوَا] ❶ အသေစား သေစေရန်ထိုက်သည်။ ❷ အသေစား သေစေသည်။

[بَوَّا] ❶ လက်ထပ်ထိမ်းမြားသည်။ ❷ နေရာထိုင်ခင်းပေးသည်။

﴿وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَنُبَوِّئَنَّهُمْ مِنَ الْجَنَّةِ غُرَفًا﴾

၄င်းပြင် အကြင်သူတို့သည် ယုံကြည်ခဲ့ကြပြီး ကောင်းမြတ်သော အကျင့်သီလများကို ပြုမူခဲ့ကြကုန်၏။ ငါအရှင်မြတ်သည် ထိုသူတို့အား ဂျန္နတ်သုခဘုံရှိ ခန်းဆောင်များ၌ နေရာထိုင်ခင်း ပြုလုပ်ပေးတော်မူမည်။ ❸ အိမ်ယာစီမံပေးသည်။ ❹ ဓါးလှံလက်နက်ဖြင့် ချိန်ရွယ်သည်။

[تَبَاوَا] အသတ်ခံရသူနှင့် သတ်သူကို အသေစားသေစေခြင်းဖြင့်ညီမျှစေသည်။

[تَبَوَّا] နေရာယူသည်။ သွားရောက်ခိုလှုံနေထိုင်သည်။

[اِسْتَبَاءَ] ❶ နေရာယူသည်။ ❷ သွားရောက်ခိုလှုံနေထိုင်သည်။ ❸ အသေစား သေစေသည်။

[اَلْبَاءُ] ❶ ထိမ်းမြားမှု။ ❷ ကာမစပ်ယှက်မှု။

[اَلْبَاءَةُ] ❶ ထိမ်းမြားမှု။ ❷ ကာမစပ်ယှက်မှု။﴿مَنِ اسْتَطَاعَ مِنْكُمُ الْبَاءَةَ فَلْيَتَزَوَّجْ﴾အသင်တို့အနက် မည်သူမဆို ထိမ်းမြားရန်တတ်စွမ်းနိုင်လျှင် ထိမ်းမြားမှုကိုပြုကြကုန်။ ❸ အိမ်။ နေအိမ်။(ج) [بَاءٌ]။

[اَلْبَوَاءُ] ❶ အသေစားသေစေခြင်း၌ ညီမျှသော(သူ)။ အသတ်ခံရသူ၏အစား သေစေရန်ထိုက်တန်သူ။ ❷ အဖြေ။ ဖြေကြားချက်။ [كَلَّمْنَاهُمْ فَاَجَابُوْنَا عَنْ بَوَاءٍ وَاحِدٍ]သူတို့ကိုတို့စကားပြောကြည့်တာ အဖြေတစ်ခုပဲရတယ်။

[اَلْبِيْئَةُ] ❶ အိမ်။ ❷ အခြေအနေ။ [بِيْئَةٌ طَبِيْعِيَّةٌ]သဘာဝအခြေအနေ။ [بِيْئَةٌ سِيَاسِيَّةٌ]နိုင်ငံရေးအခြေအနေ။

[اَلْمَبَاءَةُ] ❶ အိမ်။ ❷ [رَحِيْبُ الْمَبَاءَةِ]အလွန်ရက်ရောပေးကမ်းသူ။

✿ [بَابَ ـ] တံခါးမှူးလုပ်သည်။ ဂိတ်စောင့် အလုပ်ကို လုပ်သည်။

[بَوْبٌ] တံခါးမှူးလုပ်ခြင်း။ ဂိတ်စောင့်အ

လုပ်ကို လုပ်ခြင်း။

[بَوَّبَ] (၁) [بَابَ_الْبَابَ]တံခါးလုပ်သည်။ (၂) [بَابَ_الْكِتَابَ](စာအုပ်ကို)ကဏ္ဍများ၊ အခန်းများ ဖွဲ့၍ ပြုစုသည်။

[تَبَوَّبَ] (၁) တံခါးဖြစ်သည်။ (၂) (စာအုပ်ကို)ကဏ္ဍများ၊ အခန်းများဖွဲ့၍ ပြုစုထားသည်။ (၃) တံခါးမှူးအဖြစ် ခန့်အပ်ထားသည်။

[اَلْبَابُ] (၁) တံခါး။ (၂) ကဏ္ဍ၊ အခန်း။(ج) [اَبْوَابٌ۔ بِيْبَانٌ]။

[اَلْبَابِيُّ] (၁) တံခါးနှင့်ဆိုင်သော။ (၂) [اَلْوَرِيْدُ الْبَابِيُّ]သွေးကြောမကြီး။

[اَلْبَابِيَّةُ] (၁) အံ့သြဘွယ်ရာ။ ထူးဆန်းသော(အရာ)။ (၂) ဟိဂ်ျရီ(၁၃)ရာစုခန့်က အီရန်နိုင်ငံ၌ပေါ်ပေါက်ခဲ့သော ဘာသာရေးလှုပ်ရှားမှုတစ်ခု၏အမည်။ ယင်းလှုပ်ရှားမှုကို စတင်ပြုလုပ်သူ 'ဗားဗ်မိရ်ဇာအလီမုဟမ္မဒ်'၏ နောက်လိုက်များ။

[اَلْبِوَابَةُ] တံခါးစောင့်အလုပ်။

[اَلْبَوَّابَةُ] (၁) တံခါးစောင့်။ ဂိတ်စောင့်။ (၂) အူမကြီး၏အဝ။

[اَلْبَوَّابَةُ] ပင်မတံခါးကြီး။

✽ [اَلْبُوْتَاسِيَام] ပိုတက်စီယမ်။

✽ [اَلْبُوْتَقَةُ] သတ္တုကျိုသည့်ခွက်၊ လုံခွက်။

✽ [بَاثَ-] (၁) ရှာဖွေသည်။ (၂) အစိတ်စိတ် အမွှာမွှာ လွင့်စင်ပြန့်ကြဲစေသည်။ (၃) ထုတ်ယူသည်။ (၄) တွင်းတူးပြီးမြေဖို့သည်။

[بَوْثٌ] (၁) ရှာဖွေခြင်း။ (၂) အစိတ်စိတ် အမွှာမွှာ လွင့်စင်ပြန့်ကြဲစေခြင်း။ (၃) ထုတ်ယူခြင်း။ (၄) တွင်းတူးပြီး မြေဖို့ခြင်း။

[اَبَاثَ] ရှာဖွေသည်။

[اِبْتَاثَ] ရှာဖွေသည်။

[اِسْتَبَاثَ] နှိုက်ထုတ်သည်။

✽ [بَاجَ-] (၁) [ـ الْبَرْقُ](လျှပ်စီး)တဖျပ်ဖျပ် လင်းလက် တောက်ပသည်။ (၂) [ـ فُلَانٌ] မျက်နှာ ကြည်လင်ဝင်းပလာသည်။ (၃) ဟစ်အော်သည်။ (၄) မောပန်းသည်။ ပင်ပန်းသည်။ (၅) [ـ فُلَانًا]ထိတွေ့သည်။ သက်ရောက်သည်။(၆) လွှမ်းခြုံ သက်ရောက်သည်။

[بَوْجٌ۔ بَوَجَانٌ] (၁) (လျှပ်စီး)တဖျပ်ဖျပ် လင်းလက်တောက်ပခြင်း။ (၂) မျက်နှာ ကြည်လင်ဝင်းပလာခြင်း။ (၃) ဟစ်အော်ခြင်း။ (၄) မောပန်းခြင်း။ ပင်ပန်းခြင်း။ (၅) ထိတွေ့ခြင်း။ သက်ရောက်ခြင်း။ (၆) လွှမ်းခြုံ သက်ရောက်ခြင်း။

[بَوَّجَ] (၁) [ـ الْبَرْقُ](လျှပ်စီး)တဖျပ်ဖျပ် လင်းလက်တောက်ပသည်။ (၂) ဟစ်အော်သည်။

[اِنْبَاجَ] (၁) [ـ الْبَرْقُ](လျှပ်စီး)တဖျပ်ဖျပ်လင်းလက်တောက်ပသည်။ (၂) [ـ الْبَائِجَةُ]ဘေးဒုက္ခကျရောက်သည်။

[تَبَوَّجَ] [ـ الْبَرْقُ](လျှပ်စီး)တဖျပ်ဖျပ်လင်းလက် တောက်ပသည်။

[اَلْبَائِجُ] (၁) ပေါင်အတွင်းရှိ အကြော။ (၂) တစ်ကိုယ်လုံးပြန့်နှံ့နေသည့် အကြော။

[اَلْبَائِجَةُ] (၁) ပေါင်အတွင်းရှိ အကြော။ (၂) တစ်ကိုယ်လုံးပြန့်နှံ့နေသည့် အကြော။ (၃) သဲပြင်။ (၄) ဘေးဒုက္ခ။(ج)[بَوَائِجُ]။

[اَلْبَاجُ] ညီညာ၍ဖြောင့်ဖြူးသောလမ်း။ [بَاجًا وَاحِدًا]တစ်မျိုးတစ်စားတည်းဖြစ်သော [النَّاسُ بَاجٌ وَاحِدٌ]လူတွေဟာ အားလုံး အတူ

[شَيْخٌ ثَمَّةٌ]အိုမင်းမစွမ်းဖြစ်နေသော အဖိုးအို။ (ဇ)[ثِمَمٌ]။

[اَلْمَثَمُّ] ချက်ကြိုးဖြတ်ထားသည့်နေရာ။ (ဇ) [مَثَامٌ]။

[ثَمَنَ ـُ] (၁) [ـ الشَّيْءَ](တစ်စုံတစ်ရာ၏)ရှစ်ပုံတစ်ပုံကို ယူသည်။ (၂) ရှစ်ယောက်မြောက်ဖြစ်သည်။

[ثَمْنٌ] (၁) (တစ်စုံတစ်ရာ၏)ရှစ်ပုံတစ်ပုံကို ယူခြင်း။ (၂) ရှစ်ယောက်မြောက် ဖြစ်ခြင်း။

[ثَمُنَ ـُ] (၁) [ـ الشَّيْءُ]တန်ဖိုးကြီးမားသည်။ တန်ဖိုးမြင့်မားသည်။ (၂) ဂုဏ်အရည်အချင်း မြင့်မားသည်။

[ثَمَانَةٌ] (၁) တန်ဖိုးကြီးမားခြင်း။ တန်ဖိုးမြင့်မားခြင်း။ (၂) ဂုဏ်အရည်အချင်း မြင့်မားခြင်း။

[ثَمِينٌ] (၁) တန်ဖိုးကြီးမားသော(အရာ)။ တန်ဖိုးမြင့်မားသော(အရာ)။ (၂) ဂုဏ်အရည်အချင်း မြင့်မားသော(သူ)။

[اَثْمَنَ] (၁) [ـ الْقَوْمُ]လူဦးရေ ရှစ်ယောက်ဖြစ်သွားသည်။ (၂) [ـ السِّلْعَةُ]ကုန်ပစ္စည်းတန်ဖိုးမြင့်တက်သည်။ (၃) [ـ الشَّيْءَ](တစ်စုံတစ်ရာကို)တန်ဖိုးသတ်မှတ်သည်။ (၄) [ـ فُلَانًا] ပစ္စည်းတန်ဖိုးကို ပေးသည်။

[ثَامَنَ] ပစ္စည်းတန်ဖိုးကို မြှင့်တင်၍ပြောဆိုသည်။ ဈေးတင်ရောင်းသည်။

[ثَمَّنَ] (၁) [ـ السِّلْعَةَ](ပစ္စည်း)တန်ဖိုးသတ်မှတ်သည်။ (၂) [ـ الشَّيْءَ](တစ်စုံတစ်ရာကို)အချက်ရှစ်ချက် သတ်မှတ်သည်။ အပိုင်းရှစ်ပိုင်း ခွဲသည်။

[اَلثَّمَنُ] တန်ဖိုး။ သတ်မှတ်ဈေးနှုန်း။

[اَلثُّمْنُ ـ اَلثُّمُنُ] ရှစ်ပုံတစ်ပုံ။(ဇ)[اَثْمَانٌ]။

[اَلثَّمِينُ] (၁) တန်ဖိုးကြီးမားသော(အရာ)။ တန်ဖိုးမြင့်မားသော(အရာ)။ (၂) ဂုဏ်အရည်အချင်း မြင့်မားသော(သူ)။ (၃) ရှစ်ပုံတစ်ပုံ။ (ဇ)[اَثْمَانٌ]။

[اَلثَّنْدُوَةُ] (၁) ယောကျ်ား၏နို့အုံ။ (၂) နှာခေါင်း၏အဖျား၊ နှာနု။(ဇ)[ثَنَادٍ]။

[اَلثُّنْطُبُ] ငှက်လှောင်အိမ်ပြုလုပ်သူတို့ အသုံးပြုလေ့ရှိသော ဝါးကို အပေါက်ဖေါက်သည့် ကိရိယာ။

[اَثَنَّ] (၁) မြက်ခြောက် ပေါများသည်။ (၂) အားအင်ချိနဲ့၍ ယိုယွင်းပျက်စီးသည်။

[ثَنَّنَ] (၁) မြက်ခြောက်ကို ကျွေးစားသည်။ (၂) [ـ الْفَرَسُ](မြင်း)လေးလံသည့်ဝန်တင်ဆောင်ထားသဖြင့် ချက်နှင့်မြေကြီးထိလုမတတ်ဖြစ်သည်။

[اَلثِّنُّ] (၁) မြက်ခြောက်။ (၂) ကျွတ်ဆတ်သောအပင်။ (ဇ) [ثِنَانٌ]။

[اَلثُّنَّةُ] (၁) ဝမ်းဗိုက်အောက်ပိုင်း။ (၂) တိရစ္ဆာန်၏ခွါအရင်းရှိ မြေကြီးနှင့် ထိလုမတတ်ဖြစ်နေသောအမွေး။(ဇ) [ثُنَنٌ]။

[ثَنَى ـِ] (၁) [ـ الشَّيْءَ]လိပ်ပတ်ထားသည်။ (၂) [ـ صَدْرَهُ]မိမိ၏ရင်ပတ်ကို တစ်စုံတစ်ရာပေါ်၌ ကုန်း၍ဖိထားသည်။ ရင်ပတ်ကို ကုန်း၍ဖိထားသည်။《اَلَا اِنَّهُمْ يَثْنُوْنَ صُدُوْرَهُمْ لِيَسْتَخْفُوْا مِنْهُ》မှတ်ယူကြကုန်၊ မုချကေန် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ လျှို့ဝှက်ဖုံးအုပ်ထားကြရန် မိမိတို့၏ရင်ပတ်များကို ကုန်း၍ဖိ

ထားကြသည်။ ❸ [ـــفُلَانًا عَنْ كَذَا](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာမှ)မျက်နှာ လွှဲစေသည်။ ဦးတည်ချက် ပြောင်းလဲစေသည်။ ❹ [ـــعِنَانَ فَرَسِهِ](မြင်း)ဒုန်းစိုင်းပြေးနေရာမှ အရှိန်လျှော့ချရန် ဇက်ကြိုးကို မြင်း၏မျက်နှာပေါ်၌ အနည်းငယ်လိပ်ခေါက်လျှော့ကျစေသည်။ ❺ [ـــعِنَانَهُ عَنِّي]မျက်နှာလွှဲသွားသည်။ ကျောခိုင်းသည်။ ❻ [ـــفُلَانًا عَلَى وَجْهِهِ]လာရာလမ်းအတိုင်း ပြန်ပို့သည်။ ❼ [ـــعِطْفَهُ] မောက်မာသည်။ ❽ [ـــفُلَانًا]ဒုတိယလူ ဖြစ်သည်။

[ثَنْيٌ] ❶ လိပ်ပတ်ထားခြင်း။ ❷ မိမိ၏ရင်ပတ်ကို တစ်စုံတစ်ရာပေါ်၌ ကုန်း၍ဖိထားခြင်း။ ရင်ပတ်ကို ကုန်း၍ဖုံးဖိထားခြင်း။ ❸ (တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာမှ)မျက်နှာလွှဲစေခြင်း။ ဦးတည်ချက် ပြောင်းလဲစေခြင်း။ ❹ (မြင်း)ဒုန်းစိုင်းပြေးနေရာမှ အရှိန်လျှော့ချရန် ဇက်ကြိုးကို မြင်း၏မျက်နှာပေါ်၌ အနည်းငယ် လိပ်ခေါက်လျှော့ကျစေခြင်း။ ❺ မျက်နှာလွှဲသွားခြင်း။ ကျောခိုင်းခြင်း။ ❻ လာရာလမ်းအတိုင်း ပြန်ပို့ခြင်း။ ❼ မောက်မာခြင်း။ ❽ ဒုတိယလူ ဖြစ်ခြင်း။

[أَثْنَى] ❶ [ـــالْحَيَوَانُ](တိရစ္ဆာန်)ရှေ့သွားကျွတ်သည်။ ❷ [ـــعَلَى فُلَانٍ]ချီးမွမ်းသည်။ တစ်ဦးတစ်ယောက်၏ဂုဏ်ကို ဖော်ထုတ်ပြောဆိုသည်။

[ثَنَّى] ❶ [ـــالشَّيْءَ]နှစ်ခုပြုလုပ်သည်။ နှစ်ပိုင်းဖြစ်စေသည်။ ❷ [ـــبِالْأَمْرِ]ကိစ္စတစ်ခုကို ယခင်ကိစ္စတစ်ခုဖြင့် ချိတ်ဆက်သည်။ ❸ [ـــالْكَلِمَةَ]ပုဒ်တစ်ခုကို ဒွိဝုစ်ကိန်း၏သင်္ကေတ ထည့်ပေးသည်။ ❹ [ـــالْحَرْفَ]အက္ခရာတစ်လုံး၌ အစက်နှစ်စက်ထည့်သည်။

[اِثَّنَى] တစ်ခုပေါ်တစ်ခု လိပ်ခေါက်ထားသည်။ တစ်ခုပေါ်တစ်ခု လိပ်ခေါက်ရစ်ပတ်ထားသည်။

[اِنْثَنَى] ❶ တစ်ခုပေါ်တစ်ခု လိပ်ခေါက်ထားသည်။ တစ်ခုပေါ်တစ်ခု လိပ်ခေါက်ရစ်ပတ်ထားသည်။ ❷ [ـــفِي مِشْيَتِهِ]လမ်းလျှောက်ရာ၌ မော်ကြွားဝင့်ဝါလျက် လျှောက်သည်။

[تَثَانَى] [ـــعَلَيْهِ](သူ့အကြောင်း)ချီးမွမ်းပြောဆိုသည်။ သူ့ဂုဏ်ကျေးဇူးကို ဖော်ထုတ်ပြောဆိုသည်။

[تَثَنَّى] ❶ တစ်ခုပေါ်တစ်ခု လိပ်ခေါက်ထားသည်။ တစ်ခုပေါ်တစ်ခု လိပ်ခေါက်ရစ်ပတ်ထားသည်။ ❷ [ـــفِي مِشْيَتِهِ]လမ်းလျှောက်ရာ၌ မော်ကြွားဝင့်ဝါလျက် လျှောက်သည်။ ❸ [ـــفِي صَنْعِهِ كَذَا]သံသယဖြစ်သည်။ ဝေခွဲမရဖြစ်သည်။ သို့လော၊ သို့လောဖြစ်သည်။

[اِسْتَثْنَى] ချွင်းချန်ထားသည်။ ချွင်းချန်၍ ပယ်ထားသည်။

﴿إِذْ أَقْسَمُوا لَيَصْرِمُنَّهَا مُصْبِحِينَ وَلَا يَسْتَثْنُونَ﴾ အခါတပါး၌ ၎င်းတို့က ''မချကြေန် မိမိတို့သည် နံနက်စောစောသွားကြလျက် ယင်း(ဥယျာဉ်)မှ အသီးများကို ဆွတ်ခူးကြမည်'' ဟု ကျိန်ဆိုခဲ့ကြ၏။ သို့ရာတွင် ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်အလိုတော်ရှိပါလျှင်)ဟူ၍ ချွင်းချက်ထား၍ပြောဆိုခြင်းမပြုခဲ့ကြပေ။

[اَلْاِثْنَانِ] နှစ်ခု။ နှစ်ယောက်။(ဖိုနာမ်[مُذَكَّر]

[اَلثُّنَى] နှစ်ကြိမ်။ နှစ်ခါ။ နှစ်ခု။
[نَادَيْتُهُ ثُنَى]ငါသူ့ကို နှစ်ကြိမ် အော်ခေါ်ခဲ့တယ်။
[اَلثِّنَى] ❶ နှစ်ကြိမ်။ နှစ်ခါ။ နှစ်ခု။ ❷ နှစ်ကြိမ်ပြုလုပ်ရသော အလုပ်။ နှစ်ကြိမ်ဖြစ်သောအမှုကိစ္စ။ (ဇ) [اَثْنَاءٌ]။
[اَلثَّنَاءُ] ချီးမွမ်းခြင်း။ ဂုဏ်မွမ်းခြင်း။(ဇ) [اَثْنِيَةٌ]။
[اَلثِّنَاءُ] တိရစ္ဆာန်၏ခြေကို ခတ်ရသော လက်ထိပ်ကွင်းနှင့်တူသော ကွင်းနှစ်ခုအနက် တစ်ခု။ (ဇ) [اَثْنِيَةٌ]။
[ثُنَاءَ] နှစ်ယောက်စီ၊ နှစ်ယောက်စီ။
[جَاءُوا ثُنَاءَ]သူတို့ နှစ်ယောက်စီ၊ နှစ်ယောက်စီ လာခဲ့ကြသည်။
[اَلثَّنَوِيَّةُ] ကောင်းကျိုးဆောင်သည့် ဘုရားနှင့် မကောင်းကျိုး ဆောင်သည့်ဘုရားဟူ၍ ဘုရားနှစ်ပါးရှိသည်ဟုခံယူသောဝါဒ။ ယင်းဝါဒကို ယုံကြည်သူများ။ ၄င်းတို့သည် ယင်းဘုရားနှစ်ပါးအတွက် အလင်းနှင့်အမှောင်ကို ကိုယ်စားပြုဖော်ပြကြသည်။
[اَلثِّنْيُ] ❶ ကလေးနှစ်ကြိမ် မွေးဖွားပြီးသောမိန်းမ။ ❷ ဒုတိယမြောက်ကလေး။ ❸ တွန့်လိမ်နေသော(မြွေ ကြိုးစသည်)။ ❹ အဖု၊ အစ။ [ثِنْيَا الْحَبْلِ]ကြိုးစနှစ်ဘက်။ ❺ [ثِنْيٌ مِنَ الْجَبَلِ]တောင်တန်းရှိ ကွေ့ကောက်သွားသည့်အပိုင်း။ ❻ [ثِنْيٌ مِنَ الثَّوْبِ]အနားစ တွန့်လိမ်၍ ခေါက်နေသောအဝတ်။ ❼ [ثِنْيٌ مِنَ اللَّيْلِ]ညဉ့်၏အစိတ် အပိုင်းတစ်ခု။ ညပိုင်း အချိန်တစ်ချိန်။(ဇ) [اَثْنَاءٌ]။

ဖြစ်ပြီး ဒွိဝုစ်ကိန်း[تَثْنِيَة]ဖြစ်သောနာမ်ကို ရေတွက်ရာ၌သုံးသည်။သာဓက-
[رَجُلَانِ اِثْنَانِ]ယောကျ်ားနှစ်ယောက်)။
[يَوْمُ الْاِثْنَيْنِ]တနင်္လာနေ့။
[اَلْاِثْنَتَانِ] နှစ်ခု။ နှစ်ယောက်။(မနာမ်[مُؤَنَّث] ဖြစ်ပြီး ဒွိဝုစ်ကိန်း[تَثْنِيَة]ဖြစ်သောနာမ်ကို ရေတွက်ရာ၌သုံးသည်။သာဓက-
[اِمْرَاَتَانِ اِثْنَتَانِ]မိန်းမကြီးနှစ်ယောက်)။
[اِثْنَاعَشَرَ] တစ်ဆယ့်နှစ်ခု။ တစ်ဆယ့်နှစ်ယောက်။(သာဓက-[اِثْنَاعَشَرَ رَجُلًا]ယောကျ်ားတစ်ဆယ့်နှစ်ယောက်)။
[اِثْنَتَاعَشَرَةَ] တစ်ဆယ့်နှစ်ခု။ တစ်ဆယ့်နှစ်ယောက်။(သာဓက-[اِثْنَتَاعَشَرَةَ اِمْرَاَةً]မိန်းမတစ်ဆယ့်နှစ်ယောက်)။
[اَلْاِثْنَاعَشَرِىْ] အူသိမ်။
[اَلْاِثْنَاعَشَرِيَّةُ] ရှီအာအုပ်စုတစ်ခု၏အမည်။(၄င်းတို့၏အယူအဆအရ အေမာမ်(၁၂)ပါးရှိပြီး ပထမအေမာမ်သည် သာဝကကြီးအလီဖြစ်၍ နောက်ဆုံးအေမာမ်သည် အေမာမ်မဟ်ဒီဖြစ်သည်။)
[اَلثَّانَوِىُّ] ဒုတိယအဆင့်။
[اَلثَّانِيَةُ] စက္ကန့်။(တစ်မိနစ်၏ ခြောက်ဆယ်ပုံတစ်ပုံဖြစ်သော အချိန်အပိုင်းအခြား။ သို့မဟုတ် ယင်းအချိန်ပိုင်းကို ညွှန်ပြသောနာရီလက်တံငယ်။) (ဇ) [ثَوَانٍ]။
[اَلثُّنَائِىُّ] အခြမ်းနှစ်ခြမ်းဖြင့် ဖွဲ့စည်းထားသော (အရာ)။ အပိုင်းနှစ်ပိုင်းပါသော(အရာ)။
[اَلْحُكْمُ الثُّنَائِىُّ]ကဏ္ဍနှစ်ရပ်ခွဲထားသော အမိန့်။

[اَثْنَاءٌ] အတောအတွင်း၊ စဉ်တွင်။

[فِى اَثْنَاءِ الْاَكْلِ]စားနေစဉ် အတောအတွင်း။

[اَلثَّنِيَّةُ] ❶ အပေါ်ရှေ့အလယ်သွားနှစ်ချောင်းနှင့် အောက်ရှေ့အလယ်သွားနှစ်ချောင်း၊ စုစုပေါင်းသွား(၄)ချောင်းအနက် တစ်ချောင်း။ ❷ တောင်ကြားလမ်း။ ❸ ချွင်းချန်ထားခြင်း၊ ချွင်းချန်၍ ပယ်ထားခြင်း။ ❹ ချွင်းချန်ထားသောအရာ၊ ချွင်းချန်၍ပယ်ထားသောအရာ။ ❺ သီးခြားရွေးချယ်ထားသည့်အရာ။(ဗ) [ثَنَايَا]။

[فُلَانٌ طَلَّاعُ ثَنَايَا]အခက်အခဲများကို ကြံ့ကြံ့ခံ၍ကျော်လွှားနိုင်သူ။ အရေးပါသော ကိစ္စများ၌သာ စိတ်ဝင်တစားကြိုးစားလုပ်ကိုင်သူ။

[اَلثُّنْيَانُ] ကိုယ်ပိုင်အရည်အချင်းမရှိဘဲ သူများနောက်ကိုသာလိုက်၍ အားကိုးနေတတ်သူ။

[اَلْمَثَانِى] အကြိမ်ကြိမ်၊ အဖတ်တလဲလဲ ရွတ်ဖတ်ရသော(စာပိုဒ်)။

﴿وَلَقَدْ اٰتَيْنَاكَ سَبْعًا مِنَ الْمَثَانِى وَالْقُرْاٰنَ الْعَظِيْمَ﴾ ငါအရှင်မြတ်သည် အသင့်အား အဖန်တလဲလဲ ရွတ်ဖတ်ရသော မုက္ခပါဌ်တော် ခုနစ်ပါးနှင့် ကြီးကျယ်လှစွာသော ကုရ်အာန်ကျမ်းတော်မြတ်ကို ချီးမြှင့်ပေးသနားတော်မူခဲ့သည်။

[اَلْمَثْنَى] နှစ်ယောက်စီ၊ နှစ်ယောက်စီ။

[جَائُوْا مَثْنَى]သူတို့ နှစ်ယောက်စီ၊ နှစ်ယောက်စီ လာခဲ့ကြသည်။(ဗ) [مَثَانٍ]။

[اَلْمَثْنَوِىُّ] ❶ နောက်ဆုံးအက္ခရာများကို ကာရံတူအောင် ပြုလုပ်ထားသော နှစ်ကြောင်းစပ်ကဗျာ။ ❷ 'တဆွောင်ဝုဖ်'အစ္စလာမ့်ပရမတ္တတရားအကြောင်း ရေးဖွဲ့ထားသော မော်လာနာဂျလာလွှဒ်ဒီးန်ရှမီ၏ ကဗျာကျမ်း။

✿ [ثَابَ ـُ] ❶ ပြန်လှည့်လာသည်။ ❷ [ـالْمَاءُ] (ရေ)ကန်ထဲ၌စု ဝေးနေသည်။ (ရေ)ကန်ထဲ၌ ပြည့်သည်။ ❸ [ـمَالُهُ](ဥစ္စာပစ္စည်း)တိုးပွါးများပြားသည်။ ❹ [ـالْقَوْمُ]တဖွဲဖွဲ ရောက်ရှိလာကြသည်။ အဆက်မပြတ် ရောက်ရှိလာကြသည်။

[ثَوْبٌ ـ ثَوَبَانٌ] ❶ ပြန်လှည့်လာခြင်း။ ❷ (ရေ)ကန်ထဲ၌စုဝေးနေခြင်း။ (ရေ)ကန်ထဲ၌ ပြည့်ခြင်း။ ❸ (ဥစ္စာပစ္စည်း)တိုးပွါးများပြားခြင်း။ ❹ တဖွဲဖွဲ ရောက်ရှိလာကြခြင်း။ အဆက်မပြတ်ရောက်ရှိလာကြခြင်း။

[اَثَابَ] ❶ ပြန်လှည့်လာစေသည်။ ❷ အကျိုးဆုလာဘ်ချီးမြှင့်သည်။

﴿فَاَثَابَهُمُ اللّٰهُ بِمَا قَالُوْا جَنّٰتٍ تَجْرِىْ مِنْ تَحْتِهَا الْاَنْهَارُ﴾ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့ဝန်ခံပြောဆိုခဲ့ကြသည့်အတွက်ကြောင့် အကြင်ဥယျာဉ်များကို အစားပေးချီးမြှင့်တော်မူမည်။ ယင်းဥယျာဉ်များ၏ အောက်၌ စမ်းချောင်းများသည် စီးဆင်းလျက်ရှိပေမည်။

[ثَاوَبَ] အလေ့အထဖြစ်စေသည်။ အကျင့်ဖြစ်စေသည်။ [ثَاوَبَهُ الْمَرَضُ]သူ့မှာ ဒီရောဂါ ခဏခဏဖြစ်တယ်။

[ثَوَّبَ] ❶ ပြန်လာသည်။ ❷ ခေါ်သည်။ နှိုးဆော်သည်။ [ثَوَّبَ بِالصَّلَاةِ] 'ဆွလာတ်' ဝတ်ပြုရန် နှိုးဆော်သည်။ ❸ 'ဖရတ်သ္ဂ်' မပြုမနေရအဓိကတာဝန်များကို ဆောင်ရွက်ပြီးနောက် တာဝန်မရှိသော 'နဖ်လ်' အပိုကောင်း

မှုကို ပြုမူဆောင်ရွက်သည်။ ❸ အဝတ်ကို လှုမြင်သာအောင် လှုပ်ရမ်းပြသည်။ ❹ အစားပေးသည်။ ဆုလာဘ်ချီးမြှင့်သည်။

[ثُيِّبَ] [ـتِ الْمَرْاَةُ](မိန်းမ)တစ်ခုလပ်ဖြစ်သွားသည်။

[مُثَيَّبٌ] တစ်ခုလပ်ဖြစ်သွားသော (မိန်းမ)။

[تَثَوَّبَ] အပိုကောင်းမှုများကို ဆောင်ရွက်သည်။ တာဝန်ရှိသည့်ထက် ပိုမို၍ ကောင်းမှုကို ဆောင်ရွက်သည်။

[تَثَيَّبَ] [ـتِ الْمَرْاَةُ](မိန်းမ)တစ်ခုလပ်ဖြစ်သွားသည်။

[اِسْتَثَابَ] အကျိုးဆုလာဘ်ကို တောင်းခံသည်။

[اَلثَّائِبُ] ❶ မိုးမရွာမီ တိုက်ခတ်သောလေပြင်း။ ❷ [مَاءٌثَائِبٌ]ပင်လယ်ရေကျပြီးနောက်ကျန်ရစ်ခဲ့သောရေ။

[اَلثُّبَةُ] ကြည့်[ث ب ى]။

[اَلثَّوَابُ] ❶ အကျိုးကုသိုလ်။ အကျိုးဆုလာဘ်။ ❷ ပေးကမ်းချီးမြှင့်မှု။

[اَلثَّوْبُ] အဝတ်၊ အထည်။[طَاهِرُ الثَّوْبِ]အပြစ်ကင်းစင်သူ။[ثَوْبُ الْمَاءِ]အချင်း။(ج) [اَثْوَابٌ ـ ثِيَابٌ]။

[اَلثَّوَّابُ] အဝတ်၊ အထည်ရောင်းသူ။

[اَلثَّيِّبُ] တစ်ခုလပ်မိန်းမ၊ အပျိုမဟုတ်သော မိန်းမ။

[اَلْمَثَابُ ـ اَلْمَثَابَةُ] ❶ အိမ်။ ❷ လူအများစုဝေးရာနေရာ။ ❸ ခိုလှုံရာနေရာ။

﴿وَ اِذْجَعَلْنَا الْبَيْتَ مَثَابَةً لِّلنَّاسِ وَ اَمْنًا﴾ ၄င်းပြင်ငါအရှင်မြတ်သည် ယင်းအိမ်တော်ကို လူအပေါင်းစုဝေးရာနေရာအဖြစ်လည်းကောင်း၊ ဘေးရန် ကင်းငြိမ်းရာနေရာအဖြစ်လည်းကောင်း ပြုလုပ်ထားတော်မူသည်။ ❸ အကျိုးဆုလာဘ်။

[اَلْمَثُوبَةُ ـ اَلْمَثْوَبَةُ]အကျိုးဆုလာဘ်။

﴿لَمَثُوبَةٌ مِّنْ عِنْدِ اللّٰهِ خَيْرٌ﴾ အမှန်ပင် အလ္လာဟ်အရှင်မြတ်အထံတော်မှ အကျိုးဆုလာဘ်သည် သာ၍ကောင်းမြတ်လှ၏။

✿ [ثَارَ ـُ] ❶ ထကြွပြန့်နှံ့သည်၊ ပြန့်ကြဲသည်။ လွင့်စင်ပြန့်နှံ့သည်။ [ـ الْغُبَارُ]ဖုံတထောင်းထောင်းထသည်။ ❷ [ـ الْمَاءُ](ရေ)ပန်းထွက်သည်။ ❸ [ـبِهِ النَّاسُ](သူ့ကို လူအများက)ဝိုင်းဝန်း တိုက်ခိုက်ကြသည်။

[ثَوَرَانٌ ـ ثَوْرٌ ـ ثَوْرَةٌ] ❶ ထကြွပြန့်နှံ့ခြင်း။ ပြန့်ကြဲခြင်း။ လွင့်စင်ပြန့်နှံ့ခြင်း။ ❷ (ရေ)ပန်းထွက်ခြင်း။ ❸ (သူ့ကို လူအများက)ဝိုင်းဝန်းတိုက်ခိုက်ကြခြင်း။

[اَثَارَ] ❶ ထကြွပြန့်နှံ့စေသည်။ ပြန့်ကြဲစေသည်။ လွင့်စင်ပြန့် နှံ့စေသည်။ ❷ [ـ الْاَرْضَ](စိုက်ပျိုးရန် မြေကို)ထွန်ယက်သည်။﴿وَ اَثَارُوْا الْاَرْضَ وَ عَمَرُوْهَا﴾ထို့ပြင် ထိုသူတို့သည် မြေကို ထွန်ယက်စိုက်ပျိုးခဲ့ကြပြီး စည်ပင်သာယာအောင် ပြုလုပ်ခဲ့ကြသည်။ ❸ စနစ်တကျ စူးစမ်းလေ့လာသည်။ နိုက်နိုက်ချွတ်ချွတ် လေ့လာသည်။

[ثَاوَرَ] ခုန်အုပ်တိုက်ခိုက်သည်။

[ثَوَّرَ] ထကြွပြန့်နှံ့စေသည်။ ပြန့်ကြဲစေသည်။ လွင့်စင်ပြန့် နှံ့စေသည်။

[تَثَاوَرَ] တစ်ဦးအပေါ်တစ်ဦး ခုန်အုပ်တိုက်ခိုက်သည်။

[اَلثَّوْرُ] ❶ နွားထီး။(ج)[ثِيَرَةٌ-ثِيرَانٌ-ثِيرَةٌ]။ ❷ နွားသဏ္ဍာန် နက္ခတ်တစ်ခု၏အမည်။

[اَلثَّوْرَةُ] နိုင်ငံရေးသို့မဟုတ် လူမှုရေးဆိုင်ရာ ပြုပြင်ပြောင်းလဲမှု၊ တော်လှန်ရေး။

[اَلْمَثْوَرَةُ] နွားပေါသောဒေသ။(ج)[مَثَاوِرُ]။

✽ [ثَاعَ ـُ] စီးတွေသည်။

[ثَوْعٌ] စီးတွေခြင်း။

✽ [ثَالَ ـُ] ❶ ရှုးသွပ်သည့် လက္ခဏာပြသည်။ ❷ ထူထိုင်းနှုံအသည်။ ❸ [ـالشَّيْءَ]စုပြုံကျရောက်စေသည်။

[ثَوْلٌ] ❶ ရှုးသွပ်သည့် လက္ခဏာပြခြင်း။ ❷ ထူထိုင်းနှုံအခြင်း။ ❸ စုပြုံကျရောက်စေခြင်း။

[ثَوِلَ ـَ] ❶ ရှုးသွပ်သည်။ ❷ တုန်ခါလှုပ်ရှားသည်။

[ثَوَلٌ] ❶ ရှုးသွပ်ခြင်း။ ❷ တုန်ခါလှုပ်ရှားခြင်း။

[اَثْوَلُ] ❶ ရှုးသွပ်သော(သူ)။ ❷ တုန်ခါလှုပ်ရှားသော(သူ၊ အရာ)။(م)[ثَوْلَاءُ]။ (ج)[ثُوْلٌ]။

[اِنْثَالَ] အစုလိုက်၊ အပြုံလိုက် ကျရောက်သည်။ အစုလိုက်၊ အပြုံလိုက် ရောက်ရှိလာသည်။[اِنْثَالَ عَلَيْهِ النَّاسُ](သူ့ထံ လူအများ) အဘက်ဘက်မှ ရောက်ရှိလာကြသည်။ [اِنْثَالَتْ عَلَيْهِ الْاَفْكَارُ]အကြံဉာဏ်များ ဆက်တိုက်ပေါ်ပေါက်သဖြင့် မည်သည့်အရာကို စတင်ဆောင်ရွက်ရမှန်းမသိဖြစ်သည်။

[اِنْثَالَتْ عَلَيْهِ الْعِبَارَةُ]ပြောရမည့်စကားများ ဆက်တိုက်ပေါ်ပေါက်သဖြင့် မည်သည့် စကားကို စတင်ပြောဆိုရမှန်းမသိဖြစ်သည်။

[تَثَوَّلَ] အစုလိုက်၊ အပြုံလိုက် ကျရောက်သည်။ အစုလိုက်၊ အပြုံလိုက် ရောက်ရှိလာသည်။

[اَلْاَثْوَلُ] အသိဉာဏ်ခေါင်းပါး၍ အလွန်နှေးကွေးလေးလံသူ၊ တုန်ချိတုန်ချိဖြင့် နှေးကွေးစွာလုပ်ကိုင်ဆောင်ရွက်သူ။

[اَلثَّوْلُ] ပျားအုပ်။

[اَلثُّوَيْلَةُ] လူစုလူဝေး။[اَتَى ثُوَيْلَةٌ مِنَ النَّاسِ] လူအုပ်ကြီး ရောက်ရှိလာသည်။

✽ [اَلثُّوْمُ] ကြက်သွန်ဖြူ။

✽ [اَلثُّوَيْنَى] မုန့်လုပ်ရန်အတွက် နယ်ပြီးသားဂျုံမှုန့်ညက်အောက်၌ ဖြူးထားသော ဂျုံမှုန့်၊ ဆန်မှုန့်စသည်။

✽ [ثَوَى ـِ] ❶ အတည်တကျနေထိုင်သည်၊ နားခိုနေထိုင်သည်။﴿وَمَا كُنْتَ ثَاوِيًا فِىٓ اَهْلِ مَدْيَنَ﴾ အသင်သည် မဒ်ယာန်မြို့သားများနှင့်အတူ နေထိုင်ခဲ့သူမဟုတ်ချေ။ ❷ ပျက်စီးသည်။

[ثَوَاءٌ-ثُوِيٌّ] ❶ အတည်တကျနေထိုင်ခြင်း။ နားခိုနေထိုင်ခြင်း။ ❷ ပျက်စီးခြင်း။

[اَثْوَى] ❶ အတည်တကျနေထိုင်စေသည်။ နေရာထိုင်ခင်းပေးသည်။ ❷ အတည်တကျနေထိုင်သည်။

[ثَوَّى] အတည်တကျနေထိုင်စေသည်။ နေရာထိုင်ခင်းပေးသည်။

[اَلثَّايَةُ] ❶ တိရစ္ဆာန်များအား လေနှင့်အအေးဒဏ်ကို အကာအကွယ်ပေးရန် ပတ်ပတ်လည်ကာရံထားသောခြံ၊ ကုလားအုပ်ခြံ၊ နွားခြံစသည်။ ❷ လမ်းဘေး၌ ထောင်ထားသော

လမ်းညွှန်ကျောက်တုံး၊ သို့မဟုတ် လမ်းညွှန်ကျောက်တိုင်။ ❸ အရိပ်ခိုရန်အတွက် အဝတ်နှင့်သစ်ဝါးစသည်တို့ဖြင့် ပြုလုပ်ထားသော ယာယီအရိပ်ခိုသည့်နေရာ။ ❹ ပင်လယ်ကမ်းခြေ၌ ဆော့ကစားရသည့် တစ်ယောက်စီးလှေငယ်။

[اَلثُّوَّةُ] တောင်ပူစာငယ်။ ကုန်းမြေမြင့်၊(များသောအားဖြင့် ယင်းတောင်ပူစာပေါ်၌ လမ်းညွှန်အမှတ်အသားအဖြစ် ကျောက်တုံးကို တင်ထားသည်။)(ج) [ثُوًى]။

[اَلثَّوِىُّ] ❶ အတည်တကျ နေထိုင်သူ။ ❷ ဧည့်သည်။ (ج)[اَثْوِيَاءُ](م)[اَلثَّوِيَّةُ]။ (ج) [ثَوَايَا]။ ❸ ဧည့်သည်အတွက် အသင့်ပြင်ဆင်ထားသောအိမ်။ (ج)[اَثْوِيَةٌ]။

[اَلْمَثْوَى] နေထိုင်ရာနေရာ။ အိမ်။ နေရာထိုင်ခင်း။ နားခိုရာနေရာ။

﴿اَلَيْسَ فِى جَهَنَّمَ مَثْوًى لِلْكَافِرِيْنَ﴾ငြင်းပယ်သူတို့အဖို့ ငရဲဘုံ၌ နေရာထိုင်ခင်းရှိသည်မဟုတ်လော။[اَبُو الْمَثْوَى]အိမ်ရှင်။[اُمُّ الْمَثْوَى]အိမ်ရှင်မ။

✽ [ثَيَّبَ] ကြည့်[ث و ب]။

[تَثَيَّبَ] ကြည့်[ث و ب]။

[اَلثَّيِّبُ] ကြည့်[ث و ب]။

✽ [اَلثَّيْلُ] မြေလျှောက်ပင်တစ်မျိုး။

[اَلثَّيِّلُ] မြေလျှောက်ပင်တစ်မျိုး။

✽ [اَلثَّيْنُ] ❶ ပုလဲငုတ်သူ၊ ပင်လယ်မှ ပုလဲကို ထုတ်ယူသူ။ ❷ ပုလဲကို အပေါက်ဖေါက်သူ။ ❸ ပုလဲကို အပေါက်ဖေါက်သည့် ကိရိယာ။


مثاب البئر


ثفال


مثلجة


ثغرة


مثلّث متساوي الاضلاع


مثلّث متساوي الساقين


مثلّث قائم الزاوية


ثقوب


مثلّث منحرف


طريقة رسم مثلّث متساوي الاضلاع


ثناء


اثني عشري


ثقاب


ثفر


مثقب


مثمّن


طريقة رسم مثمّن


ثدام


ثريّا


عنب الثعلب


ثيّل




الثمرة واقسامها


ثعلب


ثوم


ثور

## ﴿الجيم﴾

✽ [ج] ပဥ္စမမြောက် အရဗီဗျည်းအက္ခရာ။ (ယင်းအက္ခရာ၏ ဌာန်နှင့်ကရိုဏ်းမှာ အာခေါင်မာနှင့် လျှာလယ်တို့ဖြစ်သည်။)

✽ [الْجَارُ وْلِيْنُ] ဂဆိုလင်။ လောင်စာဆီတစ်မျိုး။

✽ [جِئْ جِئْ] ကုလားအုတ်ကို ရေတိုက်ရန် ခေါ်သည့်အသံ။

[جَاجَا] ကုလားအုတ်ကို ရေတိုက်ရန် 'ဂျိအ် ဂျိအ်' ဟုခေါ်သည်။

[تَجَاجَا] [ـعَنْ كَذَا] တို့ဆိုင်းရပ်တန့်သည်။

[اَلْجُؤْجُؤُ] ❶ ရင်ညွှန့်ရိုး။ ❷ သင်္ဘောဦးပိုင်း။ (ج) [جَآجِى]။

✽ [جَأَبَ ـَ] ❶ အရောင်ဆိုးဆေးအဖြစ် အသုံးပြုရသောမြေမှုန့်ကို ရောင်းသည်။ ❷ ဥစ္စာပစ္စည်း ရှာဖွေဆည်းပူးသည်။

[جَأْبٌ] ❶ အရောင်ဆိုးဆေးအဖြစ် အသုံးပြုရသောမြေမှုန့်ကို ရောင်းခြင်း။ ❷ ဥစ္စာပစ္စည်း ရှာဖွေဆည်းပူးခြင်း။

[اَلْجَأْبُ] ❶ အရောင်ဆိုးဆေးအဖြစ် အသုံးပြုရသောမြေမှုန့်။ ❷ [جَأْبَةُ الْبَطْنِ] ချက်။ ❸ ခက်ထန်ကြမ်းတမ်းသော(အရာ)။ ❹ ခြင်္သေ့။ ❺ တောမြည်း။ (م)[جَأْبَةٌ]။ (ج) [جُئُوْبٌ]။

✽ [جَأَتَ ـَ] ❶ [ـبِحَمْلِه] လေးလံသောဝန်ကို သယ်ဆောင်သွားသည်။ ❷ [ـالرَّجُلُ] သတင်းများကို သယ်ယူပို့ဆောင်သည်။

[جَأْتٌ] ❶ (လေးလံသောဝန်ကို) သယ်ဆောင်သွားခြင်း။ ❷ သတင်းများကို သယ်ယူပို့ဆောင်ခြင်း။

[جَائِتٌ ـ جَأَّتٌ] ❶ (လေးလံသောဝန်ကို) သယ်ဆောင်သွားသော(သူ)။ ❷ သတင်းများကို သယ်ယူပို့ဆောင်သော(သူ)။

[جَئِثَ ـَ] ❶ လေးလံစွာ ထသည်။ မနိုင့်တနိုင် မတ်တတ်ရပ်သည်။ ❷ ဝန်ပိသည်။

[جَأْثٌ] ❶ လေးလံစွာ ထခြင်း။ မနိုင့်တနိုင် မတ်တတ်ရပ်ခြင်း။ ❷ ဝန်ပိခြင်း။

[جُئِثَ] တုန်လှုပ်ခြောက်ခြားသည်။ အထိတ်တလန့်ဖြစ်သည်။

[جُئُوْثٌ] တုန်လှုပ်ခြောက်ခြားခြင်း။ အထိတ်တလန့်ဖြစ်ခြင်း။

[مَجْئُوْثٌ] တုန်လှုပ်ခြောက်ခြားသော(သူ)။ အထိတ်တလန့်ဖြစ်သော(သူ)။

[اَجْأَثَ] [ـهُ الْحِمْلُ] လေးလံစေသည်။ ဝန်ပိစေသည်။

[اِنْجَأَثَ] [ـالنَّخْلُ] (စွန်ပလွံပင်)ပြိုလဲကျသည်။

[اَلْجَثَّاثُ] ❶ လေးလံနှေးကွေးစွာ လမ်းလျှောက်သူ။ ❷ အလွန်အကျင့်စာရိတ္တ ယိုယွင်းပျက်စီးသူ။

✽ [اَلْجُؤْذَرُ] နွားရိုင်းပေါက်စ။ (ج) [جَآذِرُ]။

✽ [جَأَرَ ـَ] ❶ အသံကို မြှင့်တင်သည်။ အော်သည်။ [ـالْبَقَرُ] (နွား)အော်သည်။ ❷ [ـاِلَى اللهِ] (အလ္လာဟ်အရှင်မြတ်ထံ)ရှိကျိုးစွာဖြင့် အကူအညီတောင်းခံသည်။ ❸ [ـالنَّبْتُ] (အပင်) ရှည်လျားသည်။

[جَأْرٌ ـ جُؤَارٌ] ❶ အသံကို မြှင့်တင်ခြင်း။ အော်ခြင်း။ ❷ (အလ္လာဟ်အရှင်မြတ်ထံ)ရှိကျိုးစွာဖြင့် အကူအညီတောင်းခံခြင်း။ ❸ (အပင်) ရှည်လျားခြင်း။

[جَئِرَ ـَ] လည်ချောင်း၌ တစ်ဆို့နေသည်။ ရင်ခံသည်။ လည်ချောင်းနှင်သည်။

[جَئْرٌ] လည်ချောင်း၌ တစ်ဆို့နေသည်။ ရင်ခံသည်။ လည်ချောင်းနှင်သည်။

[اَلْجُؤَارُ] အထက်လှန်အောက်လျှောဖြစ်ခြင်း။ အန်၍ ဝမ်းသွားခြင်း။

[اَلْجَارُ] ❶ ခက်ထန်ကြမ်းတမ်းသူ။ ❷ ထူထပ်သိပ်သည်းသော မိုးတိမ်။ ❸ ပြည့်ဖြိုးနူးညံ့သောအပင်။

[اَلْجَائِرُ] ❶ လည်ချောင်း၌ တစ်စုံတစ်ရာတစ်ဆို့နေသူ။ ❷ လည်ချောင်း၌ ခံစားရသော ပူလောင်မှု။

✿ [جَئِزَ ـَ] [ـبِالْمَاءِ](ရေ)လည်ချောင်း၌ တစ်ဆို့သည်။ လည်ချောင်းနှင်သည်။

[جَأْزٌ - جَأَزٌ] (ရေ)လည်ချောင်း၌ တစ်ဆို့ခြင်း။ လည်ချောင်းနှင်ခြင်း။

[جَئِزٌ - جَئِيزٌ] (ရေ)လည်ချောင်း၌ တစ်ဆို့သော(သူ)။ လည်ချောင်း နှင်သော(သူ)။

[اَجْأَزَ] လည်ချောင်း၌ တစ်ဆို့စေသည်။ လည်ချောင်းနှင်စေသည်။

✿ [جَأَشَ ـَ] ❶ [ـتْ نَفْسُهُ]အလွန်ပူဆွေးသောကရောက်သဖြင့် သတိမေ့လုမတတ်ဖြစ်သည်။ အကြောက်လွန်သဖြင့် စိတ်လှုပ်ရှား၍ သတိလက်လွတ်ဖြစ်သည်။ ❷ ရောက်ရှိလာသည်။ လာရောက်ရင်ဆိုင်တွေ့ဆုံသည်။

[جَأْشٌ] ❶ အလွန် ပူဆွေးသောကရောက်သဖြင့် သတိမေ့လုမတတ်ဖြစ်ခြင်း။ အကြောက်လွန်သဖြင့် စိတ်လှုပ်ရှား၍ သတိလက်လွတ်ဖြစ်ခြင်း။ ❷ ရောက်ရှိလာခြင်း။ လာရောက်ရင်ဆိုင်တွေ့ဆုံခြင်း။

[اَلْجَأْشُ] စိတ်၊ နှလုံး။ [هُوَ رَابِطُ الْجَأْشِ] သူဟာ ဒုက္ခအခက်အခဲတွေကို ကြံ့ကြံ့ခံရင်ဆိုင်နိုင်တဲ့သူဖြစ်တယ်။

[اَلْجُؤْشُوشُ] ❶ ရင်ဘတ်။ ❷ ခက်ထန်ကြမ်းတမ်းသည့်ယောက်ျား။ ❸ (နေ့သို့မဟုတ်ည၏)အစိတ်အပိုင်း။

✿ [جَأَفَ ـَ] ❶ နပမ်းသတ်၍ လှဲချသည်။ မြေကြီးပေါ်သို့ တွန်းလှဲချသည်။ ❷ တုန်လှုပ်ခြောက်ခြားစေသည်။ ❸ [ـالشَّجَرَةَ](အပင်ကို)အမြစ်ပါမကျန်အောင် နုတ်သည်။

[جَأْفٌ] ❶ နပမ်းသတ်၍ လှဲချခြင်း။ မြေကြီးပေါ်သို့ တွန်းလှဲချခြင်း။ ❷ တုန်လှုပ်ခြောက်ခြားစေခြင်း။ ❸ (အပင်ကို)အမြစ်ပါမကျန်အောင် နုတ်ခြင်း။

[جَئِفَ] ❶ တုန်လှုပ်ခြောက်ခြားသည်။ ❷ ဆာလောင်သည်။

[جَأْفٌ - جُؤَافٌ] ❶ တုန်လှုပ်ခြောက်ခြားခြင်း။ ❷ ဆာလောင်ခြင်း။

[جَأَّفَ] တုန်လှုပ်ခြောက်ခြားစေသည်။

[مُجَأَّفٌ] ❶ တုန်လှုပ်ခြောက်ခြားသော(သူ)။ ❷ နှလုံးသားမရှိသူ။

[اِجْتَأَفَ] နပမ်းသတ်၍ လှဲချသည်။ မြေကြီးပေါ်သို့ တွန်းလှဲချသည်။

[اِنْجَأَفَ] [ـتِ الشَّجَرَةُ](သစ်ပင်)အမြစ်ပါမကျန်အောင် ကျွတ်ထွက်သည်။

✿ [جَيْئَلُ] ခွေးအ။

[جَيْئَلَةُ] ခွေးအ။

[اَلْجَيْئَلُ] ထူထဲကြမ်းတမ်းသော(အရာ)။

✿ [جَاَى -] ❶ ကိုက်သည်။ ❷ [ـ الشَّىءَ]ထိန်းသိမ်းထားသည်။ သိမ်းဆည်းချုပ်ကိုင်ထားသည်။ ❸ ဖုံးအုပ်၊ ဖုံးဖိထားသည်။ လျှို့ဝှက်ထားသည်။ ❹ [ـ الثَّوْبَ](အဝတ်ကို)ချုပ်၍ပြုပြင်ဖာထေးသည်။ ❺ [ـ السِّقَاءَ](ရေပုံး၊ ဖိနပ်ကို)သားရေစ၊ သို့မဟုတ် အဝတ်စဖြင့်ခံ၍ဖာထေးသည်။ ❻ [ـ القِدْرَ](အိုးကိုတင်ရန်)သားရေစကို ခံထားသည်။ ❼ [ـ الغَنَمَ](သိုးကို)ထိန်းသိမ်းသည်။

[جَأْىٌ] ❶ ကိုက်ခြင်း။ ❷ ထိန်းသိမ်းထားခြင်း။ သိမ်းဆည်းချုပ်ကိုင်ထားခြင်း။ ❸ ဖုံးအုပ်၊ ဖုံးဖိထားခြင်း။ လျှို့ဝှက်ထားခြင်း။ ❹ (အဝတ်ကို)ချုပ်၍ ပြုပြင်ဖာထေးခြင်း။ ❺ (ရေပုံး၊ ဖိနပ်ကို)သားရေစ၊ သို့မဟုတ် အဝတ်စဖြင့် ခံ၍ဖာထေးခြင်း။ ❻ (အိုးကိုတင်ရန်)သားရေစကို ခံထားခြင်း။ ❼ (သိုးကို) ထိန်းသိမ်းခြင်း။

[جَئِىَ -] (မြင်း)နီညိုရောင်သန်းသည်။

[جَئًى - جُؤْوَةٌ] (မြင်း)နီညိုရောင်သန်းခြင်း။

[أَجْأَى] နီညိုရောင်သန်းသော(မြင်း)။ (မ) [جَأْوَاءُ]။

[أَجْأَى] [ـ القِدْرَ](အိုးကို တင်ရန်)သားရေစကို ခံထားသည်။

[الجِئَاوَةُ] (အိုးကို တင်ရန်)ပြုလုပ်ထားသော သားရေစ။ (မ) [جِئَاءٌ]။

[الجِئْوَةُ] ဖာထေးရန် အသုံးပြုရသောသားရေစ၊ သို့မဟုတ်အဝတ်စ။ (မ) [جِئَاءٌ]။

✿ [جَبَا -] ❶ [ـ السَّيْفُ](ဓါး)ခုတ်ချက် လွဲချော်သည်။ တလွဲတချော်ခုတ်မိသည်။ ❷ [عَنِ الشَّىءِ]တစ်စုံတစ်ရာကို ကြောက်ရွံ့၍ ရှောင်ပြေးပုန်းအောင်းသည်။ ❸ [ـ عَلَيْهِ]ရုတ်တရက် ထွက်ပေါ်လာသည်။ ပြုန်းစားကြီး ပေါက်ချလာသည်။ ❹ [ـ تِ الحَيَّةُ](မြွေ)လျှို့ဝင်ကွယ်ပျောက်သည်။ ❺ [ـ الشَّىءَ]ရှုံ့မှုန်းသည်။ ❻ [ـ عُنُقَهُ](လည်ပင်းကို)ငုံ့စောင်းထားသည်။ ယိမ်းထားသည်။

[جَبْوٌ - جُبُوءٌ] ❶ (ဓါး)ခုတ်ချက် လွဲချော်ခြင်း။ တလွဲခုတ်မိခြင်း။ ❷ တစ်စုံတစ်ရာကို ကြောက်ရွံ့၍ ရှောင်ပြေးပုန်းအောင်းခြင်း။ ❸ ရုတ်တရက် ထွက်ပေါ်လာခြင်း။ ပြုန်းစားကြီး ပေါက်ချလာခြင်း။ ❹ (မြွေ)လျှို့ဝင်ကွယ်ပျောက်ခြင်း။ ❺ ရှုံ့မှုန်းခြင်း။ ❻ (လည်ပင်းကို)ငုံ့စောင်းထားခြင်း။ ယိမ်းထားခြင်း။

[أَجْبَأَ] ❶ [ـ تِ الأَرْضُ](မြေ၌)အင်ဥပေါများသည်။ ❷ [ـ عَلَيْهِمْ](၎င်းတို့ကို)အပေါ်စီးမှ လှမ်းမျှော်ကြည့်သည်။ ❸ [ـ الزَّرْعَ] စိုက်ခင်းကို သီးနှံဖြစ်ထွန်းခြင်းမရှိမီ ရောင်းချသည်။ ❹ [ـ الشَّىءَ]ဖုံးကွယ်လျှို့ဝှက်ထားသည်။ ထိန်ချန်ထားသည်။

[الجَبْءُ] တောင်ပေါ်၌ ရေတင်ကျန်နေသောတွင်းငယ်။ တောင်ပေါ်၌ ဖြစ်ပေါ်နေသောရေကန်ငယ်။(ဇ)[أَجْبُؤٌ - جِبَأَةٌ]။

[الجَبْأَةُ] ❶ အင်ဥတစ်မျိုး။ ❷ ဖိနပ်ပြုလုပ်သူ ဖိနပ်သားရေကို ဖြတ်ရာ၌ အောက်ခံအဖြစ်အသုံးပြုသော သစ်သား။

[الجَبَّاَى] ရင်သား မို့မောက်သောမိန်းမ။

[الجُبَّأُ] သတ္တိကြောင်သူ၊ သူရဲဘောကြောင်သူ။

[اَلْجَبَّاءُ] သတ္တိကြောင်သူ၊ သူရဲဘောကြောင်သူ။

✿ [جَبَّ ـُ] ❶ ဖြတ်တောက်သည်။ ပယ်ဖြတ်သည်။[اَلْاِسْلَامُ يَجُبُّ مَاقَبْلَهُ]အစ္စလာမ်သည် သူ့အလျင် ရှိခဲ့သောအရာများကို ဖြတ်တောက်သည်။(အစ္စလာမ်ကို လက်ခံယုံကြည်ခြင်းသည် မယုံကြည်မီက ပြုမူခဲ့သမျှ အပြစ်များကို ပလပ်ပယ်ဖျက်သည်။) ❷ [ـ النَّخْلَ]လွှမ်းမိုးအောင်နိုင်သည်။ ❸ [ـ فُلَانًا] (စွန်ပလွံပင်ကို)ဝတ်မှုံ့ကူးပေးသည်။

[جَبٌّ ـ جِبَابٌ] ❶ ဖြတ်တောက်ခြင်း။ ❷ လွှမ်းမိုးအောင်နိုင်ခြင်း။ ❸ (စွန်ပလွံပင်ကို)ဝတ်မှုံ့ကူးပေးခြင်း။

✿ [جَبِّ ـَ] [ـ الْبَعِيرُ](ကုလားအုပ်၏)ဘို့ ပြတ်တောက်သည်။

[جَبَبٌ] (ကုလားအုပ်၏)ဘို့ ပြတ်တောက်ခြင်း။

[اَجَبُّ] ဘို့ ပြတ်တောက်နေသော(ကုလားအုပ်)။(မ)[جَبَّاءُ]။(ဇ)[جُبٌّ]။ [اِمْرَاَةٌ جَبَّاءُ] တင်သား၊ ရင်သား၊ ပေါင်သား ဖွံ့ဖြိုးမှုမရှိသော မိန်းမ။

[اَجَبَّ] [ـ اللَّبَنُ](နို့)မလိုင်ကဲ့သို့ အဆီအနှစ်တက်သည်။

[جَابَّ] (တစ်ဦးနှင့်တစ်ဦး)ပြိုင်ဆိုင် အနိုင်ယူသည်။

[مُجَابَّةٌ ـ جِبَابٌ](တစ်ဦးနှင့်တစ်ဦး)ပြိုင်ဆိုင်အနိုင်ယူခြင်း။

[جَبَّبَ] ❶ အလျှင်အမြန် ထွက်ပြေးသည်။ ❷ [ـ الْفَرَسُ](မြင်း)ခြေထောက်ရှိ အဖြူကွက်ဒူးအထိရောက်သည်။

[اِجْتَبَّ] ❶ အပေါ်ရှိလက်ပွအင်္ကျီကို ဝတ်ဆင်သည်။ ❷ [ـ الشَّيْءَ]ဖြတ်တောက်သည်။

[اِنْجَبَّ] ပြတ်တောက်သည်။

[تَجَابَّ] တစ်ဦး၏နှမကို တစ်ဦးလက်ထပ်သည်။(လူနှစ်ယောက် မိမိ၏နှမကို အခြားတစ်ယောက်နှင့် လက်ထပ်စေပြီး မိမိနှမနှင့် လက်ထပ်သူ၏နှမကို အပြန်အလှန် လက်ထပ်ယူသည်။ အစ်မနှမချင်း ဖလှယ်၍ လက်ထပ်သည်။)

[اَلْجَبَابُ] အလွန်ဆိုးရွားသော မိုးခေါင်ရေရှားမှု၊ အငတ်ဘေး။

[اَلْجُبَابُ] ❶ အလွန်ဆိုးရွားသော မိုးခေါင်ရေရှားမှု၊ အငတ်ဘေး။ ❷ အချည်းနှီး၊ အလဟဿဖြစ်သော(အရာ)။ ❸ မလိုင်ကဲ့သို့ နို့၌ဖြစ်ပေါ်သော အဆီအနှစ်။

[اَلْجُبُّ] အလွန်နက်၍ ကျယ်သောရေတွင်း။ တွင်းနက်ကြီး။

﴿وَ اَلْقُوهُ فِى غَيَابَةِ الْجُبِّ﴾ငှင်းပြင် အသင်တို့သည် သူ့ကို ရေတွင်းကြီးတစ်ခု၏ အတွင်းအောက်ခြေသို့ ပစ်ချကြလေကုန်။(ဇ)[جِبَبَةٌ ـ اَجْبَابٌ ـ جِبَابٌ]။

[اَلْجُبَّانِيَّةُ] ရုဇစ်စတာန်ဒေသရှိ ဂျုတ်ဇ်ဗာအမည်ရှိရွာ၌မွေးဖွား၍ ဟိဂျ်ရီသက္ကရာဇ်(၃၀၃)ခုနှစ်၌ ကွယ်လွန်ခဲ့သော အဘူအလီမုဟမ္မဒ် အိဗ်နုအဗ်ဒိလ်ဝဟာဗ်ဟားဗ်၏နောက်လိုက်များဖြစ်ကြသော ဘဆ္ဆရဟ်မြို့နေ မုအ်တဇိလဟ်ဂိုဏ်းတစ်ခု၏အမည်။

[اَلْجُبَّةُ] ❶ (တိုက်ပုံအင်္ကျီကဲ့သို့) အတွင်းအင်္ကျီ အပေါ်၌ထပ် ၍ခြုံဝတ်ရသော ရှေ့ခွဲ

လက်ပွအကျီ။ ❷ သံချပ်အကျီ။ ❸ မျက်ခုံး ရိုး။ ❹ (အိမ်၏)အလယ်ဗဟို။ ❺ လှံသွားစိုက် ဝင်ထားသည့်နေရာ။ ❻ ခြေသလုံးနှင့် ပေါင် အကြားရှိအဆစ်။ (ج)[جُبَبٌ ـ جِبَابٌ]။

[اَلْجبُوْبُ] ❶ ကြမ်းတမ်းသောမြေကြီး။ ❷ မြေကြီး။

[اَلْمَجَبَّةُ] လမ်း၏အလယ်ဗဟို။

❁ [اَلْجِبْتُ] ❶ အလ္လာဟ်အရှင်မြတ်မှအပ အ ခြားကိုးကွယ်ခံရသူ။ ရုပ်ပွားဆင်းတု။ ﴿يُؤْمِنُوْنَ بِالْجِبْتِ وَالطَّاغُوْتِ﴾ ၎င်းတို့သည် ရုပ်ပွားဆင်းတုများကိုလည်းကောင်း၊ မိစ္ဆာတို့ ကိုလည်းကောင်း ယုံကြည်ကြကုန်၏။ ❷ ရှေ့ဖြစ်နောက်ဖြစ်ဟောသူ။ ဗေဒင်ဆရာ။ ❸ ပရောဂအတတ်ဖြင့်ပြုစားသူ။ ❹ ပဥ္စလက် ဆရာ။ ❺ ပရောဂအတတ်။

❁ [جَبْجَبَ] ❶ ဝဖြိုးသည်။ ❷ တရားအား ထုတ်သောအားဖြင့် ခရီးထွက်သည်။ ကျင့် ကြံအားထုတ်မှုအလို့ငှာ ခရီးထွက်သည်။

[اَلْجَبْجَبَةُ] အသားကို ပြုတ်၍ အပိုင်းပိုင်း ဖြတ်ကာ အခြောက်ခံထားသော ခရီးရိက္ခာ။ (ج)[جَبَاجِبُ]။

[اَلْجُبْجُبَةُ] ❶ အသားကို ပြုတ်၍ အပိုင်းပိုင်း ဖြတ်ကာ အခြောက်ခံထားသော ခရီးရိက္ခာ။ ❷ ကုလားအုပ်ကို ရေတိုက်ရန်အသုံးပြုရ သောရေအိုင်။ မြေသည်ရန် သားရေဖြင့် ပြု လုပ်ထားသော ပုံး၊ ခွက်။(ج)[جَبَاجِبُ]။

[اَلْجَبْخَانَةُ] လက်နက်ခဲယမ်းသိုလှောင်ထား ရှိသောနေရာ၊ လက်နက်တိုက်။

❁ [جَبَذَ ـ] ❶ [الْعِنَبُ ـ](သဗျစ်သီး)အလုံး သေးပြီး သွေ့ခြောက်သည်။ ❷ ဆောင့်ဆွဲ သည်။ ဆွဲဆန့်သည်။

[جَبْذٌ] ❶ (သဗျစ်သီး)အလုံးသေး၍ သွေ့ ခြောက်ခြင်း။ ❷ ဆောင့်ဆွဲခြင်း။ ဆွဲဆန့်ခြင်း။

[اِجْتَبَذَ] ဆွဲဆန့်သည်။ ဆွဲငင်သည်။

[اِنْجَبَذَ] ဆန့်ထွက်လာသည်။ ရှည်ထွက် လာသည်။

❁ [جَبَرَ ـ] ❶ ပြန်လည်ကောင်းမွန်လာသည်။ အဆင်ပြေလာသည်။[الْعَظْمُ الْكَسِيْرُ ـ](ကျိုး သွားသောအရိုး)ပြန်လည်ကောင်းမွန်လာ သည်။ [الْفَقِيْرُ ـ](ဆင်းရဲသား)ပြန်၍ ချောင် လည်လာသည်။ ❷ ပြန်လည်ကောင်းမွန်လာ စေသည်။ အဆင်ပြေစေသည်။[الْعَظْمَ الْكَسِيْرَ ـ] ကျိုးသွားသောအရိုးကို ပြန်လည်ကောင်းမွန် လာအောင်လုပ်သည်။[الْفَقِيْرَ ـ]ဆင်းရဲသား ကို ပြန်၍ချောင်လည်လာစေသည်။ ချောင် လည်လာအောင် ဆောင်ရွက်ပေးသည်။ ❸ ကျောက်ပတ်တီး စည်းပေးသည်။ ❹ [مَافَقَدَه ـ] ပျောက်ဆုံးသွားသောပစ္စည်းအတွက် အစား ပြန်ပေးသည်။ ❺ [الْأَمْرَ ـ]အမှုကိစ္စတစ်စုံ တစ်ရာကို တော်တည့်မှန်ကန်အောင်ဆောင် ရွက်စီမံပြီး မပျက်မယွင်းရလေအောင် ထိန်း သိမ်းကာကွယ်သည်။ ❻ [ـ فُلَانًا عَلَى الْأَمْرِ](တစ် ဦးတစ်ယောက်ကို တစ်စုံတစ်ရာပြုမှုဆောင် ရွက်ရန်)အတင်းအကြပ် ခိုင်းစေသည်။

[جَبْرٌ ـ جُبُوْرٌ] ❶ ပြန်လည် ကောင်းမွန်လာခြင်း။ အဆင်ပြေခြင်း။ ❷ ပြန်လည်ကောင်းမွန် လာစေခြင်း။ အဆင်ပြေစေခြင်း။ ❸ ကျောက်ပတ်တီးစည်းပေးခြင်း။ ❹ ပျောက်

ဆုံးသွားသောပစ္စည်းအတွက် အစားပြန်ပေးခြင်း။ ❺ အမှုကိစ္စတစ်စုံတစ်ရာကို တော်တည့်မှန်ကန်အောင် ဆောင်ရွက်စီမံပြီး မပျက်မယွင်းရလေအောင် ထိန်းသိမ်းကာကွယ်ခြင်း။ ❻ (တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာ ပြုမူဆောင်ရွက်ရန်)အတင်းအကြပ်နိုင်းစေခြင်း။

[اَجْبَرَ] ❶ [ـه عَلَى الأمْرِ]အတင်းအကြပ်နိုင်းစေသည်။ ❷ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)ဂျဗ်ရီယဟ်ဂိုဏ်းသားဟု စွပ်စွဲသည်။

[جَبَّرَ] [ـالْعَظْمَ](အရိုးကို)ကောင်းလာအောင်ပြုလုပ်သည်။ ကျောက်ပတ်တီး စည်းသည်။

[اِجْتَبَرَ] ❶ [ـالْعَظْمُ](အရိုး)ပြန်လည်ကောင်းမွန်လာသည်။ ❷ [ـالْعَظْمَ](အရိုးကို) ကောင်းလာအောင်ပြုလုပ်သည်။ ကျောက်ပတ်တီးစည်းသည်။ ❸ [ـفُلَانٌ]ဆင်းရဲဒုက္ခရောက်ပြီးနောက် ပြန်ချောင်လည်လာသည်။

[اِنْجَبَرَ] ❶ [ـالْعَظْمُ](အရိုး)ပြန်လည်ကောင်းမွန်လာသည်။ ❷ [ـالْفَقِيرُ]ဆင်းရဲဒုက္ခရောက်ပြီးနောက် ပြန်ချောင်လည်လာသည်။

[تَجَبَّرَ] ❶ [ـالْعَظْمُ](အရိုး)ပြန်လည်ကောင်းမွန်လာသည်။ ❷ [ـالْفَقِيرُ]ဆင်းရဲဒုက္ခရောက်ပြီးနောက် ပြန်ချောင်လည်လာသည်။ ❸ မောက်မာသည်။ မာနကြီးသည်။ ❹ [ـالنَّبَاتُ](အပင်)ခြောက်သွေ့ပြီးနောက် ပြန်လည်စိမ်းစိုလာသည်။ ❺ [ـفُلَانٌ]ဆုံးရှုံးသွားသော ပစ္စည်းကို ပြန်လည်ရရှိသည်။ ❻ [ـمَالًا](ဥစ္စာပစ္စည်းကို)ရရှိသည်။

[اِسْتَجْبَرَ] ❶ [ـالْفَقِيرُ]တစ်ဦးတစ်ယောက်က ကူညီပေးကမ်းသဖြင့် ချောင်လည် အဆင်ပြေသွားသည်။ ❷ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)ကူညီဖေးမရန် ကောင်းစွာတာဝန်ယူသည်။

[اَلتَّجْبَارُ] မာန်မာန။ မောက်မာမှု။

[اَلْجُبَارُ] ❶ အစားပြန်လည်မရရှိနိုင်သော အလဟဿပျက်စီးဆုံးရှုံးမှု။[ذَهَبَ دَمُهُ جُبَارًا] သူ၏သွေးအချည်းနှီးဖြစ်သွားသည်။(သူ အသတ်ခံရသည့်အတွက် တစ်စုံတစ်ရာအသေစား သေစေခြင်းကိုသော်လည်းကောင်း၊ အသက်ဖိုးလျော်ကြေးကိုသော်လည်းကောင်း၊ သတ်မှတ်ဆောင်ရွက်နိုင်ခြင်းမရှိဖြစ်သည်။) ❷ အပြစ်ကင်းစင်သော(သူ၊ အရာ)။ ပတ်သက်မှုမရှိသော(သူ)။[اَنَا مِنْهُ جُبَارٌ]ငါ ဒီကိစ္စနဲ့ မပတ်သက်ဘူး။ ငါနဲ့ ဘာမှမဆိုင်ဘူး။ ❸ အင်္ဂါနေ့။('ဂျာဟိလီယတ်'အမိုက်ခေတ်၌ အင်္ဂါနေ့ကို[جُبَارٌ]ဟု ခေါ်ဝေါ်သုံးစွဲခဲ့ကြသည်။)

[اَلْجِبَارَةُ] ❶ ကျောက်ပတ်တီး စည်းပေးသောအလုပ်ဖြင့် အသက်မွေးဝမ်းကျောင်းပြုမှု။ ❷ ကျောက်ပတ်တီး။(ج) [جَبَائِرُ]။

[اَلْجَبَّارُ] ❶ ဂုဏ်တန်ခိုးအဝဝနှင့်ပြည့်စုံတော်မူသောအရှင်။(အလ္လာဟ်အရှင်မြတ်၏နာမတော်တစ်ပါး)။ ❷ မောက်မာဆိုးသွမ်းသော(သူ)။ ❸ ခက်ထန်ကြမ်းကြုတ်သော(သူ)။ ❹ အလွန်မြင့်မား၍ လက်လှမ်းမမီသော စွန်ပလွံပင်။ (ج) [جَبَابِرَةٌ]။

[الجَبِّيرُ] အလွန်မောက်မာသူ။

[الجَبْرُ] ❶ ရဲစွမ်းသတ္တိရှိသူ။ ❷ အရိုးကျိုးသောအဆစ်အပိုင်းကို ကျောက်ပတ်တီးနှင့်အတူ စည်းနှောင်ရသော သစ်သားချောင်း။ (ج) [جبارٌ]။[مذهب الجبر] 'လူသား၌မည်သည့်အလုပ်ကိုမျှ မိမိ၏သဘောဆန္ဒဖြင့်ပြုလုပ်နိုင်စွမ်းမရှိ၊ လုပ်ရပ်ဟူသမျှသည်အလ္လာဟ်အရှင်မြတ်၏သဘောဆန္ဒတော်အတိုင်း ဖြစ်နေရသည်'ဟု ခံယူသောဝါဒ။

[عِلْم الجَبْر]အက္ခရာသင်္ချာ။

[التَّسعِيرُ الجَبرِيُّ] [الجَبرِيُّ]နိုင်ငံတော်အစိုးရက သတ်မှတ်ပေးထားသော ကုန်ဈေးနှုန်း။

[الجَبرِيَّةُ] ❶ ဂျဗ်ရီယဟ်ဝါဒ။(လူသားတစ်ဦးတစ်ယောက်အဖို့ ဖြစ်ရှိသမျှသည် ရှေးဦးမဆွကတည်းက သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်၍လူသား၌ လွတ်လပ်စွာရွေးချယ်ပြုမူနိုင်ခွင့်မရှိပဲ သတ်မှတ်ထားသည့်အတိုင်း ပြုမူလှုပ်ရှားနေရသည်'ဟု ခံယူသည့်ဝါဒ။) ❷ ယင်းဝါဒကို ခံယူကြသူ ဂျဗ်ရီယဟ်ဂိုဏ်းသားများ။

[الجَبرِيَّةُ] မောက်မာမှု၊ မာန်မာနကြီးမှု။

[الجَبَرُوتُ] နိုင်ငံနင်းလွှမ်းမိုးမှု။

[الجَبِيرَةُ] အရိုးကျိုးသဖြင့် ကုသရန် စည်းနှောင်ရသော ပတ်တီး။ ကျောက်ပတ်တီး။ (ج) [جَبائِرُ]။

✿ [جِبْرِيلُ] တမန်တော်များထံ အလ္လာဟ်အရှင်မြတ်ထံတော်မှ ဝဟီဗျာဒိတ်ကို ပို့ဆောင်ပေးရသော ကောင်းကင်တမန်'ဂျိဘ်ရာအီလ်'။ [جبرئيل]ဟုလည်းခေါ်သည်။

✿ [جَبَّسَ] [ـالعَظمَ الكَسِيرَ]ကျိုးနေသောအရိုးပေါ်၌ ကျောက်ဂေါဒန်အမှုန့်ပါသည့်ပိတ်ပါးစ(ကျောက်ပတ်တီး)ကို စည်းနှောင်သည်။

[تَجَبَّسَ] [ـفِي مِشيَتِهِ]လမ်းလျှောက်ရာ၌ဝင့်ဝါမော်ကြွားသည်။

[الأَجبَسُ] အားအင်ချို့နဲ့ပြီး သတ္တိမရှိသူ။

[الجَبَّاسُ] ❶ မဖေါက်ထုံးပြုလုပ်သူ။ ❷ မဖေါက်ထုံးရောင်းသူ။ ❸ အကျင့်စာရိတ္တ ဆိုးယုတ်သူ။

[الجَبَّاسَةُ] မဖေါက်ထုံးရှိသည့်နေရာ။

[الجِبسُ] ❶ မဖေါက်ထုံး။ ❷ စိတ်ထားယုတ်ညံ့သိမ်ဖျင်းသူ။ ❸ ညာဏ်ထိုင်းသူ။ ❹ (လမ်းလျှောက်ရာ၌)မော်ကြွားသူ။ ❺ ဝက်ဝံပေါက်စ။(ج) [أَجبَاسٌ - جُبُوسٌ]။

[الجِبِيسُ] စိတ်ထားယုတ်ညံ့သိမ်ဖျင်းသူ။

✿ [جَبَلَ ـ] ❶ [ـاللّٰهُ الخَلقَ](အလ္လာဟ်အရှင်မြတ်က အဖန်ဆင်းခံများကို)ဖန်ဆင်းတော်မူသည်။ ❷ [ـهُ عَلَى كَذَا]သဘာဝ ဖြစ်စေသည်။ ဗီဇဖြစ်စေသည်။ အထုံဝါသနာဖြစ်စေသည်။[جُبِلَ القُلُوبُ عَلَى حُبِّ مَنْ أَحسَنَ إِلَيهَا]နှလုံးသားများသည် မိမိအား ကောင်းစွာဆက်ဆံသူကို ချစ်ခင်တတ်သည့် သဘာဝကို သတ်မှတ်ခြင်းခံရသည်။(မိမိအားကောင်းစွာ ဆက်ဆံသူကို ချစ်ခင်တတ်ခြင်းသည်သဘာဝဖြစ်သည်။) ❸ [ـالشَّيءَ]မြဲမြံခိုင်မာစေသည်။ ❹ [ـهُ عَلَى الشَّيءِ](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာပြုလုပ်ရန်)အတင်း

အကြပ် စေခိုင်းသည်။

[جَبَلَ] ❶ (အလ္လာဟ်အရှင်မြတ်က အဖန်ဆင်းခံများကို)ဖန်ဆင်းတော်မူခြင်း။ ❷ သဘာဝဖြစ်စေခြင်း။ ဗီဇဖြစ်စေခြင်း။ ❸ မြဲမြံခိုင်မာစေခြင်း။ ❹ (တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာပြုလုပ်ရန်)အတင်းအကြပ် စေခိုင်းခြင်း။

[جَبِلَ -] ထူထဲကြမ်းတမ်းသည်။

[جَبْلٌ] ထူထဲကြမ်းတမ်းခြင်း။

[جَبِلٌ - جَبْلٌ] ထူထဲကြမ်းတမ်းသော(သူ)။

[اَجْبَلَ] ❶ တောင်ရှိရာသို့ ချဉ်းကပ်သည်။ ❷ ရုတ်တရက် တောင်ကို တွေ့မြင်ရသည်။ ❸ မြေကြီးအတွင်းပိုင်းရှိ အလွှန်မာပြင်းသော မြေနေရာသို့ရောက်သည်အထိ မြေကို တူးသည်။ ❹ [ـاَلْخَطِيْبُ](တရားဟောဆရာ)ရှေ့ဆက်ဘာပြောရမှန်းမသိဖြစ်သည်။ စကားဆက်ပြောရန် အခက်တွေ့သည်။ ❺ [ـفُلَانٌ]ဆင်ရဲကြပ်တည်းသည်။ လိုတာမပြည့်ဖြစ်သည်။ ❻ မပေးရက် မကမ်းရက်နိုင်အောင် တွန့်တိုသည်။ ❼ ဥစ္စာပစ္စည်း ကုန်ခန်းသည်။❽ [ـفُلَانًا]တွန့်တိုသူ၊ စေးနည်းသူအဖြစ်မြင်သည်။ ❾ အတင်းအကြပ် ခိုင်းစေသည်။

[جَابَلَ] တောင်ပေါ်၌ စခန်းချသည်။

[جَبَّلَ] အပိုင်းပိုင်း ဖြတ်တောက်သည်။

[تَجَبَّلَ] ❶ တောင်ထဲသို့ ဝင်သည်။ ❷ [ـفُلَانٌ مَالَ فُلَانٍ](တစ်ဦးတစ်ယောက်၏ ဥစ္စာပစ္စည်းကို)ကုန်အစင် သိမ်းယူသည်။

[اَلْجَبَلُ] ❶ လူမျိုးအုပ်စု။ ❷ လူစုလူဝေး။ ❸ အလွှန်များပြားသော(အရာ)။

[اَلْجِبْلُ] ❶ လူမျိုးအုပ်စု။ ❷ လူစုလူဝေး။ ❸ အလွှန်များပြားသော(အရာ)။ ❹ ခြောက်သွေ့နေသော အပင်။

[اَلْجَبَلُ] ❶ တောင်။ ❷ တောင်ကဲ့သို့ စိတ်ဓါတ်မြဲမြံခိုင်မာသော(သူ)။ ❸ ခေါင်းဆောင်။ ❹ အသိပညာနှင့် ပြည့်စုံသူ။ (ဇ) [ـاَجْبَالٌ اَجْبُلٌ - جِبَالٌ]။

[اِبْنَةُ الْجَبَلِ] ❶ မြွေ။ ❷ ဘေးဆိုး၊ ကြမ္မာဆိုး။ ❸ ပဲ့တင်သံ။[مَا اَنْتَ اِلَّا كَابْنَةِ الْجَبَلِ مَهْمَا يَقُلْ تَقُلْ] မင်းဟာ ပဲ့တင်သံလိုဘဲ၊ ကြားတဲ့အတိုင်း ပြန်ပြောတယ်။ (ကြားသမျှကို အမှားအမှန် ဝေဖန်ပိုင်းခြားနိုင်စွမ်းမရှိဘဲ ပြန်ပြောလေ့ရှိသူကို ရည်ညွှန်းပြောဆိုသည်။)

[اَلْجَبْلَةُ] ❶ အလွှန်မာပြင်းသည့် မြေလွှာ။ ❷ အင်အား။ ❸ သဘာဝ။ ဗီဇ။ ❹ ချို့ယွင်းချက်။ ❺ မျက်နှာ။ မျက်နှာအရေပြား။

[اَلْجِبْلَةُ] ❶ အလွှန်မာပြင်းသည့် မြေလွှာ။ ❷ အင်အား။ ❸ သဘာဝ။ ဗီဇ။ ❹ ချို့ယွင်းချက်။ ❺ မျက်နှာ။ မျက်နှာအရေပြား။ ❻ လူအုပ်စု။ ❼ လူ့အစုအဝေး။ ❽ အသက်ဗီဇ။

[اَلْجُبْلَةُ] ❶ သဘာဝ။ ဗီဇ။ ❷ လူ့အစုအဝေး။ ❸ လူအုပ်စု။

[اَلْجِبِلُّ] လူ့အစုအဝေး။

﴿وَلَقَدْ اَضَلَّ مِنْكُمْ جِبِلًّا كَثِيْرًا﴾ ၄င်းပြင် အမှန်ပင် ထိုသူတို့သည် များပြားလှစွာသော လူ့အစုအဝေးကို လမ်းမှားစေခဲ့ကြပြီ။

[اَلْجُبُلُّ] လူ့အစုအဝေး။

[اَلْجِبِلَّةُ] ❶ ဗီဇ၊ သဘာဝ။ ဗီဇအကျင့်။

❷ လူ့အစုအဝေး။ လူ့အုပ်စု။
﴿وَ اتَّقُوا الَّذِىْ خَلَقَكُمْ وَ الْجِبِلَّةَ الْاَوَّلِيْنَ﴾
၄င်းပြင် အသင်တို့သည် အကြင်အရှင်မြတ်ကို ကြောက်ရွံ့ကြကုန်။ ထိုအရှင်မြတ်သည် အသင်တို့နှင့် အသင်တို့အလျင်ရှိခဲ့ကြသော ရှေးလူ့အစုအဝေးကို ဖန်ဆင်းတော်မူခဲ့သည်။

[اَلْجِبِلِّيَّةُ] [اَلْحَرَكَةُ الْجِبِلِّيَّةُ]ပင်ကိုယ်ဗီဇ သဘာဝ၏စွမ်းအင် ဖြင့်လှုပ်ရှားမှု။

[اَلْجَبِيْلُ] ❶ လူ့အုပ်စု။ ❷ ရုပ်ဆိုးသော(သူ)။ [رَجُلٌ جَبِيْلُ الْوَجْهِ]မျက်နှာ အလွန်အရုပ်ဆိုးသော ယောကျာ်း။(ج) [جُبُلٌ]။

[اَلْجَبِيْلَةُ] ❶ လူမျိုးစု။ ❷ ဗီဇ၊ သဘာဝ။

[اَلْمَجْبَالُ] အင်္ဂါရုပ်ကြမ်းတမ်းသော(သူ)။ [اِمْرَأَةٌ مِجْبَالٌ]အင်္ဂါရုပ်ကြမ်းတမ်းသော(မိန်းမ)။

✿ [جَبَنَ ـُ] သတ္တိကြောင်သည်။ သူရဲဘောကြောင်သည်။

[جُبْنٌ] သတ္တိကြောင်ခြင်း။ သူရဲဘောကြောင်ခြင်း။

[جَبُنَ ـُ] သတ္တိကြောင်သည်။ သူရဲဘောကြောင်သည်။

[جُبْنٌ ـ جُبُنٌ ـ جَبَانَةٌ]သတ္တိကြောင်ခြင်း။ သူရဲဘောကြောင်ခြင်း။

[جَبِيْنٌ ـ جَبَانٌ ـ جَبَانَةٌ]သတ္တိကြောင်သော(သူ၊ သူမ)။ သူရဲဘောကြောင်သော(သူ၊ သူမ)။

[اَجْبَنَ] သတ္တိကြောင်သူအဖြစ် မြင်တွေ့ရသည်။ သူရဲဘောကြောင်သူဟု ထင်မြင်ယူဆသည်။

[جَبَّنَ] သတ္တိကြောင်သူဟု စွပ်စွဲသည်။ သတ္တိကြောင်စေသည်။

[اِجْتَبَنَ] ❶ သတ္တိကြောင်သူအဖြစ် မြင်တွေ့ရသည်။ သူရဲဘောကြောင်သူဟု ထင်မြင်ယူဆသည်။ ❷ [اللَّبَنَ ـ](နို့ကို)ဒိန်ခဲပြုလုပ်သည်။

[تَجَبَّنَ] [اللَّبَنُ ـ](နို့)ဒိန်ခဲကဲ့သို့ ဖြစ်သွားသည်။

[اَلتَّجَبُّنُ] အသားမျှင်တစ်ရှူးများ ပျက်စီး၍ အဝါရောင်သို့မဟုတ် အညိုရောင်ရှိသော အသားမာကလေးများအဖြစ်ပြောင်းလဲသွားခြင်း။

[اَلْجَبَانُ] ❶ သတ္တိကြောင်သူ။ သူရဲဘောနည်းသူ။ ❷ [جَبَانُ الْوَجْهِ]ရှက်ကြောက်အားနာတတ်သူ။ ❸ [جَبَانُ الْكَلْبِ]အလွန်ညှော်ဝတ်ကျေပွန်သူ။(ج) [جُبَنَاءُ]။

[اَلْجَبَّانُ] ❶ ကန္တာရ။ ❷ သင်္ချိုင်း။

[اَلْجَبَّانَةُ] ❶ ကန္တာရ။ ❷ သင်္ချိုင်း။(ج) [جَبَابِيْنُ]။

[اَلْجُبْنُ] ဒိန်ခဲ။

[اَلْجَبِيْنُ] နဖူးစောင်း။(ج)[اَجْبُنٌ ـ اَجْبِنَةٌ]။

[اَلْمَجْبَنَةُ] သတ္တိကြောင်စေသည့်အကြောင်း။ သတ္တိကြောင်သည့် အခြေအနေ။ [اَلْوَلَدُ مَجْبَنَةٌ وَمَبْخَلَةٌ]ကလေးဆိုတာ သတ္တိကြောင်ပြီး တွန့်တိုတတ်တဲ့ သဘာဝရှိတယ်။

✿ [جَبَهَ ـَ] ❶ [ـهُ](သူ့)နဖူးကို ဖိတွန်းသည်။ ❷ မနှစ်မြို့ဖွယ် အမှုကိစ္စကို (သူ့)ရှေ့မှာ လုပ်ပြသည်။ ❸ (သူ့)လိုအပ်ချက်ကို မဖြည့်ဘဲထားသည်။ ❹ ရုတ်တရက် အသိမပေးအကြောင်းမကြားဘဲ ဆိုက်ရောက်လာသည်။ ❺ [اَلْمَاءَ ـ]ရေရှိရာသို့ ရေခတ်ရန် ပစ္စည်း

ကိရိယာတစ်စုံတစ်ရာမပါဘဲ ရောက်ရှိလာ
သည်။

[جَبَّهَ] ❶ (သူ့)နဖူးကို ဖိတွန်းခြင်း။ ❷ မနှစ်မြို့ဖွယ် အမှုကိစ္စကို (သူ့)ရှေ့မှာ လုပ်ပြခြင်း။ ❸ (သူ့)လိုအပ်ချက်ကို မဖြည့်ဘဲ ထားခြင်း။ ❹ ရုတ်တရက် အသိမပေးအကြောင်းမကြားဘဲ ဆိုက်ရောက်လာခြင်း။ ❺ ရေရှိရာသို့ ရေခတ်ရန် ပစ္စည်းကိရိယာ တစ်စုံတစ်ရာမပါဘဲ ရောက်ရှိလာခြင်း။

[جَبِهَ -] နဖူးကျယ်ပြီး လှပခန့်ငြားသည်။

[جَبَهٌ] နဖူးကျယ်ပြီး လှပခန့်ငြားခြင်း။

[أَجْبَهُ] နဖူးကျယ်ပြီး လှပခန့်ငြားသူ။(မ) [جَبْهَاءُ]။(ဗ) [جُبْهٌ]။

[جَبَّهَ] နဖူးကို အောက်ဆိုက်သွားအောင် သေးသိမ်နိမ့်ကျစေသည်။ ရှိကိုးလာစေသည်။

[اِجْتَبَهَ] [الْمَاءَ -](ရေကို)ခံတွင်းမတွေ့ ဖြစ်သည်။

[الْأَجْبَهُ] ခြင်္သေ့။

[الْجَابِهُ] (အရပ်တို့က မကောင်းသောအတိတ်နိမိတ်ကိုဆောင်သည်ဟု ယူဆကြသော)မိမိနှင့် မျက်နှာချင်းဆိုင် ရောက်ရှိလာသည့်ငှက် သို့မဟုတ် သားရဲတိရစ္ဆာန်။

[الْجُبَّهُ] သတ္တိကြောင်သူ။

[الْجَبْهَةُ] ❶ နဖူး။(ဗ) [جِبَاهٌ]။ ❷ လူအုပ်စု။ ❸ အမျိုးသားရေး အကျိုးဆောင်အဖွဲ့။ ❹ မြင်းအုပ်။ [لَيْسَ فِي الْجَبْهَةِ وَالنُّخَّةِ صَدَقَةٌ] မြင်းအုပ်နှင့် ခိုင်းနွားများ၌ ဇကားတ်တာဝန်မရှိ။ ❺ [جَبْهَةُ الْقَوْمِ]ခေါင်းဆောင်။ အကြီးအကဲ။ ❻ [جَبْهَةُ الْقِتَالِ]စစ်မျက်နှာ။ ❼ [جَبْهَةُ الْأَسَدِ]ခြင်္သေ့သတ္တာန် ကြယ်လေးလုံး။ (လ၏ဆယ်ခုမြောက်စခန်း)။

✿ [جَبَا -] ❶ [الْمَالَ -](ဥစ္စာပစ္စည်းကို) သိမ်းစုသည်။ ❷ [الْمَاءَ -](ရေကို)ကန်ထဲ၌ စုလှောင်ထားသည်။

[جَبْوٌ- جِبَاوَةٌ]❶ (ဥစ္စာပစ္စည်းကို)သိမ်းစုခြင်း။ ❷ (ရေကို)ကန်ထဲ၌ စုလှောင်ထားခြင်း။

[جَبَى -] ❶ [الْمَالَ -](ဥစ္စာပစ္စည်းကို)သိမ်းစုသည်။ ❷ [الْمَاءَ -](ရေကို)ကန်ထဲ၌ စုလှောင်ထားသည်။

[جَبْيٌ- جِبَايَةٌ] ❶ (ဥစ္စာပစ္စည်းကို)သိမ်းစုခြင်း။ ❷ (ရေကို)ကန်ထဲ၌ စုလှောင်ထားခြင်း။

[أَجْبَا] ကြည့်[أَجْبَأَ]။

[جَبَّى] ❶ ဦးချလျက် မျက်နှာကို မြေသို့မှောက်ထားသည်။ ❷ ဦးညွှတ်လျက် မိမိ၏လက်နှစ်ဘက်ဖြင့် ဒူးကို ကိုင်ထားသည်။

[اِجْتَبَى] ❶ ရွေးကောက်သည်။ ရွေးချယ်သည်။ ရွေးချယ်မြှောက်စားသည်။ ﴿وَكَذَٰلِكَ يَجْتَبِيكَ رَبُّكَ﴾ငှင်းပြင် ထိုနည်းတူစွာပင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင့်ကို ရွေးချယ်တော်မူမည်။ ❷ လုပ်ကြံဖန်တီးထားသည်။ တီထွင်ကြံဆသည်။﴿قَالُوا لَوْلَا اجْتَبَيْتَهَا﴾ငှင်းတို့က 'အသင်သည် ယင်း(သက်သေလက္ခဏာ)ကို အဘယ်ကြောင့် တီထွင်၍ယူဆောင်လာခြင်းမရှိသနည်း'ဟု ပြောဆိုခဲ့ကြပေသည်။

[الْجَابِي] ❶ အခွန်အတုတ်များကို လိုက်လံကောက်ခံရသူ။ ❷ ကျိုင်းကောင်။ (ဗ)

[جُبَاةٌ]။
[اَلْجَابِيَةُ] ရေလှောင်ကန်။(ج) [جَوَابٍ]။
﴿وَجِفَانٍ كَالْجَوَابِ﴾ရေကန်ကြီးများတမျှ ဖလုံ၊ အင်တုံများကိုလည်းကောင်း။
[اَلْجَبَا] ❶ ရေကန်ထဲ၌ စုဆောင်းထားသောရေ။ ❷ ရေကန်နှင့်ရေတွင်းဘေးရှိ မြေကြီး။(ج) [اَجْبَاءٌ]။
✿ [اِجْثَئَلَّ] ❶ [ـ الشَّعْرُ]အမွေး ထောင်သည်။ ကြက်သီးမွေးညှင်းထသည်။ ❷ [ـ الطَّائِرُ] (ငှက်)မိမိ၏အမွေးအတောင်များကို ထောင်စေသည်။ ❸ [ـ النَّبَاتُ]ဒေါသထွက်ပြီး ရန်ပြုတိုက်ခိုက်ရန်ပြင်ဆင်သည်။ ❹ [ـ الشَّيْءَ] ရုတ်တရက် ပေါ်ပေါက်လာသည်။
✿ [جَثَّ ـ] ❶ [ـ النَّحْلُ](ပျား)တဝီဝီ အော်မြည်သည်။ ❷ [ـ الشَّيْءَ]ဆွဲနှုတ်သည်။ ❸ [ـ العَسَلَ] [ـ الشَّيْءَ]ဖြတ်တောက်သည်။ ❹ (ပျားရည်ကို)ပျားသလက်နှင့်အတူယူသည်။
[جَثٌّ] ❶ (ပျား)တဝီဝီအော်မြည်ခြင်း။ ❷ ဆွဲနှုတ်ခြင်း။ ❸ ဖြတ်တောက်ခြင်း။ ❹ (ပျားရည်ကို)ပျားသလက်နှင့်အတူယူခြင်း။
[جُثَّ] ကြောက်ရွံ့ထိတ်လန့်သည်။
[اِجْتَثَّ] ❶ ပြတ်တောက်သည်။ ❷ ကျွတ်ထွက်သည်။ ❸ ဖြတ်တောက်သည်။ ❹ ဆွဲနှုတ်သည်။
﴿وَمَثَلُ كَلِمَةٍ خَبِيثَةٍ كَشَجَرَةٍ خَبِيثَةٍ اجْتُثَّتْ مِنْ فَوْقِ الْأَرْضِ﴾
၄င်းပြင် ညစ်ညမ်းသောစကား၏ပုံဥပမာကား အကြင်ညစ်ညမ်းသော သစ်ပင်တစ်ပင်ပမာ ဖြစ်၏။ ထိုသစ်ပင်သည် မြေ၏ပေါ်ယံမှ ဆွဲနှုတ်ခြင်းကို ခံခဲ့ရ၏။
[اِنْجَثَّ] ❶ ပြတ်တောက်သည်။ ❷ ကျွတ်ထွက်သည်။
[اَلْجَثُّ] ❶ ပျားသလက်။ ❷ ပျားဖယောင်း။ ဖယောင်း။
[اَلْجُثُّ] အင်ဥကလေးများကဲ့သို့ မြေကြီးပေါ်၌ ပြူထွက်နေသော အရာ။
[اَلْجُثَّةُ] ရုပ်ခန္ဓာ။ သက်မဲ့ရုပ်ခန္ဓာ။(ج) [جُثَثٌ ـ اَجْثَاثٌ]။
[اَلْجَثِيثَةُ] ပွားယူထားသည့် စွန်ပလွံပင် ပေါက်စ။(ج) [جَثِيثٌ]။
[اَلْمُجْتَثُّ] အရဗီကဗျာစပ်နည်းတစ်မျိုး။
[اَلْمِجْثَاثُ] ပွားယူထားသည့် စွန်ပလွံပင် ပေါက်စကို နှုတ်ရာ၌အသုံးပြုရသောကိရိယာ (သံချောင်း)။(ج) [مَجَاثِيثُ]။
[اَلْمِجَثَّةُ] ပွားယူထားသည့် စွန်ပလွံပင် ပေါက်စကို နှုတ်ရာ၌အသုံးပြုရသောကိရိယာ (သံချောင်း)။(ج) [مَجَاثٌ]။
✿ [جَثْجَثَ] [ـ البَرْقُ](လျှပ်စီး)အလင်းတန်း ရှည်လျားသည်။
[تَجَثْجَثَ] ❶ [ـ الشَّعْرُ]အမွေးများသည်။ ❷ တုန်ခါလှုပ်ရှားသည်။
[اَلْجَثَاجِثُ] ထူထပ်သိပ်သည်းသော အမွေး၊ သို့မဟုတ်ဆံပင်။
[اَلْجَثْجَاثُ] ❶ ထူထပ်သိပ်သည်းသော အမွေး၊ သို့မဟုတ်ဆံပင်။ ❷ အဝါရောင်အပွင့်များရှိပြီး မွှေးကြိုင်သောအပင်တစ်မျိုး။
✿ [جَثَلَ ـ] ပြန့်ကြဲလွင့်စင်စေသည်။
[جَثْلٌ] ပြန့်ကြဲလွင့်စင်စေခြင်း။

[جَثَلَ ـُ] [ــالشَّجَرُ](သစ်ပင်)ရှည်လျားထူထပ်၍ သိပ်သည်းစွာ ပေါက်ရောက်သည်။
[جَثَالَةٌ ـ جُثُوْلَةٌ](သစ်ပင်)ရှည်လျားထူထပ်၍ သိပ်သည်းစွာပေါက်ရောက်ခြင်း။
[جَثِيلٌ ـ جَثْلٌ] ရှည်လျားထူထပ်၍ သိပ်သည်းစွာ ပေါက်ရောက်သော(သစ်ပင်)။
[اِجْثَأَلَّ] ကြည့်[جَثَالَ]။
[اَلْجُثَالَةُ] လွင့်စင်ပြန့်ကျဲနေသော သစ်ရွက်များ။
[اَلْجَثْلَةُ] ပုရွက်ဆိတ်အမဲကြီး။(ဇ)[جَثْلٌ]။
[اَلْجَاثَلِيقُ] ဘရင်ဂျီခရစ်ယာန်ဘုန်းကြီး။(ဇ)[جَثَالِقَةٌ]။
[جَثَمَ ـِ] ❶ မိမိနေရာမှ ဘယ်မှမခွါဘဲပေကပ်နေထိုင်သည်။ စွဲစွဲမြဲမြဲနေထိုင်သည်။ ❷ မြေကြီးပေါ်၌ မှောက်လျက်နေသည်။ ﴿فَأَصْبَحُوا فِي دِيَارِهِمْ جَاثِمِينَ﴾ ၎င်းတို့သည် မိမိတို့၏နေအိမ်များတွင် မှောက်လျက်သား ဖြစ်ရှိသွားကြကုန်၏။ ❸ [ــالطَّعَامَ](အစားအစာ)အစာအိမ်ကို လေးလံစေသည်။ ဗိုက်ပြည့်စေသည်။ ❹ [ــاللَّيْلُ](ည)သန်းခေါင်အချိန်ရောက်သည်။ ❺ [ــالعِذْقُ](စွန်ပလွံသီးအခိုင်၌)စွန်ပလွံသီးအမှည့် ဖွံ့ထွားသည်။ ❻ [ــالزَّرْعُ](စိုက်ပျိုးပင်များ)မြင့်မားသည်။ ❼ [ــفُلَانٌ التُّرَابَ](မြေကြီးကို)သိမ်းကျုံးစုစည်းသည်။
[جُثُوْمٌ] ❶ မိမိနေရာမှ ဘယ်မှမခွါဘဲ ပေကပ်နေထိုင်ခြင်း။ စွဲစွဲမြဲမြဲနေထိုင်ခြင်း။ ❷ မြေကြီးပေါ်၌ မှောက်လျက်နေခြင်း။ ❸ (အစားအစာ)အစာအိမ်ကို လေးလံစေခြင်း။ ဗိုက်ပြည့်စေခြင်း။ ❹ (ည)သန်းခေါင်အချိန်ရောက်ခြင်း။ ❺ (စွန်ပလွံသီးအခိုင်၌)စွန်ပလွံသီးအမှည့် ဖွံ့ထွားခြင်း။ ❻ (စိုက်ပျိုးပင်များ)မြင့်မားခြင်း။ ❼ (မြေကြီးကို)သိမ်းကျုံးစုစည်းခြင်း။
[جَاثِمٌ] ❶ မိမိနေရာမှ ဘယ်မှမခွါဘဲ ပေကပ်နေထိုင်သော(သူ)။ စွဲစွဲမြဲမြဲနေထိုင်သော(သူ)။ ❷ မြေကြီးပေါ်၌ မှောက်လျက်နေသော(သူ)။
[جَثْمٌ ـ جَثَمٌ] ❶ စွန်ပလွံသီးအမှည့် ဖွံ့ထွားသော(စွန်ပလွံသီးအခိုင်)။ ❷ မြင့်မားသော(စိုက်ပျိုးပင်)။
[جَثَّمَ] ❶ မသေမချင်း ဖမ်းဆီးချုပ်နှောင်ထားသည်။ ❷ (တစ်စုံတစ်ရာကို)ပစ်မှတ်အဖြစ် ထောင်၍ပစ်ခတ်သည်။
[اَلْمُجَثَّمَةُ] ပစ်မှတ်အဖြစ်ထား၍ မသေမချင်း ကျောက်ခဲဖြင့် ပစ်ခတ်ခံရသောဆိတ်မ။ ﴿نَهَى رَسُوْلُ اللّٰهِ عَنِ الْمُجَثَّمَةِ﴾ တမန်တော်မြတ်သည် ဆိတ်မကို ပစ်မှတ်ထား၍ ပစ်သတ်သည့်ဓလေ့ကို တားမြစ်ပိတ်ပင်တော်မူခဲ့သည်။
[تَجَثَّمَ] [ــالطَّائِرُ اُنْثَاهُ](ငှက်အထီးက ငှက်မပေါ်သို့)မိတ်လိုက်ရန် ခုန်တက်သည်။
[اَلْجَاثُوْمُ] အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ တစ်ကိုယ်လုံးမလှုပ် နိုင်အောင် ဖိစားထားမှု။ အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ မိစ္ဆာကောင်တက်စီးခြင်း။
[اَلْجُثَامُ] အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ တစ်ကိုယ်လုံးမလှုပ်နိုင်အောင် ဖိစားထားမှု။ အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ မိစ္ဆာကောင်

﴿ثُمَّ لَنُحْضِرَنَّهُمْ حَوْلَ جَهَنَّمَ جِثِيًّا﴾ ထို့နောက် ငါအရှင်မြတ်သည် အမှန်ပင် ၎င်းတို့အား ဂျဟန္နမ်ငရဲ၏အနီးတွင် ဒူးထောက်ကြလျက် စုရုံးရောက်ရှိစေတော်မူမည်။

[اَجْثَا] ❶ ဒူးထောက်ထိုင်စေသည်။ ပုဆစ်တုပ်ထိုင်ခိုင်းသည်။ ❷ ခြေဖျားထောက်ရပ်စေသည်။ ❸ စုရုံးစေသည်။

[جَاثَى] (တစ်ဦးနှင့်တစ်ဦး မျက်နှာချင်းဆိုင်)ဒူးထောက်ထိုင်သည်။(တစ်ဦးနှင့်တစ်ဦး မျက်နှာချင်းဆိုင်)ဒူးချင်းထိကပ်၍ ထိုင်သည်။

[جَثَّا] ❶ ဒူးထောက်ထိုင်စေသည်။ ပုဆစ်တုပ်ထိုင်ခိုင်းသည်။ ❷ ခြေဖျားထောက်ရပ်စေသည်။ ❸ စုရုံးစေသည်။

[تَجَاثَى] ဒူးတိုက်ဆွေးနွေးငြင်းခုံသည်။

[اَلْجَثَاءُ۔اَلْجُثَاءُ] ❶ လူပုဂ္ဂိုလ်။ ❷ အစား၊ ရလာဘ်။ ❸ ပမာဏ၊ ပမာဏခန့်မှန်း။[عَدَدُهُمْ جُثَاءُ مِائَةٍ] သူတို့ရဲ့လူဦးရေက တစ်ရာလောက်ရှိတယ်။

[اَلْجُثْوَةُ] ❶ (မြေ၊ ကျောက်ရိုး၊ အသီးအနှံစသည်တို့၏)အစုအပုံ။ ❷ သင်္ချိုင်း။ ❸ ရုပ်ကောင်။ ❹ ရဲရဲတောက်နေသော မီးခဲ။(ဇ)[جُثًى۔جِثًى]။

✿ [جَحْجَحَ] ❶ အလျင်စလို ပြုလုပ်သည်။ အမြန်ပြေးသွားသည်။ ❷ မိမိ၏ခေါင်းဆောင်ကောင်းကြောင်းကို ဖော်ထုတ်ကြွားဝါသည်။ ❸ ခေါင်းဆောင်ကောင်းကို မွေးဖွားသည်။ ❹ တွန့်ဆုတ်၍ ပြန်လှည့်လာသည်။ ❺ ရပ်တန့် နောက်ဆုတ်သည်။

[اَلْجَحْجَاحُ] ခေါင်းဆောင်ကောင်း။ (ဇ)[جَحَاجِيحُ۔جَحَاجِحَةٌ]။

တက်စီးခြင်း။

[اَلْجَثَّامَةُ] ❶ အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ တစ်ကိုယ်လုံးမလှုပ်နိုင်အောင် ဖိစားထားမှု။ အိပ်စက်နေသူ၏ရင်ပတ်ပေါ်၌ မိစ္ဆာကောင် တက်စီးခြင်း။ ❷ ပညာမဲ့လူမိုက်။ ❸ လူပျင်း။

[اَلْجُثَمُ] အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ တစ်ကိုယ်လုံးမလှုပ်နိုင်အောင် ဖိစားထားမှု။ အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ မိစ္ဆာကောင် တက်စီးခြင်း။

[اَلْجُثْمَانُ] ❶ ခန္ဓာကိုယ်။ ❷ လူပုဂ္ဂိုလ်။

[اَلْجُثْمَةُ] အင်ဥ။

[اَلْجُثَمَةُ] ❶ အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ တစ်ကိုယ်လုံးမလှုပ်နိုင်အောင် ဖိစားထားမှု။ အိပ်စက်နေသူ၏ ရင်ပတ်ပေါ်၌ မိစ္ဆာကောင် တက်စီးခြင်း။ ❷ ပညာမဲ့လူမိုက်။ ❸ လူပျင်း။

✿ [جَثَا ـُ] ❶ ဒူးထောက်ထိုင်သည်။ ပုဆစ်တုပ်ထိုင်သည်။ ❷ ခြေဖျားထောက်ရပ်သည်။ ❸ စုရုံးသည်။

[جَثْوٌ۔جُثُوٌّ] ❶ ဒူးထောက်ထိုင်ခြင်း။ ပုဆစ်တုပ်ထိုင်ခြင်း။ ❷ ခြေ ဖျားထောက်ရပ်ခြင်း။ ❸ စုရုံးခြင်း။

[جَاثٍ] ❶ ဒူးထောက်ထိုင်သော(သူ)။ ပုဆစ်တုပ်ထိုင်သော(သူ)။ ﴿وَتَرَى كُلَّ أُمَّةٍ جَاثِيَةً﴾ ၎င်းပြင် အသင်သည် ဒူးထောက် လျက်ရှိကြသော လူအုပ်စုတိုင်းကို မြင်တွေ့ရမည်။ ❷ ခြေဖျားထောက်ရပ်သော(သူ)။ ❸ စုရုံးသော(သူ)။ (ဇ) [جِثِيٌّ۔جُثِيٌّ]။

[اَلْجَحْجَحُ] ခေါင်းဆောင်ကောင်း။
(ဇ)[جَحَاجِحُ]။
[اَلْجُحْجُحُ] သိုးထီး။(ဇ)[جَحَاجِحُ]။
✿ [جَحَّ ـُ] ❶ တရွတ်တိုက် ဆွဲသည်။ ❷ ဖြန့်ခင်းသည်။
[جَحٌّ] ❶ တရွတ်တိုက်ဆွဲခြင်း။ ❷ ဖြန့်ခင်းခြင်း။
[اَجَحَّ] (ကိုယ်ဝန်)နေ့စေ့လစေ့ ဖြစ်သည်။ မွေးဖွားရန် အချိန်နီးကပ်သည်။
[مُجِحٌّ ـ مُجِحَّةٌ](ကိုယ်ဝန်)နေ့စေ့လစေ့ဖြစ်သော(မိန်းမ)။ မွေးဖွားရန်အချိန် နီးကပ်သော(မိန်းမ)။(ဇ)[مَجَاحُ]။
[اِنْجَحَّ] [النَّبَاتُ](အပင်)မြေပေါ်၌လျှောက်၍ပေါက်ပြီး ပြန့်နှံ့သည်။(မြင်းခွါရွက်ကဲ့သို့)
[اَلْجُحَّةُ] မြေပေါ်၌လျှောက်၍ပေါက်ပြီး ပြန့်နှံ့သောအပင်။(ဇ)[جُحٌّ]။
✿ [جَحَدَ ـَ] မငြင်းပယ်သင့်ကြောင်း သိလျက်နှင့် ငြင်းပယ်သည်။ သွေဖည်သည်။ ﴿وَجَحَدُوا بِهَا وَ اسْتَيْقَنَتْهَا اَنْفُسُهُمْ﴾ ထို့ပြင် ၎င်းတို့၏စိတ်နှလုံးများက ယင်းသက်သေလက္ခဏာတော်များကို သိမြင်ယုံကြည်ကြလျက်နှင့်ပင် ၎င်းတို့သည် ငြင်းပယ်ခဲ့ကြသည်။
[جَحْدٌ ـ جُحُوْدٌ]မငြင်းပယ်သင့်ကြောင်း သိလျက်နှင့် ငြင်းပယ်ခြင်း။
[جَحِدَ ـَ] ❶ ဆင်းရဲသဖြင့်၊ သို့မဟုတ် စေးနည်းတွန့်တိုသဖြင့် ပေးကမ်းမှုနည်းပါးသည်။ ❷ [الْعَامُ](နှစ်)မိုးခေါင်သည်။ ❸ [ـتِ الْاَرْضُ](မြေ)ခြောက်သွေ့ပြီး အပင်များသေကြေပျက်စီးသည်။ ❹ [ـتِ النَّبَاتُ](သီးနှံပင်များ)ရှားပါးသည်။ ❺ [ـالْعَيْشُ](ဘဝအခြေအနေ)ချွတ်ခြုံကျသည်။ မွဲတေသည်။
[جَحَدٌ] ❶ ဆင်းရဲသဖြင့်၊ သို့မဟုတ် စေးနည်းတွန့်တိုသဖြင့် ပေးကမ်းမှုနည်းပါးခြင်း။ ❷ (နှစ်)မိုးခေါင်ခြင်း။ ❸ (မြေ)ခြောက်သွေ့ပြီး အပင်များသေကြေပျက်စီးခြင်း။ ❹ (သီးနှံပင်များ)ရှားပါးခြင်း။ ❺ (ဘဝအခြေအနေ)ချွတ်ခြုံကျခြင်း။ မွဲတေခြင်း။
[اَجْحَدَ] ❶ ဥစ္စာပစ္စည်း ပျက်စီးဆုံးရှုံးသည်။ ❷ ပေးကမ်းစွန့်ကြဲမှု နည်းပါးသည်။ ❸ [ـفُلَانًا]စေးနည်းတွန့်တိုသူအဖြစ် မြင်သည်။
[اَلْجُحُوْدُ] အရဗီသဒ္ဒါအရ[مَاكَانَ]နှင့်[لَمْ يَكُنْ] စသည်တို့ဖြင့်အစပြုသော မဟုတ်ဝါကျ၌ အသုံးပြုရပြီး[ـَ = نَصْبٌ]အခြေအနေ၌ရှိသော ပစ္စုပ္ပန်နှင့်အနာဂတ်ကာလပြကြိယာ၌ ဝင်ရောက်သောဝိဘတ်[لِ]။ ယင်းဝိဘတ်ကို [لَامُ الْجُحُوْدِ]ဟုခေါ်သည်။ သာဓက- ﴿وَمَا كَانَ اللّٰهُ لِيُعَذِّبَهُمْ وَ اَنْتَ فِيْهِمْ﴾ စင်စစ်၊ အလ္လာဟ်အရှင်မြတ်သည် အသင် ၎င်းတို့နှင့်အတူ ရှိနေသမျှကာလပတ်လုံး ၎င်းတို့ကို အရေးယူအပြစ်ပေးတော်မူမည် မဟုတ်ချေ။ ﴿لَمْ يَكُنِ اللّٰهُ لِيَغْفِرَ لَهُمْ﴾အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ခွင့်လွှတ်တော်မူခဲ့သည် မဟုတ်ချေ။
✿ [جَحْدَرَ] လူးလိမ့်သွားအောင် တွန်းထိုးလှဲချသည်။
[تَجَحْدَرَ] ❶ လဲကျပြီး လူးလိမ့်သွားသည်။ ❷ [ـالطَّائِرُ](ငှက်)လှုပ်ရှားပျံသန်းသွားသည်။

[اَلْجَحْدَرُ] ပုသောယောကျာ်း။(ج)[جَحَادِرُ]။

[جَحْدَلَ] ❶ ဆင်းရဲပြီးနောက် ပြန်လည်ချမ်းသာကြွယ်ဝလာသည်။ ❷ [_الْمَالَ](ဥစ္စာပစ္စည်းကို)စုဆောင်းသည်။ ❸ [_الْاِنَاءَ](ခွက်ကို)အပြည့် ဖြည့်သည်။ ❹ [_فُلَانًا]တွန်းထိုးလှဲချသည်။ ❺ မလှုပ်နိုင်အောင် ချုပ်ကိုင်ချည်နှောင်သည်။ ❻ [_الدَّابَّةَ](တိရစ္ဆာန်ကို)အခကြေးငွေဖြင့် ငှားရမ်းသည်။

[اَلْجَحْدَلُ] အင်္ဂါအချိုးအစား ပြည့်စုံ၍ ဝဖြိုးသောကလေး။

[اَلْجُحْدُلُ] အင်္ဂါအချိုးအစား ပြည့်စုံ၍ ဝဖြိုးသောကလေး။

[جَحَرَ _] ❶ [_الضَّبُّ](ဖွတ်)တွင်းထဲသို့ ဝင်ရောက်သည်။ ❷ နောက်ကျကျန်ရစ်သည်။ လွန်မြောက်ကျန်ရစ်သည်။ ❸ [_الْعَامُ](နှစ်)မိုးခေါင်ရေရှားဖြစ်သည်။ ❹ [_الضَّبَّ](ဖွတ်ကို)တွင်းထဲသို့ ဝင်ရောက်စေသည်။ ❺ [_تْ عَيْنُهُ]မျက်တွင်းဟောက်ပက်ဖြစ်သည်။ မျက်တွင်းကျသည်။

[جَحْرٌ] ❶ (ဖွတ်)တွင်းထဲသို့ ဝင်ရောက်ခြင်း။ ❷ နောက်ကျကျန်ရစ်ခြင်း။ လွန်မြောက်ကျန်ရစ်ခြင်း။ ❸ (နှစ်)မိုးခေါင်ရေရှားဖြစ်ခြင်း။ ❹ (ဖွတ်ကို)တွင်းထဲသို့ ဝင်ရောက်စေခြင်း။ ❺ မျက်တွင်းဟောက်ပက်ဖြစ်ခြင်း။ မျက်တွင်းကျခြင်း။

[اَجْحَرَ] ❶ [_الضَّبَّ](ဖွတ်ကို)တွင်းထဲသို့ ဝင်ရောက်စေသည်။ ❷ [_هُ اِلَيْهِ]ဘေးကြပ်နံကြပ်ဖြစ်စေသည်။ အကြပ်အတည်းဆိုက်ရောက်စေသည်။ ❸ [_الْعَامُ](နှစ်)မိုးခေါင်ရေရှားဖြစ်သည်။ ❹ [_الْقَوْمُ](လူအများ)အငတ်ဘေးနှင့် ရင်ဆိုင်ကြရသည်။

[اِجْتَحَرَ] [_جُحْرًا]တွင်းအဖြစ် အသုံးပြုသည်။ တွင်းပြုလုပ်သည်။

[اِنْجَحَرَ] တွင်းထဲသို့ ဝင်သည်။

[تَجَحَّرَ] တွင်းထဲသို့ ဝင်သည်။

[اَلْجُحْرُ] (မြွေ၊ ကြွက်၊စသည်တို့ဝင်ရောက်နေထိုင်သော)တွင်း။(ج) [اَجْحَارٌ .جِحَرَةٌ . جُحُورٌ]။

[اَلْجَحْرَةُ] အလွန်မိုးခေါင်ရေရှားဖြစ်သောနှစ်။

[اَلْمَجْحَرُ] ပုန်းခိုသည့်နေရာ။(ج)[مَجَاحِرُ]။

[جَحَشَ _] ❶ [_عَنْهُ]ဖယ်ခွါ၍ တစ်ကိုယ်တည်းနေသည်။ ❷ [_الْجِلْدَ]သားရေကိုပွန်းပဲ့စေသည်။ သားရေ ကွာကျစေသည်။

[جَحْشٌ] ❶ ဖယ်ခွါ၍ တစ်ကိုယ်တည်းနေခြင်း။ ❷ သားရေကို ပွန်းပဲ့စေခြင်း။ သားရေကွာကျစေခြင်း။

[جَاحَشَ] ❶ [_عَنْ نَفْسِهِ]မိမိကိုယ်ကို ကာကွယ်တိုက်ခိုက်သည်။ ❷ [_الْقَوْمَ]ဝင်ရောက်ရောနှောသည်။ ❸ [_الْاَمْرَ](အရေးကိစ္စတစ်စုံတစ်ရာကို)ရင်းနှီးကျွမ်းဝင်သည်။ ကြုံနေကျဖြစ်သည်။

[اَلْجَحْشُ] မြည်းပေါက်စ။(ج) [جِحَاشٌ]။

[اَلْجَحْشَةُ] ❶ မြည်းပေါက်စ(အမ)။ ❷ ချည်ငင်ရန် လက်၌ရစ်ပတ်ခွေထားသော သားမွေး၊ ချည်ခင်။(ج) [جِحَاشٌ]။

[جَحَظَ _] ❶ [_عَيْنُهُ]မျက်ဆန်ပြူးထွက်သည်။ မျက်ဆန် ထင်ရှားဆူထွက်သည်။

❷ [ـ إليه العمل](တစ်စုံတစ်ရာ ပြုလုပ်နေသည်ကို)မပြုလုပ်ရန် တားမြစ်သောအကြည့်ဖြင့် ကြည့်သည်။ မပြုလုပ်ရန် မျက်ရိပ်ပြသည်။ ချို့ယွင်းချက်ကို မြင်သာအောင် မျက်ရိပ်မျက်ကဲဖြင့် ပြသသည်။

[جُحُوظٌ] ❶ မျက်ဆန်ပြူးထွက်ခြင်း။ မျက်ဆန် ထင်ရှားဆူထွက်ခြင်း။ ❷ (တစ်စုံတစ်ရာ ပြုလုပ်နေသည်ကို)မပြုလုပ်ရန် တားမြစ်သောအကြည့်ဖြင့် ကြည့်ခြင်း။ မပြုလုပ်ရန် မျက်ရိပ်ပြခြင်း။ ချို့ယွင်းချက်ကို မြင်သာအောင် မျက်ရိပ်မျက်ကဲဖြင့် ပြသခြင်း။

[جَاحِظٌ] ❶ မျက်ဆန်ပြူးထွက်သော(သူ)။ မျက်ဆန် ထင်ရှားဆူထွက်သော(သူ)။ ❷ (တစ်စုံတစ်ရာ ပြုလုပ်နေသည်ကို)မပြုလုပ်ရန် တားမြစ်သောအကြည့်ဖြင့် ကြည့်သော(သူ)။ မပြုလုပ်ရန် မျက်ရိပ်ပြသော(သူ)။ ချို့ယွင်းချက်ကို မြင်သာအောင် မျက်ရိပ်မျက်ကဲဖြင့် ပြသသော(သူ)။(မ)[جَاحِظَةٌ]။ (ဇ)[جُحَّظٌ]။

[جَحَّظَ] စူးစူးဝါးဝါးကြည့်သည်။ စိုက်ကြည့်သည်။

[تَجَاحَظَ] [ـ في كلامه]'ဂျာဟိဇ်'၏စကားကို သံယောင်လိုက်၍ ပြောသည်။('ဂျာဟိဇ်' ဟူသည် အမ်ရဗ်နဘာဟ်ရ်ကို ခေါ်သည်။ သူသည် ဟိဂျ်ရီသက္ကရာဇ်(၂၅၅)ခုနှစ်ခန့်က ကွယ်လွန်ခဲ့သည်။)

[اَلْجَاحِظَةُ] မျက်ဆန်။

[اَلْجَاحِظِيَّةُ] မုအ်တဇိလဟ်ဂိုဏ်းသားများအနက် ဂျာဟိဇ်၏နောက်လိုက်အုပ်စုတစ်စု။

[اَلْجِحَاظُ] ❶ မျက်လုံးပြူးထွက်ခြင်း။ ❷ မျက်တွင်း။ ❸ ပြူးထွက်သောမျက်ဆန်။

[جَحَفَ ـ] ❶ [ـ فلانٌ مع فلانٍ](သူ့ဘက်)ပါသည်၊ ယိမ်းသည်၊ တွယ်တာသည်။ ❷ [ـ الشيء]အခွံခွါသည်။ ❸ ယူသည်။ ❹ [ـ لهم الطعام](အစားအစာကို ၄င်းတို့အတွက်)ခူးခပ်ပေးသည်။ ❺ [ـ الكرة من وجه الأرض](ပိုလိုကစားသမားများ)ဘောလုံးကို ရိုက်တုတ်ဖြင့် ရိုက်သည်။ ❻ [ـ الشيء برجله] ခြေထောက်ဖြင့် အဝေးကိုရောက်အောင် ကန်သည်။

[جَحْفٌ] ❶ (သူ့ဘက်)ပါခြင်း၊ ယိမ်းခြင်း၊ တွယ်တာခြင်း။ ❷ အခွံခွါခြင်း။ ❸ ယူခြင်း။ ❹ (အစားအစာကို ၄င်းတို့အတွက်)ခူးခပ်ပေးခြင်း။ ❺ (ပိုလိုကစားသမားများ)ဘောလုံးကို ရိုက်တုတ်ဖြင့် ရိုက်ခြင်း။ ❻ ခြေထောက်ဖြင့် အဝေးကိုရောက်အောင် ကန်ခြင်း။

[جُحِفَ] (အစားများသဖြင့်) ဝမ်းသွားသည်။

[جَاحَفَ] ❶ [ـ الشيء]တစ်ခုမကျန်ယူသည်။ ❷ ရောနှောဆက်ဆံသည်။ ❸ အနားတိုးကပ်သည်။ ချည်းကပ်သည်။ ❹ [ـ عنه]ကာကွယ်သည်။

[أَجْحَفَ] ❶ [ـ به]ယူဆောင် ရုတ်သိမ်းသည်။ ❷ အလွန်ဒုက္ခပေးသည်။ ❸ မနိုင်ဝန်ကို ထမ်းစေသည်။

[اِجْتَحَفَ] ❶ [ـ ماء البئر](ရေတွင်းရေကို)ခတ်ယူသည်။ ❷ [ـ الكرة من وجه الأرض](ဘောလုံးကို မြေပြင်မှ)ရိုက်တုက်ဖြင့် ရိုက်သည်။ ❸ [ـ الشيء]အလျင်အမြန် သုတ်ယူ

သည်။ အမြန်ဆွဲငင်ယူသည်။

[تَجَاحَفَ] ❶ [تَجَاحَفُوْا الْكُرَةَ](ဘောလုံးကို)အလုအယက် ရိုက်တုတ်ဖြင့် ရိုက်ကြသည်။ ❷ [تَجَاحَفُوْا فِى الْقِتَالِ]တုတ်၊ ဓါးများဖြင့် တစ်ဦးကိုတစ်ဦး အလုအယက်တိုက်ခိုက်သတ်ဖြတ်ကြသည်။

[اَلْجُحَافُ] (အစားများသဖြင့်)ဝမ်းသွားခြင်း။

[اَلْجَحْفَةُ] ❶ ထောပတ်အပိုင်းအစ။ ❷ ဝမ်းဗိုက်နာရောဂါ။ ❸ ရေကန်ဘေးပတ်ပတ်လည်၌ ကျန်နေသောရေ။(ဇ)[جِحَافٌ]။

[اَلْجُحْفَةُ] ❶ လက်ခုပ်အပြည့်အစားအစာ။ ❷ မက္ကာဟ်မြို့နှင့် မဒီနဟ်မြို့ကြားရှိ နေရာတစ်ခု။ ❸ ရေကန်ဘေးပတ်ပတ်လည်၌ ကျန်နေသောရေ။(ဇ) [جُحَفٌ]။

✿ [جَحْفَلَ] တွန်းထိုးပစ်ချသည်။ ကိုင်ပေါက်သည်။

[تَجَحْفَلَ] [ـ الْقَوْمُ]စုရုံးသည်။ စုဝေးသည်။

[اَلْجَحْفَلُ] အလွန်များပြားလှသော စစ်တပ်။ (ဇ) [جَحَافِلُ]။

[اَلْجَحْفَلَةُ] (ခွါရှိသောသတ္တဝါတို့၏) နှုတ်ခမ်း။ (ဇ) [جَحَافِلُ]။

✿ [جَحَلَ ـ] တွန်းထိုးလှဲချသည်။

[جَحْلٌ] တွန်းထိုးလှဲချခြင်း။

[جَحَّلَ] အသေအခြာတွန်းထိုး လှဲချသည်။ ပြန်မထနိုင်အောင် အပြီးလှဲချသည်။

[اَلْجُحَالُ] သေစေနိုင်သော ပြင်းထန်သည့်အဆိပ်။

[اَلْجَحْلُ] ❶ ကြီးမားသည့်အပိုင်း။ ❷ ပုတ်သင်ညို။ ❸ ပျားဘုရင်မ။ (ဇ) [جُحْلاَنٌ ـ جُحُولٌ]။

✿ [جَحَمَ ـ] ❶ [ـ النَّارَ](မီး)မွှေးသည်။ မီးကိုတောက်စေသည်။ ❷ [ـ الرَّجُلُ عَيْنَيْهِ](မျက်စိကို)မျက်တောင်မခတ်ဘဲ ဖွင့်ထားသည်။

[جَحْمٌ] ❶ (မီး)မွှေးခြင်း။ မီးကို တောက်စေခြင်း။ ❷ (မျက်စိကို)မျက်တောင်မခတ်ဘဲဖွင့်ထားခြင်း။

[جَحِمَ ـ] ❶ [ـتِ النَّارُ](မီး)အလျှံတညီးညီး တောက်လောင်သည်။ မီးတောက် မီးလျှံ ကြီးမားသည်။ ❷ [ـتِ الْعَيْنَانِ](မျက်စိနှစ်လုံး)ရဲရဲတောက်နီမြန်း၍ ပြူးကျယ်သည်။

✿ [جَحْمٌ ـ جَحَمٌ] ❶ (မီး)အလျှံတညီးညီး တောက်လောင်ခြင်း။ မီးတောက် မီးလျှံကြီးမားခြင်း။ ❷ (မျက်စိနှစ်လုံး)ရဲရဲတောက်နီမြန်း၍ ပြူးကျယ်ခြင်း။

[أَجْحَمُ] ❶ အလျှံတညီးညီး တောက်လောင်သော(မီး)။ ကြီးမားသော(မီးတောက်မီးလျှံ)။ ❷ ရဲရဲတောက်နီမြန်း၍ ပြူးကျယ်သော(မျက်စိနှစ်လုံး)။ (မ) [جَحْمَاءُ]။(ဇ) [جُحْمٌ]။

[أَجْحَمَ] ❶ တွန့်ဆုတ်ရပ်တန့်သည်။ ရပ်နားသည်။ ❷ ပျက်စီးစေလုနီးပါးဖြစ်သည်။

[جَحَّمَ] [ـ بِعَيْنِهِ]စူးစူးရှရှ ကြည့်သည်။ စိုက်ကြည့်သည်။

[تَجَاحَمَ] ❶ ကျဉ်းမြောင်းကြပ်တည်းလာသည်။ ❷ လောဘ၊ သို့မဟုတ် စေးနည်းတွန့်တိုမှုကြောင့် ရင်ပူသည်။ စိတ်ပူသည်။

[تَجَحَّمَ] ❶ ကျဉ်းမြောင်းကြပ်တည်းလာသည်။ ❷ လောဘ၊ သို့မဟုတ် စေးနည်း

တွန့်တိုမှုကြောင့် ရင်ပူသည်။ စိတ်ပူသည်။
[اَلْجَاحِمُ] ❶ ရဲရဲတောက်မီးခဲ။ ❷ အလွန်ပူလောင်သည့်နေရာ။[جَاحِمُ الْحَرْبِ]တိုက်ပွဲ၏ဗဟိုအချက်အခြာနေရာ။
[اَلْجُحَامُ] ❶ မျက်စိနာ။ ❷ ခွေး၏ဦးခေါင်း၌ဖြစ်သော အနာရောဂါ။
[اَلْجَحْمَةُ] အလျှံတညီးညီး တောက်လောင်သောမီး။
[اَلْجُحْمَةُ] အလျှံတညီးညီး တောက်လောင်သောမီး။(ج)[جُحَمٌ]။
[اَلْجَحِيْمُ] ❶ အလျှံတညီးညီး တောက်လောင်သောမီး။﴿قَالُوا ابْنُوا لَهُ بُنْيَانًا فَأَلْقُوهُ فِى الْجَحِيْمِ﴾ ၎င်းတို့က ဤသို့ပြောဆိုခဲ့ကြ၏။"အသင်တို့သည် ထိုသူအဖို့ အဆောက်အအုံတစ်ခုကို တည်ဆောက်ကြပြီးလျှင် ၎င်းအား အလျှံတညီးညီး တောက်လောင်သောမီးအတွင်းသို့ ပစ်ချကြလေကုန်။" ❷ ဂျဟန္နမ်ငရဲ။
✿[اَلْجَحْمَرِشُ]✿ ❶ အလွန်အကြည့်ရဆိုးသော မိန်းမ။ ❷ အဖွါးအို။ ❸ အသက်ကြီးသော(ကုလားအုတ်)။(ج)[جَحَامِرُ]။
✿ [جَحَنَ ـ] ဆင်းရဲသောကြောင့် လည်းကောင်း၊ စေးနည်းတွန့်တိုသောကြောင့်လည်းကောင်း မိမိ၏မိသားစုကို မဝရေစာကြွေးသည်။ စားဝတ်နေရေး အကြပ်အတည်းဆိုက်စေသည်။
[جَحْنٌ] ဆင်းရဲသောကြောင့် လည်းကောင်း၊ စေးနည်းတွန့်တိုသောကြောင့်လည်းကောင်း မိမိ၏မိသားစုကို မဝရေစာကြွေးခြင်း။ စားဝတ်နေရေး အကြပ်အတည်းဆိုက်စေခြင်း။
[جَحِنَ ـ] အဟာရချို့တဲ့သဖြင့် ပိန်လှီသည်။ ကြီးထွားမှု နှေးကွေးသည်။
[جَحَنٌ - جَحَانَةٌ]အဟာရချို့တဲ့သဖြင့် ပိန်လှီ ခြင်း။ ကြီးထွားမှု နှေးကွေးခြင်း။
[جَحِنٌ] အဟာရချို့တဲ့သဖြင့် ပိန်လှီသော(သူ)။ ကြီးထွားမှု နှေးကွေးသော(သူ)။
[أَجْحَنَ] ဆင်းရဲသောကြောင့် လည်းကောင်း၊ စေးနည်းတွန့်တိုသောကြောင့်လည်းကောင်း မိမိ၏မိသားစုကို မဝရေစာကြွေးသည်။ စားဝတ်နေရေး အကြပ်အတည်းဆိုက်စေသည်။
[اَلْجَحِنُ] ရေငတ်နေသော ပိန်လှီနေသည့် အပင်။
✿ [جَحَا ـ] ❶ [ـبِالْمَكَانِ]နေထိုင်သည်။ ❷ [ـالشَّيْءَ]အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်သည်။
[جَحْوٌ] ❶ နေထိုင်ခြင်း။ ❷ အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်ခြင်း။
[اِجْتَحَى] [ـالشَّيْءَ]အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်သည်။
[جُحَا] အရပ်ဟာသပုံပြင်များ၌ ဖော်ပြလေ့ရှိသော ဇာတ်ကောင်။ သူ၏အမည်အပြည့်အစုံမှာ အဘုလ်ဂွတ်ဆွ်နိ ဒုဂျိုင်နုဗ်နစာဇိတ် ဖြစ်သည်။
✿ [جَخَّ ـ] ❶ [ـبِرِجْلِهِ](ခြေထောက်ဖြင့်) မြေကြီးကို ခတ်သည်။ ဖုံထစေသည်။(လမ်းလျှောက်ရာ၌ ခြေထောက်ကို မြေကြီးနှင့် ပွတ်တိုက်၍ လျှောက်သဖြင့် ဖုံထစေသည်။ ❷ [ـفِى صَلَاتِهِ](ဆွလာတ်ဝတ်ပြုရာ၌)မိမိ၏ဗိုက်ကို မြှင့်တင်ထားပြီး လက်ရုံးကို ဖွင့်ထားလျက် ဦးချသည်။

[تَجَخّى] ❶ [_الْكُوْزُ](သောက်ရေခွက်) တိမ်းစောင်းသည်။ တိမ်းမှောက်သည်။ ❷ [_عَلَى الْمِجْمَرِ](မီးခဲထည့်ထားသည့်ခွက် ၌)အမွှေးအကြိုင်ကို မီးရှို့ထားသည်။

✿ [جَدَبَ ـ] ❶ ရေမရသဖြင့် ခြောက်သွေ့ သည်။ ❷ [_الشَّيْءَ](တစ်စုံတစ်ရာကို)ပြစ် တင်ပြောဆိုသည်။ ရှုတ်ချသည်။ မကောင်း သောအရာအဖြစ် သတ်မှတ်သည်။ [جَدَبَ لَنَا عُمَرُ السَّمَرَ بَعْدَ عَتَمَةٍ]သာ၀ကကြီး အုမရ်သည် ညဦးနောက်ပိုင်းအချိန်များ၌ အုပ်စုဖွဲ့၍ ထွေရာလေးပါးပြောဆိုခြင်းကို ပြစ် တင်ရှုတ်ချခဲ့သည်။

[جَدْبٌ] ❶ ရေမရသဖြင့် ခြောက်သွေ့ခြင်း။ ❷ ပြစ်တင်ပြောဆိုခြင်း။ ရှုတ်ချခြင်း။ မ ကောင်းသောအရာ အဖြစ်သတ်မှတ်ခြင်း။

[جَدُبَ ـ] ရေမရသဖြင့် ခြောက်သွေ့သည်။

[جَدَبٌ] ရေမရသဖြင့် ခြောက်သွေ့ခြင်း။

[جَدِبَ ـ] ရေမရသဖြင့် ခြောက်သွေ့သည်။

[جُدُوْبَةٌ] ရေမရသဖြင့် ခြောက်သွေ့ခြင်း။

[جَدْبٌ ـ جَدِيْبٌ] ရေမရသဖြင့် ခြောက်သွေ့သော (နေရာ)။ (ဗ) [جَدْبٌ ـ جَدْبَةٌ ـ جُدُوْبٌ]။

[اَجْدَبَ] ❶ ခြောက်သွေ့သွားသည်။ [_تِ السَّنَةُ](နှစ်)ရာသီဥတုခြောက်သွေ့ သည်။ [_الْقَوْمُ]ခြောက်သွေ့သောနှစ်ကို တွေ့ကြုံကြရသည်။ ❷ [_الْاَرْضَ]ခြောက် သွေ့သောမြေအဖြစ် မြင်တွေ့ရသည်။ ❸ [_فُلَانًا]မိမိထံ၌ လာရောက်တည်း ခိုသူအား တစ်စုံတစ်ရာ ကျွေးမွေးဧည့်ခံခြင်းမပြုဘဲ ပစ် ထားသည်။

[جَخٌّ] ❶ (ခြေထောက်ဖြင့်)မြေကြီးကို ခတ်ခြင်း။ ဖုံထစေခြင်း။(လမ်းလျှောက်ရာ၌ ခြေထောက်ကို မြေကြီးနှင့် ပွတ်တိုက်၍ လျှောက်သဖြင့် ဖုံထစေခြင်း။) ❷ (ဆွလာတ် ဝတ်ပြုရာ၌)မိမိ၏ဗိုက်ကို မြှင့်တင်ထားပြီး လက်ရုံးကို ဖွင့်ထားလျက် ဦးချခြင်း။

✿ [جَخَا ـ] ❶ [_بِرِجْلِهِ](ခြေထောက်ဖြင့်) မြေကြီးကို ခတ်သည်။ ဖုံထစေသည်။(လမ်း လျှောက်ရာ၌ ခြေထောက်ကို မြေကြီးနှင့်ပွတ် တိုက်၍လျှောက်သဖြင့် ဖုံထစေသည်။) ❷ [_الْكُوْزَ](သောက်ရေခွက်ကို)မှောက်ချ သည်။ မှောက်သွန်သည်။

[جَخْوٌ] ❶ (ခြေထောက်ဖြင့်)မြေကြီးကို ခတ်ခြင်း။ ဖုံထစေခြင်း။(လမ်းလျှောက်ရာ၌ ခြေထောက်ကို မြေကြီးနှင့် ပွတ်တိုက်၍ လျှောက်သဖြင့် ဖုံထစေခြင်း။) ❷ (သောက် ရေခွက်ကို)မှောက်ချခြင်း။ မှောက်သွန်ခြင်း။

[جَخَّى] ❶ [_الشَّيْخُ](အဖိုးအိုခါး)ကုန်းသည်။ ခါးကိုင်းသည်။ ❷ [_فِي السُّجُوْدِ](ဦးချရာ၌) လက်ရုံးကို ဖွင့်ကားထားသည်။ လက်မောင်း ကို ချဲ့ကားထားသည်။ ❸ [_عَلَى الْمِجْمَرِ] (အမွှေးအကြိုင်ကို မီးရှို့ရသော မီးခဲထည့် ထားသည့်ခွက်၌)အမွှေးအကြိုင်ကို မီးရှို့ ထားသည်။ ❹ ဖြောင့်မတ်မှုနှင့် တရားမျှတ မှုမှ သွေဖည်တိမ်းပါးသည်။ အကတိလိုက် စားသည်။ မျက်နှာလိုက်၍လုပ်ကိုင်ဆုံးဖြတ် သည်။ ❺ [_اللَّيْلُ](ည)ကုန်ဆုံးထွက်ခွါသွား သည်။ ❻ [_الْكُوْزُ](သောက်ရေခွက်)တိမ်း စောင်းသည်။ မှောက်လုမတတ်ဖြစ်သည်။

[جَادَبَ] [ــتِ الْإِبِلُ الْعَامَ](မိုးခေါင်ရေရှားသောနှစ်ကို ကြုံသဖြင့် ကုလားအုတ်များ) မြက်ဆွေး၊ မြက်ခြောက်များကိုသာလျှင် စားကြရသည်။

[تَجَدَّبَ] လေးလံသည်ဟု မှတ်ယူသည်။

[اَلْاَجْدَبُ] ရေမရသဖြင့် ခြောက်သွေ့သော(နေရာ)။(ج) [جُدْبٌ ـ اَجَادِبُ]။

[اَلْمَجْدَابُ] ခြောက်သွေ့သော(မြေ)။ (ج) [مَجَادِيبُ]။

✿ [اِجْتَدَثَ] သင်္ချိုင်းအဖြစ် မှတ်ယူပြုလုပ်သည်။

[اَلْجَدَثُ] သင်္ချိုင်း။(ج) [اَجْدَاثٌ]။

﴿وَ نُفِخَ فِى الصُّوْرِ فَاِذَا هُمْ مِنَ الْاَجْدَاثِ اِلٰى رَبِّهِمْ يَنْسِلُوْنَ﴾

ထို့ပြင် တံပိုးခရာမှုတ်သောအခါ ရုတ်တရက် ၎င်းတို့သည် သင်္ချိုင်းများမှထွက်၍ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ထံသို့ လျှင်မြန်စွာလာရောက်ကြပေမည်။

✿ [اَلْجَدْجَدُ] မာပြင်း၍ ပြန့်ပြူးညီညာသောမြေ။

[اَلْجُدْجُدُ] ❶ ပုရစ်။ ❷ မျက်စိ၌ထွက်သောအဖု။ မျက်စိစွန်ဖု။(ج) [جَدَاجِدُ]။

✿ [جَدَحَ ـ] [السَّوِيْقَ](ဂျုံမှုန့်ညက်ကို)ရေ၌ထည့်၍ မွှေတုတ်ဖြင့် မွှေသည်။ မွှေနှောက်သည်။ သမအောင် ရောမွှေသည်။

[جَدْحٌ] (ဂျုံမှုန့်ညက်ကို)ရေ၌ထည့်၍ မွှေတုတ်ဖြင့် မွှေခြင်း။ မွှေနှောက်ခြင်း။ သမအောင် ရောမွှေခြင်း။

[اَجْدَحَ] [السَّوِيْقَ](ဂျုံမှုန့်ညက်ကို)ရေ၌ထည့်၍ မွှေတုတ်ဖြင့် မွှေသည်။ မွှေနှောက်သည်။ သမအောင် ရောမွှေသည်။

[جَدَّحَ] [السَّوِيْقَ](ဂျုံမှုန့်ညက်ကို)ရေ၌ထည့်၍ မွှေတုတ်ဖြင့် မွှေသည်။ မွှေနှောက်သည်။ သမအောင် ရောမွှေသည်။

[اِجْتَدَحَ] [السَّوِيْقَ](ဂျုံမှုန့်ညက်ကို)ရေ၌ထည့်၍ မွှေတုတ်ဖြင့် မွှေသည်။ မွှေနှောက်သည်။ သမအောင် ရောမွှေသည်။

[اَلْمِجْدَحُ] မွှေသည့်တုတ်။(အဖျား၌ ကြက်ခြေခတ်သဏ္ဍာန် တုတ်နှစ်ချောင်းကို ညှပ်ထားပြီး အရည်များကို မွှေနှောက်ရာ၌ သုံးသောတုတ်တံ။)(ج) [مَجَادِيْحُ]။

✿ [جَدَّ ـ] ❶ ကြီးကျယ်မြင့်မြတ်သည်။ ❷ ဝေစု၊ ဝေပုံ၊ အကျိုးအမြတ်ခံစားရရှိသည်။ ❸ လေးနက်တည်ကြည်မှုရှိသည်။ ❹ [ــفِى الْاَمْرِ]ကြိုးစားအားထုတ်သည်။ ❺ [ــالشَّيْءُ]အသစ်ဖြစ်သည်။

[جَدٌّ] ❶ ကြီးကျယ်မြင့်မြတ်ခြင်း။ ﴿وَ اَنَّهُ تَعٰلٰى جَدُّ رَبِّنَا﴾ထို့ပြင် မုချကေန ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ဂုဏ်ကျက်သရေသည် မြင့်မြတ်လှပေသည်။ ❷ ဝေစု၊ ဝေပုံ၊ အကျိုးအမြတ်ခံစားရရှိခြင်း။

[جِدٌّ] ❶ လေးနက်တည် ကြည်မှုရှိခြင်း။ ❷ ကြိုးစားအားထုတ်ခြင်း။

[جِدَّةٌ] အသစ်ဖြစ်ခြင်း။

[جَدَّ ـُ] ဖြတ်တောက်သည်။[ــالنَّخْلَ]စွန်ပလွံသီးကို ခူးဖြတ်သည်။

[جَدٌّ ـ جِدَادٌ] ဖြတ်တောက်ခြင်း။

[مَجْدُوْدٌ ـ جَدِيْدٌ]ဖြတ်တောက်ထားသော(အရာ)။

[جَدَّ ـَ] ❶ ရရှိသည်။[جَدِدْتَ بِالْخَيْرِ]ကျွန်တော် ချမ်းသာသုခကို ခံစားရရှိသည်။ ❷ [ـالثَّدْيُ](နို့အုံ)ခြောက်ကပ်ကပ် ဖြစ်သည်။ နို့ရည် ခန်းခြောက်သည်။

[اَلْجَدُّ] ရရှိခြင်း။ ခံစားရရှိခြင်း။

[جَدَدٌ] (နို့အုံ)ခြောက်ကပ်ကပ် ဖြစ်ခြင်း။ နို့ရည် ခန်းခြောက်ခြင်း။

[اَجَدُّ] ခြောက်ကပ်ကပ် ဖြစ်သော(နို့အုံ)။ နို့ရည် ခန်းခြောက်သော(ဆိတ်မ၊ နွားမစသည်)။(မ) [جَدَّاءُ]။(ဗ) [جُدٌّ]။

[جُدَّ] ဝေစု၊ ဝေပုံရရှိသည်။ အကျိုးအမြတ်ခံစားရရှိသည်။

[اَجَدَّ] ❶ [ـفُلَانٌ]အလေးအနက်ထား၍ ကြိုးပမ်းဆောင်ရွက်သူ ဖြစ်သွားသည်။ ❷ ပြန့်ပြူးညီညာသောလမ်းကို လျှောက်သည်။ ❸ [ـفِى الْاَمْرِ]အလေးအနက်ထား၍ ကြိုးပမ်းဆောင်ရွက်သည်။ ❹ [ـالطَّرِيْقُ](လမ်း) ပြန့်ပြူးညီညာသည်။❺ [ـالنَّخْلَ](စွန်ပလွံပင်)အသီးကို ခူးဖြတ်ရန် အချိန်တန်သည်။ ❻ [ـالشَّيْءَ]အသစ်ပြုလုပ်သည်။ အသစ်လဲလှယ်သည်။[ـثَوْبًا]အဝတ်အသစ်လဲလှယ်ဝတ်ဆင်သည်။ ❼ [ـالسَّيْرَ]အလျှင်အမြန်လျှောက်သည်။ အမြန်သွားသည်။ ❽ [ـاَمْرَهٗ بِكَذَا] တိကျခိုင်မာအောင်လုပ်သည်။

[جَادَّ] [ـفِى الْاَمْرِ](တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍)အငြင်းအခုံပြုလုပ်သည်။

[جَدَّدَ] ❶ အသစ်လုပ်သည်။ ❷ [ـثَوْبًا] အဝတ်အသစ်ကို ဝတ်ဆင်သည်။

[تَجَدَّدَ] ❶ အသစ်ဖြစ်သွားသည်။ ❷ [ـالضَّرْعُ](နို့အုံ)နို့ရည် ခန်းခြောက်သည်။

[اِسْتَجَدَّ] ❶ အသစ်ဖြစ်သွားသည်။ ❷ အသစ်ဖြစ်စေသည်။

[اَلْاَجَدُّ] ❶ မိုးခေါင်ရေရှားဖြစ်သော (နှစ်)။ ❷ [اَلْاَجَدَّانِ]နေ့နှင့်ည။

[اَلْجَادَّةُ] ❶ (လမ်းခွဲများ လာရောက်တွေ့ဆုံသော)လမ်းမကြီး။ ❷ လမ်း၏အလယ်ဗဟို။ (ဗ) [جَوَادُّ]။

[اَلْجَدَادُ] (စွန်ပလွံပင်)အသီးကို ခူးဖြတ်ရန်တန်သောအချိန်။

[اَلْجَدَادَةُ] ခူးဖြတ်ထားသော(အသီး)။

[اَلْجَدُّ] ❶ ဖခင်၏အဖေ၊ မိခင်၏အဖေ။ (အဖိုး)။(မ) [جَدَّةٌ]။ (ဗ) [جُدُوْدٌ ـ جُدُوْدَةٌ ـ اَجْدَادٌ]။ ❷ စားနပ်ရိက္ခာ။ ❸ ရာထူး၊ အဆင့်အတန်း၊ ဂုဏ်ရှိသော အခြေအနေ။ ❹ မြစ်ကမ်းနဖူး။(ဗ) [اَجْدَادٌ ـ جُدُوْدٌ]။ ❺ ဝေစု၊ ဝေပုံ။(ဗ) [جُدُوْدٌ]။

[جَدُّ الْحِنْطَةِ] ဂျုံပင်တစ်မျိုး။

[اَلْجُدُّ] ❶ မြေမျက်နှာပြင်။ ❷ မြစ်ကမ်း။

[جِدًّا] အလွန့်အလွန်။ အင်မတန်။ [هُوَ ظَالِمٌ جِدًّا]သူဟာ အင်မတန် မတရားပြုမူသူဖြစ်တယ်။

[اَلْجُدُّ] ❶ ဘေးဘက်။ ❷ မြစ်ကမ်း။(ဗ) [اَجْدَادٌ]။ ❸ ကြီးမားသော ဝေစုဝေပုံကို ရရှိသူ။(ဗ) [جُدُّوْنَ]။

[اَلْجَدَدُ] ညီညာပြန့်ပြူးသောမြေပြင်။

[اَلْجَدَّاءُ] ❶ နားရွက်ဖြတ်ထားသော(ကုလားအုတ်၊ ဆိတ်စသည်)။ ❷ နို့အုံသေးငယ်သော

(မိန်းမ)။ ❷ မိုးခေါင်ရေရှားဖြစ်သော(နှစ်)။ ❸ ခြောက်သွေ့သော(မြေပြန့်လွင်ပြင်)။

[اَلْجَدَّادُ] ရှုတ်ထွေးရစ်ပတ်နေသော ကြိုးအထုံး။ ရှုတ်ထွေးရစ်ပတ်နေသော သစ်ကိုင်း။

[اَلْجُدَّةُ] ❶ မြစ်ကမ်း။ ❷ အရောင်ကွက်နေသောနေရာ၊ အစိတ်အပိုင်း။

[جُدَّةُ الْحِمَارِ]မြည်း၏ကျောပြင်၌ ကွက်နေသောအရောင်။ (ဇ) [جُدَدٌ]။ ❸ မြေကြော၊ သတ္တုကြော။

﴿وَمِنَ الْجِبَالِ جُدَدٌ بِيضٌ وَحُمْرٌ مُخْتَلِفٌ اَلْوَانُهَا﴾ ထိုနည်းတူစွာ တောင်များ၌လည်း မြေကြောများရှိကြပေရာ အချို့မှာ အဖြူများဖြစ်၍ အချို့မှာ အနီများဖြစ်ကြသည့်အပြင် ၎င်းတို့၏ အရောင်များမှာ အထူးထူးအပြားပြား ဖြစ်လျက်ရှိကြပေသည်။

[اَلْجِدَّةُ] ❶ မြေမျက်နှာပြင်။ ❷ ခွေး၏လည်ပင်း၌ ချိတ်ဆွဲရသော ခေါင်းလောင်း၊ လည်ပတ်ကြိုး။(ဇ) [جِدَدٌ]။

[اَلْجَدِيْدُ] မြေမျက်နှာပြင်။(မ) [جَدِيْدَةٌ]။(ဇ) [اَجِدَّةٌ - جُدُدٌ - جُدَدٌ]။

[اَلْجَدِيْدَانِ] နေနှင့်ည။

[اَلْجَدِيْدَةُ] [جَدِيْدَتَا السَّرْجِ]ကုန်းနှီးအောက်၌ ခုခံ၍ခင်းထားသော သားမွေးသို့မဟုတ် သားရေအခင်း။

[اَلْمُجَدِّدُ] လူတို့က တရားတော်ကို လွဲမှားစွာ ပြုမူကျင့်ကြံနေကြသောခေတ်ကာလ၌ စစ်မှန်သောတရားတော်ကို ဖော်ထုတ်၍ လူတို့အား တရားအမှန်ဟောပြောဆုံးမသူ။

[اَلْمُجَدَّدُ] ချည်အမျိုးမျိုးဖြင့် ယက်လုပ်ထားသော(အဝတ်အထည်)။

✿ [جَدَرَ ـُ] ❶ [ـفِى الْبَدَنِ](ခန္ဓာကိုယ်၌)ကျောက်ပေါက်သည်။ ကျောက်ရောဂါဖြစ်သည်။ ❷ [ـالنَّبْتُ]အညှောင့်ထွက်သည်။ ❸ [ـالشَّىْءَ] ပတ်လည်၌ ကာရံသည်။ တံတိုင်းပမာ အကာအကွယ် ပေးထားသည်။ ❹ [ـالرَّجُلُ]နံရံနောက်၌ ပုန်းကွယ်သည်။ ❺ [ـعُنُقُ الْحِمَارِ] (မြည်း၏လည်ပင်း)ဖေါ်ရောင်သည်။

[جَدْرٌ] ❶ (ခန္ဓာကိုယ်၌)ကျောက်ပေါက်ခြင်း။ ကျောက်ရောဂါဖြစ်ခြင်း။ ❷ အညှောင့်ထွက်ခြင်း။ ❸ (မြည်း၏လည်ပင်း) ဖေါ်ရောင်ခြင်း။ ❹ နံရံအနောက်၌ ပုန်းကွယ်ခြင်း။ ❺ ပတ်ပတ်လည် ကာရံခြင်း။ တံတိုင်းပမာ အကာအကွယ်ပေးထားခြင်း။

[جَدِرَ ـَ] ❶ ကျောက်ပေါက်သည်။ ကျောက်ရောဂါဖြစ်သည်။ ❷ [ـظَهْرُهُ]ကျော၌ အဖုထွက်သည်။ ကျောပြင်၌ အနာဖုပေါက်ပြီး ဖူးရောင်သည်။ ❸ [ـتْ يَدُهُ](လက်၌) အလုပ်ကြမ်းလုပ်ရသဖြင့် အရည်ကြည်ဖုပေါက်သည်။ ❹ [ـالْكَرْمُ]သဗျစ်သီး အစေ့ပေါ်ပြီး အရည်ထွက်လုမတတ် ဖြစ်သည်။

[جَدْرٌ] ❶ ကျောက်ပေါက်ခြင်း။ ကျောက်ရောဂါဖြစ်ခြင်း။ ❷ (ကျော၌)အဖုထွက်ခြင်း။ (ကျောပြင်၌)အနာဖု ပေါက်ပြီး ဖူးရောင်ခြင်း။ ❸ (လက်၌)အလုပ်ကြမ်းလုပ်ရသဖြင့် အရည်ကြည်ဖုပေါက်ခြင်း။ ❹ (စပျစ်သီး)အစေ့ပေါ်ပြီး အရည်ထွက်လုမတတ် ဖြစ်ခြင်း။

[جَدُرَ ـُ] ❶ [ـبِكَذَا اَوْ بِهِ]လျော်ကန်သင့်မြတ်သည်။ ထိုက်တန်သည်။ အံဝင်ခွင်ကျ

ဖြစ်သည်။ လိုက်ဘက်သည်။ ❷ [_النَّبْتُ] အညှောင့်ထွက်သည်။

[جَدَارَةً] ❶ လျော်ကန်သင့်မြတ်ခြင်း။ ထိုက်တန်ခြင်း။ အံဝင်ခွင်ကျဖြစ်ခြင်း။ လိုက်ဘက်ခြင်း။ ❷ အညှောင့်ထွက်ခြင်း။

[جَدِيْرٌ] လျော်ကန်သင့်မြတ်သော(သူ၊ အရာ)။ ထိုက်တန်သော(သူ၊ အရာ)။ အံဝင်ခွင်ကျဖြစ်သော(သူ၊ အရာ)။ လိုက်ဘက်သော(သူ၊ အရာ)။(ဇ) [جُدَرَاءُ]။

[جُدِرَ] ကျောက်ပေါက်သည်။ ကျောက်ရောဂါဖြစ်သည်။

[مَجْدُوْرٌ] ကျောက်ပေါက်သော(သူ)။ ကျောက်ရောဂါဖြစ်သော(သူ)။

[اَجْدَرَ] ❶ [_النَّبْتُ](အပင်)အညှောင့်ထွက်သည်။ ❷ [_الشَّجَرُ](အပင်)အသီးအကင်း သီးသည်။

[جَدَّرَ] ❶ [_النَّبْتُ](အပင်)အညှောင့်ထွက်သည်။ ❷ [_الشَّجَرُ](အပင်)အသီးအကင်းသီးသည်။ ❸ [_الكَرْمُ](သဖျစ်သီး)အစေ့ပေါ်ပြီး အရည်ထွက်လုမတတ်ဖြစ်သည်။ ❹ [_البِنَاءَ](အဆောက်အဦးကို)အခိုင်အမာ တည်ဆောက်သည်။

[جُدِّرَ] ကျောက်ပေါက်သည်။ ကျောက်ရောဂါဖြစ်သည်။

[مُجَدَّرٌ] ကျောက်ရောဂါဖြစ်သော(သူ)။

[اِجْتَدَرَ] [_الجِدَارَ](နံရံ၊ တံတိုင်းကို) တည်ဆောက်သည်။

[اَلْجِدَارُ] နံရံ၊ တံတိုင်း။(ဇ) [جُدُرٌ]။ ﴿اَوْ مِنْ وَّرَاءِ جُدُرٍ﴾တံတိုင်းများ၏နောက်ကွယ်မှသော်လည်းကောင်း။

[اَلْجِدَارِىُّ] [اَلسَّاقِطُ الْجِدَارِىُّ]သွားအဓိမ်၏အတွင်းပိုင်းအလွှာရှိ အကြီးဆုံးအပိုင်း။

[اَلْجَدْرُ] ❶ နံရံ၊ တံတိုင်း။(ဇ)[جُدْرَانٌ]။ ❷ နံရံအောက်ခြေ၊ တံတိုင်း၏အခြေ၊ အရင်း။(ဇ) [جُدُوْرٌ]။

[اَلْجُدَرُ] ❶ လည်ပင်းရောင်သည့်ရောဂါ။ ❷ (သဘာဝအလျောက်ဖြစ်စေ၊ ဒဏ်ရာကြောင့်ဖြစ်စေ)ကိုယ်၌ဖြစ်သောအဖု။(ဇ) [اَجْدَارٌ]။

[اَلْجَدَرَةُ] ❶ ဝက်ဆံဖို။ ❷ သိုးခြံ။ (ဇ) [جَدَرٌ]။

[اَلْجُدَرِىُّ] ကျောက်ရောဂါ။

[اَلْجَدِيْرُ] ပတ်ပတ်လည် ကာရံထားသောနေရာ။

[اَلْجَدِيْرَةُ] ❶ ကျောက်ဖြင့် ပတ်ပတ်လည်ကာရံထားသောခြံ။ ❷ သဘာဝ။

[اَلْمِجْدَارُ] စိုက်ခင်းများ၌ လူသဏ္ဌာန်ပြုလုပ်ထားသော အရုပ်။ စာခြောက်ရုပ်။

[اَلْمَجْدَرَةُ] ❶ ကျောက်ရောဂါ အဖြစ်များသောနေရာ။ ❷ သင့်လျော်သော၊ အံဝင်ခွင်ကျဖြစ်သော(အရာ)။[هٰذَا الْاَمْرُ مَجْدَرَةٌ لِّذٰلِكَ] ဒီကိစ္စဟာ အဲဒါနဲ့ သင့်တော်တယ်။

[اَلْمَجْدُوْرُ] ထိုက်သင့်သော(သူ)။ [اِنَّهٗ لَمَجْدُوْرٌ اَنْ يَّفْعَلَ كَذَا] သူဒီလို လုပ်သင့်တယ်။

✿ [جَدَسَ _] ❶ [_الْاَثَرُ](ခြေရာ၊ အမှတ်အသား)ပျောက်သည်။ ❷ [_الشَّىْءُ](တစ်စုံတစ်ရာ)ခြောက်သွေ့၍ မာပြင်းသည်။ ❸

[ـتِ الْاَرْضِ]မြေလွတ်မြေရိုင်းဖြစ်သည်။
[جُدُوْسٌ] ❶ (ခြေရာ၊ အမှတ်အသား)ပျောက်ခြင်း။ ❷ ခြောက်သွေ့၍မာပြင်းခြင်း။ ❸ မြေလွတ်မြေရိုင်းဖြစ်ခြင်း။
[جَادِسٌ] ❶ ပျောက်သွားသော(ခြေရာ၊ အမှတ်အသား)။ ❷ ခြောက်သွေ့၍ မာပြင်းသော(အရာ)။ ❸ အဆောက်အဦး ဆောက်လုပ်ထားခြင်း၊ စိုက်ပျိုးထားခြင်းမရှိသော(မြေလွတ်မြေရိုင်း)။ (ဇ) [جَوَادِسُ]။
✿ [جَدَعَ ـ] ❶ နှာခေါင်းကို ဖြတ်သည်။ ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတစ်ခုခုကို ဖြတ်တောက်သည်။ ❷ ဖမ်းဆီးချုပ်နှောင်ထားသည်။ အကျဉ်းချထားသည်။ ❸ [ـعِيَالَهُ] (မိမိ၏ မိသားစုကို ကြပ်တည်းကျဉ်းမြောင်းစွာထားသည်။ ❹ [ـالصَّبِىَّ](ကလေးငယ်ကို)အဟာရချို့တဲ့စေသည်။
[جَدْعٌ] ❶ နှာခေါင်းကို ဖြတ်ခြင်း။ ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတစ်ခုခုကို ဖြတ်တောက်ခြင်း။ ❷ ဖမ်းဆီးချုပ်နှောင်ထားခြင်း။ အကျဉ်းချထားခြင်း။ ❸ (မိမိ၏ မိသားစုကို ကြပ်တည်းကျဉ်းမြောင်းစွာထားခြင်း။ ❹ (ကလေးငယ်ကို)အဟာရချို့တဲ့စေခြင်း။
[جَدْعًالَهُ] သူ့နှာခေါင်းပြတ်ပါစေ။(ကျိန်ဆဲသည့်စကား)။
[جَدِعَ ـ] ❶ နှာခေါင်း ပြတ်သည်။ ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတစ်ခုခု ပြတ်သည်။ ❷ [ـالصَّبِىُّ](ကလေးငယ်)အဟာရ ချို့တဲ့သည်။ ❸ [ـالْفَصِيْلُ](နို့ဖြတ်ကာစ ကုလားအုတ်ငယ်၊ သို့မဟုတ် နွားငယ်)အဟာရချို့တဲ့သည်။ အရွယ်မရောက်မီ နို့င်းစေခြင်းခံရသဖြင့် ဒဏ်ပိပြီး ပိန်လှီချိနဲ့သည်။
[جَدَعٌ] ❶ နှာခေါင်း ပြတ်ခြင်း။ ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတစ်ခုခု ပြတ်ခြင်း။ ❷ (ကလေးငယ်)အဟာရချို့တဲ့ခြင်း။ ❸ (နို့ဖြတ်ကာစကုလားအုတ်ငယ်၊ သို့မဟုတ် နွားငယ်)အဟာရ ချို့တဲ့ခြင်း။ အရွယ်မရောက်မီ နို့င်းစေခြင်းခံရသဖြင့် ဒဏ်ပိပြီး ပိန်လှီချိနဲ့ခြင်း။
[اَجْدَعُ] နှာခေါင်းပြတ်နေသော(သူ)။ ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတစ်ခုခု ပြတ်နေသော(သူ)။(မ) [جَدْعَاءُ]။(ဇ) [جُدْعٌ]။
[جَدِعٌ] ❶ အဟာရချို့တဲ့သော(ကလေးငယ်)။ ❷ အဟာရ ချို့တဲ့သော၊ အရွယ်မရောက်မီ နို့င်းစေခြင်းခံရသဖြင့် ဒဏ်ပိပြီး ပိန်လှီချိနဲ့သော(နို့ဖြတ်ကာစကုလားအုတ်ငယ်၊ သို့မဟုတ် နွားငယ်)။
[اَجْدَعَ] အဟာရချို့တဲ့စေသည်။
[جَادَعَ] တစ်ဦးကိုတစ်ဦး မကြားဝံ့မနာသာ ဆဲဆိုရန်တွေ့သည်။
[جَدَّعَ] ❶ နှာခေါင်းကို ဖြတ်သည်။ ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတစ်ခုခုကို ဖြတ်တောက်သည်။ ❷ ဖမ်းဆီးချုပ်နှောင်ထားသည်။ အကျဉ်းချထားသည်။ ❸ [ـعِيَالَهُ] (မိမိ၏ မိသားစုကို)ကြပ်တည်းကျဉ်းမြောင်းစွာထားသည်။ ❹ [ـالصَّبِىَّ](ကလေးငယ်ကို)အဟာရချို့တဲ့စေသည်။ ❺ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)'မင်းနှာခေါင်းပြတ်ပါစေ' ဟု ပြောဆိုကျိန်ဆဲသည်။ ❻ [ـالنَّبَاتَ]

(အပင်ကို)ထိပ်ဖျားနှင့် အကိုင်းအလက်များကို ခုတ်သည်။

[تَجادَعَ] တစ်ဦးကိုတစ်ဦး မကြားဝံ့မနာသာ ဆဲဆိုရန်တွေ့သည်။ ငြင်းခုံရန်ဖြစ်သည်။

[اَلْجِدَاعُ] သန်မာထွားကြိုင်းမှုမရှိသောမြက်။

[اَلْجِدْعَةُ] ❶ ဖြတ်တောက်ထားသည့်နေရာ။ ❷ ဖြတ်တောက်ထားပြီး ကျန်ရှိသောအစိတ်အပိုင်း။

❁ [جَدَفَ ـِ] ❶ [الطَّائِرُ ـ](ငှက်)တောင်ပံခတ်၍ ပျံသန်းသွားသည်။ တောင်ပံကို နောက်သို့ပစ်၍ ပျံသည်။ ❷ လမ်းလျှောက်ရာ၌ လက်ကို ရှေ့နောက်လှုပ်ရမ်းသည်။ ❸ [ـ الْمَرْءَةُ] (မိန်းမ)လမ်းလျှောက်ရာ၌ ခြေလှမ်းစိတ်စိတ်လှမ်းသည်။ အရှက်အကြောက်ကြီးသောပုံစံဖြင့်လျှောက်သည်။ ❹ [ـ الْحَادِيْ](ကုလားအုတ်မောင်းသူ ကုလားအုတ်သီချင်းကို) အသံနေ အသံထား၊ အဖြတ်အတောက်မှန်မှန်ဖြင့် သီဆိုသည်။ ❺ [ـ السَّمَاءُبِالثَّلْجِ] မိုးသီးများကို အရှိန်ပြင်းစွာရွာချသည်။ ❻ [ـ الْمَلَّاحُ السَّفِيْنَةَ] လှေကို လှော်တက်ဖြင့် လှော်ခတ်သည်။ ❼ [ـ الشَّيْءَ]ဖြတ်တောက်သည်။

[جَدْفٌ ـ جُدُوْفٌ]❶ တောင်ပံခတ်၍ ပျံသန်းသွားခြင်း။ တောင်ပံကို နောက်သို့ပစ်၍ ပျံခြင်း။ ❷ လမ်းလျှောက်ရာ၌ လက်ကိုရှေ့နောက်လှုပ်ရမ်းခြင်း။ ❸ လမ်းလျှောက်ရာ၌ ခြေလှမ်းစိတ်စိတ်လှမ်းခြင်း။ အရှက်အကြောက်ကြီးသောပုံစံဖြင့် လျှောက်ခြင်း။ ❹ (ကုလားအုတ်မောင်းသူ ကုလားအုတ်သီချင်းကို)အသံနေအသံထား၊ အဖြတ်အတောက် မှန်မှန်ဖြင့် သီဆိုခြင်း။ ❺ မိုးသီးများကို အရှိန်ပြင်းစွာရွာချခြင်း။ ❻ လှေကို လှော်တက်ဖြင့် လှော်ခတ်ခြင်း။ ❼ ဖြတ်တောက်ခြင်း။

[جُدِفَ] [ـ يَدُهُ](လက်)ပြတ်သည်။

[مَجْدُوْفٌ] ပြတ်တောက်သော(အရာ)။

[هُوَ مَجْدُوْفٌ عَلَيْهِ الْعَيْشُ]သူဟာ အလွန်ကြပ်တည်းကျဉ်းမြောင်းတဲ့ ဘဝနဲ့နေရတယ်။

[أَجْدَفَ] အသံပြုဟစ်အော်သည်။ ဆူညံပူညံလုပ်သည်။

[جَدَّفَ] [ـ بِالنِّعْمَةِ]ကျေးဇူးကန်းသည်။ ကျေးဇူးပြုမှုကို ပုန်ကန်ငြင်းပယ်သည်။ ﴿لَاتُجَدِّفُوْا بِنِعْمَةِ اللّٰهِ﴾ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ချီးမြှင့်ထားမှုများအပေါ် ကျေးဇူးမကန်းကြနှင့်။

[اَلْأَجْدَفُ] အရပ်ပုသူ။

[اَلْجَادُوْفُ] ခနဲ့။(စိုက်ခင်းထဲသို့ ရေသွင်းရာ၌ အသုံးပြုရသော ကိရိယာ)။

[اَلْجَدَفُ] ❶ မဖုံးထားသော သောက်ဖွယ်အရည်။ ❷ အရည်မှ ဖယ်ထုတ်ပစ်ရသော အမြှုပ်သို့မဟုတ် အမှိုက်။ ❸ သင်္ချိုင်း။(ဇ) [أَجْدَافٌ]။

[اَلْجَدْفَةُ] ❶ အော်ဟစ်ဆူညံမှု။ အော်ဟစ်ဆူညံသံ။ ❷ ပြေးလွှားသံ။ ❸ သင်္ချိုင်း။

[اَلْمِجْدَافُ] ❶ တောင်ပံ။ ❷ လှော်တက်။(ဇ) [مَجَادِيْفُ]။

❁ [جَدَلَ ـُ] ❶ [ـ الْغُلَامُ](ကလေးငယ်)အားအင်ပြည့်ဖြိုးလာပြီး မိမိ၏မိခင်နောက်သို့ တကောက်ကောက် လိုက်သည်။

❷ [ـالْحَبُّ فِى السُّنْبُلِ](စပါးနှံ၊ ဂျုံနှံစသည်၌)အစေ့ထွက်ပေါ်သည်။ အစေ့သန်မာသည်။
❸ [ـالشَّيْءُ]မာပြင်း၊ မာကြောသည်။

[جُدُوْلٌ] ❶ (ကလေးငယ်)အားအင်ပြည့်ဖြိုးလာပြီး မိမိ၏မိခင်နောက် တကောက်ကောက်လိုက်ခြင်း။ ❷ (စပါးနှံ ဂျုံနှံစသည်၌) အစေ့ထွက်ပေါ်ခြင်း။ အစေ့သန်မာခြင်း။ ❸ မာပြင်း၊ မာကြောခြင်း။

[جَادِلٌ] အားအင်ပြည့်ဖြိုးလာပြီး မိမိ၏မိခင်နောက် တကောက်ကောက်လိုက်သော (ကလေးငယ်)။

[جَدِلٌ - جَدْلٌ] မာပြင်း၊ မာကြောသော(အရာ)။

[جَدَلَ ـِ] ❶ [ـالْحَبْلَ](ကြိုးကို)အခိုင်အမာ ကျစ်သည်။ ❷ [ـالرَّجُلَ]တွန်းထိုးလှဲချသည်။ ❸ ငြင်းခုံရာ၌ အနိုင်ရသည်။

[جَدْلٌ] ❶ (ကြိုးကို)အခိုင်အမာ ကျစ်ခြင်း။ ❷ တွန်းထိုး လှဲချခြင်း။ ❸ ငြင်းခုံရာ၌ အနိုင်ရခြင်း။

[مَجْدُوْلٌ] အခိုင်အမာကျစ်ထားသော(ကြိုး)။

[جَدِلَ ـَ] ❶ အပြင်းအထန် ငြင်းခုံသည်။ ❷ [ـالشَّيْءُ] ကျစ်လျစ်ခိုင်မာသည်။

[جَدَلٌ] ❶ အပြင်းအထန် ငြင်းခုံခြင်း။ ❷ ကျစ်လျစ်ခိုင်မာခြင်း။

[اَجْدَلُ] ❶ အပြင်းအထန် ငြင်းခုံသော(သူ)။ ❷ ကျစ်လျစ်ခိုင်မာသော(သူ၊ အရာ)။ [سَاعِدٌ اَجْدَلُ]ကျစ်လျစ်ခိုင်မာသော လက်မောင်း။(မ)[جَدْلَاءُ]။[سَاقٌ جَدْلَاءُ]ကျစ်လျစ်ခိုင်မာသော ခြေသလုံး။(ဇ)[جُدْلٌ]။

[اَجْدَلَ] [ـالظَّبْيَةُ](သမင်မ)မိမိကလေးနှင့်အတူ သွားလာသည်။

[جَادَلَ] အတိုက်အခံလုပ်သည်။ အခြေအတင်ပြောဆိုသည်။ ဆွေးနွေးငြင်းခုံသည်။ ﴿وَجَادِلْهُمْ بِالَّتِى هِىَ اَحْسَنُ﴾ ၎င်းပြင် အသင်သည် ၎င်းတို့အား အကောင်းဆုံးပုံစံဖြင့် အတိုက်အခံပြုလုပ်ပါလေ။

[مُجَادَلَةٌ - جِدَالٌ]အတိုက်အခံလုပ်ခြင်း။ ဝင်ရောက်ငြင်းခုံခြင်း။ ဆွေးနွေးငြင်းခုံခြင်း။

[جَدَّلَ] တွန်းထိုး လှဲချသည်။ ကျဆုံးစေသည်။

[اِجْتَدَلَ] [ـالْغُلَامُ](ကလေးငယ်)အားအင်ပြည့်ဖြိုးလာပြီး မိမိ၏မိခင်နှင့်အတူ လမ်းလျှောက်သည်။

[اِنْجَدَلَ] လဲကျသည်။ ကျဆုံးသည်။

[تَجَادَلَ] [ـفِى الْاَمْرِ]ငြင်းခုံသည်။

[تَجَدَّلَ] လဲကျသည်။ ကျဆုံးသည်။

[اَلْاَجْدَلُ] သိမ်းငှက်။(ဇ)[اَجَادِلُ]။

[اَلْاَجْدَلِىُّ] သိမ်းငှက်။

[اَلْجَدَالُ] အစိမ်းရောင်ဖြစ်လာပြီး လုံးဝိုင်းလာသောစွန်ပလွံသီး။

[اَلْجَدَالَةُ] မြေကြီး။ သဲမြေ။

[اَلْجَدَّالُ] အစိမ်းရောင်ဖြစ်လာပြီး လုံးဝိုင်းလာသောစွန်ပလွံသီးကို ရောင်းသူ။

[اَلْجَدَلُ] (အတွေးအခေါ်ပညာရှင်များ တီထွင်ကြံဆထားသည့်)ပုံစံအမျိုးမျိုးဖြင့် အထောက်အထားများတင်ပြ၍ ငြင်းခုံဆွေးနွေးရသော နည်းလမ်းပုံစံတစ်ခု။(ယင်းငြင်းခုံမှုပုံစံကို မှတ်စ်လင်မ်တို့၏'မန်တွိုက်'ယုတ္တိဗေဒဝေါဟာရအားဖြင့်'ထင်ရှား၍လက်ခံနိုင်သောအ

ချက်များဖြင့် တည်ဆောက်ထားသော နှိုင်းယှဉ် ဖေါ်ပြချက်' [قِيَاسٌ مُؤَلَّفٌ مِنَ الْمَشْهُورَاتِ وَالْمُسَلَّمَاتِ] ဟုခေါ်သည်။)

[اَلْجَدْلُ] ❶ အင်္ဂါအစိတ်အပိုင်း။ ❷ အစိတ်အပိုင်းတစ်ခုအပြည့် ဖြစ်သောအရိုး။(ခြေ၊ လက်စသည်တို့၏၊ အစိတ်အပိုင်းတစ်ခုလုံး၏ အရိုး။)(ဇ) [اَجْدَالٌ - جُدُوْلٌ]။

[اَلْجِدْلُ] ❶ အင်္ဂါအစိတ်အပိုင်း။ ❷ အစိတ်အပိုင်းတစ်ခုအပြည့် ဖြစ်သောအရိုး။(ခြေ၊ လက်စသည်တို့၏ အစိတ်အပိုင်းတစ်ခုလုံး၏ အရိုး။)

[اَلْجَدَلَةُ] ကျည်ပွေ့။

[اَلْجَدَلِيُّ] ❶ (အတွေးအခေါ်ပညာရှင်များ တီထွင်ကြံဆထားသည့်)ပုံစံအမျိုးမျိုးဖြင့် အထောက်အထားများတင်ပြ၍ ငြင်းခုံဆွေးနွေးရသော နည်းလမ်းပုံစံတစ်ခုနှင့်ဆိုင်သော။ ❷ ယင်းပုံစံဖြင့် ငြင်းခုံဆွေးနွေးသူ။ ❸ ခိုငယ်။ အပျိုသင်စခို။

[اَلْجَدْوَلُ] ကြည့်[ج د و ل]။

[اَلْجَدِيْلُ] ❶ သားရေ၊ သို့မဟုတ် အမွေးဖြင့် ကျစ်ထားသော အထိန်းကြိုး၊ လည်ကွင်းကြိုး၊ ဇက်ကြိုးစသည်။ ❷ စလွယ်။(ဇ) [جُدُلٌ]။

[اَلْجَدِيْلَةُ] ❶ ဝါးဖြင့်ပြုလုပ်ထားသော ခိုလှောင်အိမ်။ ❷ မျိုးနွယ် အုပ်စု။ ❸ ဘက်၊ ရှုထောင့်၊ ထောင့်။ ❹ အခြေအနေ။ ❺ နည်းစနစ်၊ ပုံစံ။

[اَلْمُجَادَلَةُ] စကားအနိုင်လုခြင်း။ စကားစစ်ထိုးခြင်း။(အမှန်တရား ပေါ်လွင်ထင်ရှားရန် မဟုတ်ဘဲ စကားအရ အနိုင်ရရုံအတွက်သာ ငြင်းခုံခြင်း။)(ဇ)[مَجَادِلُ]။

❁ [اَلْجُدَامُ] အုန်းလက်၊ စွန်ပလွံအလက်စသည်တို့၏အရင်း။

[اَلْجُدَامَةُ] ချွေလှေ့ရာ၌ အကုန်အစင် မကြွေဘဲ အနှံ၌ အသီးတစ်ဝက်မျှ ကျန်ရှိနေသေးသော စပါးနှံ၊ ဂျုံနှံစသည်။

[اَلْجُدَامِيَّةُ] အခက်အလက်များသော(စွန်ပလွံပင်)။

[اَلْجُدَمَةُ] ❶ ချွေလှေ့ရာ၌ အကုန်အစင်မကြွေဘဲ အနှံ၌ အသီးတစ်ဝက်မျှ ကျန်ရှိနေသေးသော စပါးနှံ၊ ဂျုံနှံစသည်။ ❷ အလွန်ပုသော(ယောကျ်ားသို့မဟုတ်မိန်းမ)။ ❸ သစ်စေ့၏အပေါ်ဆုံးအလွှာ။(ဇ)[جَدْمٌ]။

[اَلْجَدْوَلُ] ❶ စိုက်ခင်းများဆီသို့ ရေသွင်းရန် ဖေါက်လုပ်ထားသော ရေမြောင်း။ ❷ ဇယားကွက်။(ဇ)[جَدَاوِلُ]။

❁ [جَدَا ـُ] ❶ ပေးကမ်းသည်။ ❷ တစ်စုံတစ်ရာ ပေးကမ်းစွန့်ကြဲမှုကို တောင်းဆိုသည်။

[جَدْوٌ - جَدًا] ❶ ပေးကမ်းခြင်း။ ❷ တစ်စုံတစ်ရာ ပေးကမ်းစွန့်ကြဲမှုကို တောင်းဆိုခြင်း။

[جَدَا ـِ] ❶ တစ်စုံတစ်ရာပေးကမ်းစွန့်ကြဲမှုကို တောင်းဆိုသည်။ ❷ စားသည်။

[جَدْيٌ] တစ်စုံတစ်ရာ ပေးကမ်းစွန့်ကြဲမှုကို တောင်းဆိုခြင်း။

[اَجْدَى] ❶ အကျိုးဖြစ်ထွန်းသည်။ ❷ တစ်စုံတစ်ရာပေးကမ်း စွန့်ကြဲမှုကို ရရှိသည်။ ❸ [ـَ الْجُرْحُ]ဒဏ်ရာမှ သွေးစိမ်းရှင်ရှင်ထွက်သည်။ ❹ [ـَ عَنْهُ]လိုလားမှု၊ တောင့်တ

မှု ကင်းသည်။ ပေးကမ်းသည်။

[جَدَّى] [ـ الرَّحْلَ]ကုန်းနှီးအောက် ဘေးနှစ်ဘက်၌ အဝတ်စကို ခံထားသည်၊ ကပ်ချုပ်ထားသည်။

[اِجْتَدَى] တစ်စုံတစ်ရာ ပေးကမ်းစွန့်ကြဲမှုကို တောင်းဆိုသည်။

[اِسْتَجْدَى] တစ်စုံတစ်ရာ ပေးကမ်းစွန့်ကြဲမှုကို တောင်းဆိုသည်။

[اَلْجَادِى] ကျိုင်းကောင်။

[اَلْجَادِىُّ] ကုံကုမံ။

[اَلْجَادِيَاءُ] ကုံကုမံ။

[اَلْجَدَا] ❶ ပေးကမ်းစွန့်ကြဲမှု။ ❷ နေရာအနှံ့အပြား ရွာသောမိုး။

[اَلْجَدَاءُ] ချမ်းသာကြွယ်ဝမှုနှင့် အကျိုးဖြစ်ထွန်းမှု။

[اَلْجُدَاءُ] မြှောက်လဒ်။

[جُدَاءُ الثَّلَاثَةِ فِى الثَّلَاثَةِ تِسْعَةٌ]သုံးနှင့် သုံး၏ မြှောက်လဒ်သည် ကိုးဖြစ်သည်။

[اَلْجَدَايَةُ] ခြောက်လသားကျော်ကျော်ခန့် သမင်ပေါက်စ။(ဇ) [جَدَايَا]။

[اَلْجِدَايَةُ] ခြောက်လသားကျော်ကျော်ခန့် သမင်ပေါက်စ။

[اَلْجَدْوَى] ❶ နေရာအနှံ့အပြား ရွာသောမိုး။ ❷ ပေးကမ်းစွန့်ကြဲသည့်ပစ္စည်း။ ပေးကမ်းစွန့်ကြဲမှု။

[اَلْجَدْىُ] ❶ ဆိတ်ပေါက်စ(အထီး)။ (ဇ) [اَجْدٍ-جِدَاءٌ-جِدْيَانٌ]။ ❷ ဂြိုဟ်နက္ခတ်တစ်ခု၏အမည်။(မာဂနက္ခတ်နှင့် ကပ်လျက်ရှိသော ဒက္ခိဏာယဉ်စွန်းတန်းရှိ ဂြိုဟ်နက္ခတ်)။

[اَلْجَدِيَةُ] ကုန်းနှီး၏အောက်ဘက် ဘေးနှစ်ဘက်နှစ်ချက်၌ ကပ်၍ချုပ်ထားသော အဝတ်စ။

[اَلْجُدَىُّ] အနောက်အရပ်ကို ညွှန်ပြသော ဝင်ရိုးစွန်းရှိကြယ် တစ်ခု၏အမည်။

[اَلْجَدِيَّةُ] ❶ ပန်းထွက်ယိုစီးနေသောသွေး။ ❷ မျက်နှာ၏အသွေးအရောင်။ ❸ နံ့သာတုံး၊ နံ့သာအပိုင်းအစ။ ❹ ဘက်၊ ထောင့်၊ ရှုထောင့်။ ❺ ကုန်းနှီး၏အောက် ဘေးနှစ်ဘက်နှစ်ချက်၌ ကပ်၍ချုပ်ထားသော အဝတ်စ။(ဇ)[جَدَايَا]။

✿ [اِجْذَارَّ] ❶ [ـ النَّبْتُ](အပင်)ကြုံလှီသည်။ အပင်ပေါက်သော်လည်း ရှည်လျားလာခြင်းမရှိဘဲ ပိန်လှီသည်။ ❷ [ـ فُلَانٌ]မတ်တတ်ရပ်၍ ဆဲဆိုရန်တွေ့ရန် ဟန်ပြင်သည်။

✿ [جَذَبَ ـِ] ❶ [ـ الشَّهْرُ](လ၏ရက်အများစု)ကုန်ဆုံးသွားသည်။ ❷ [ـ الشَّيْءَ]ဖြန့်ခင်းသည်။ ❸ [ـ الْمَاءَ](ရေကို)ပါးစပ်ဖြင့် ငုံ့သောက်သည်။ ❹ [ـ الرَّضِيعَ](နို့စို့ကလေးကို)နို့ဖြတ်သည်။ ❺ [ـ فُلَانٌ حَبْلَ وَصْلِهِ]အဆက်အသွယ်ဖြတ်သည်။ သံယောဇဉ်ဖြတ်သည်။ ပုံမှန်ဆက်ဆံရေးကို ဖြတ်တောက်လိုက်သည်။ ❻ [ـ الْمَرْاَةَ خَاطِبَهَا](မိန်းမ)မိမိအား လာရောက်ကြောင်းလှမ်းလာသူကို ငြင်းပယ်လိုက်သည်။ ❼ [ـ النَّاقَةُ لَبَنَهَا](ကုလားအုတ်မ)မိမိ၏နို့ကို ချမပေးဘဲ တင်ထားသည်။ ❽ [ـ الشَّيْءَ]နေရာပြောင်းရွှေ့ချထားသည်။ ❾ ဆွဲငင်သည်။

[جَذْبٌ] ❶ (လ၏ရက်အများစု) ကုန်ဆုံး

သွားခြင်း။ (၂) ဖြန့်ခင်းခြင်း။ (၃) (ရေကို)ပါးစပ်ဖြင့် ငုံသောက်ခြင်း။ (၄) (နို့စို့ကလေးကို) နို့ဖြတ်ခြင်း။ (၅) အဆက်အသွယ်ဖြတ်ခြင်း။ သံယောဇဉ်ဖြတ်ခြင်း။ ပုံမှန်ဆက်ဆံရေးကို ဖြတ်တောက်လိုက်ခြင်း။ (၆) (မိန်းမမိမိအား လာရောက်ကြောင်းလှမ်းလာသူကို)ငြင်းပယ်လိုက်ခြင်း။ (၇) နေရာပြောင်းရွှေ့ချထားခြင်း။ (၈) ဆွဲငင်ခြင်း။

[جِذَابٌ] (ကုလားအုတ်မ)မိမိ၏နို့ကို ချမပေးဘဲ တင်ထားခြင်း။

[جَاذِبٌ ـ جَاذِبَةٌ] မိမိ၏နို့ကို ချမပေးဘဲနို့အုံ၌ တင်ထားသော(ကုလားအုတ်မ)။(ج)[جَوَاذِبُ]။

[جَذُوبٌ] မိမိ၏နို့ကို ချမပေးဘဲ နို့အုံ၌ တင်ထားသော(ကုလားအုတ်မ)။ (ج)[جِذَابٌ]။

[جَاذَبَ] (၁) [ـ الشَّيْءَ](တစ်စုံတစ်ရာကို မူလနေရာမှ)နေရာရွှေ့ပြောင်းထားသည်။ (၂) ပေးကမ်းသည်။ (၃) ဆွဲယူသည်။ လုယူသည်။

[اِنْجَذَبَ] (၁) ပြန့်ပြူးသည်။ ဖြန့်ခင်းထားသည်။ (၂) အလျင်အမြန် လျှောက်သွားသည်။ ခရီးဝေးကို ထွက်သွားသည်။

[تَجَاذَبَ] ဆွဲလုသည်။ တစ်စုံတစ်ခုကို သူရထိုက်သည် ငါရထိုက်သည်ဟု အငြင်းပွါးသည်။

[تَجَذَّبَ] (၁) ပြန့်ပြူးသည်။ ဆန့်ထွက်သည်။ အပြားလိုက် ရှည်ထွက်သည်။ (၂) [ـ اللَّبَنَ] (နို့ကို)သောက်သည်။

[اَلتَّجَاذُبُ الْمَغْنَطِيسِيُّ]သံလိုက်ဆွဲငင်အား။

[اَلْجَاذِبَةُ] (၁) အမွေးအကြိုင်အဆီကို ထုတ်ယူရပြီး အရွက်ကို ဝါးစားရသောအပင်။ (၂) ဆွဲအား။

[اَلْجَاذِبِيَّةُ] (၁) ဆွဲဆောင်နိုင်မှု။ ညှို့ဓါတ်။ [فُلَانٌ لَهُ جَاذِبِيَّةٌ]ဆွဲဆောင်နိုင်မှု ရှိသောသူ။ (၂) ဆွဲအား။

[اَلْجَذْبُ] (၁) ဆူဖီများ(အစ္စလာမ့်ပရမတ္တတရားကျင့်ကြံသူများ)၏ဝေါဟာရအရ မြင့်မြတ်သောလောကနှင့် ဆက်သွယ်မှုရရှိပြီး လောကီရေးရာအသိများကွယ်ပျောက်သောစိတ်၏အခြေအနေ။ ယင်းအခြေအနေကို အချို့က'အတွေ့' [اَلْوَجْدُ]ဟုခေါ်ကြသည်။ (၂) အမြတ်ဆုံးနှင့် အမြင့်မားဆုံးချမ်းသာသုခ။ (၃) ဆွဲငင်အား။

[اَلْجَذْبَةُ] စွန်ပလွန်ပင်စည်၏အခေါင်း၊ အူတိုင်။(ج)[جَذْبٌ ـ جِذَابٌ]။

[اَلْجِذْبَةُ] အစိတ်အပိုင်း၊ အပိုင်းအစ။(ج) [جِذَابٌ]။

[اَلْجُوذَابُ] အသား၊ ဆန်၊ သကြားနှင့် သစ်ကြားသီးတို့ဖြင့် ရောနှောချက်ပြုတ်ထားသော အစားအစာ။

[اَلْمَجْذُوبُ] ဆူဖီများ(အစ္စလာမ့်ပရမတ္တတရား ကျင့်ကြံသူများ)၏ဝေါဟာရအရ တစ်စုံတစ်ရာကျင့်ကြံအားထုတ်မှုကို မပြုရဘဲ အလ္လာဟ်အရှင်မြတ်က မိမိထံရွေးချယ်၍ ချီးမြှင့်တော်မူခြင်းခံရသူ။

✿ [جَذَّ ـ] (၁) ချိုးဖဲ့သည်။ (၂) ဖြတ်တောက်သည်။[ـ النَّخْلَ]စွန်ပလွံသီးကို ခူးဖြတ်သည်။

[جَذٌّ ـ جِذَاذٌ] (၁) ချိုးဖဲ့ခြင်း။ (၂) ဖြတ်တောက်ခြင်း။ ခူးဖြတ်ခြင်း။

[جَذِيذٌ ـ مَجْذُوذٌ] (၁) ချိုးဖဲ့သော(အရာ)။ (၂) ဖြတ်

တောက်နေသော(အရာ)။﴿عَطَاءً غَيْرَ مَجْذُوْذٍ﴾ အဆက်မပြတ် ချီးမြှင့်တော်မူခြင်းအားဖြင့်။ ❸ ခူးဖြတ်သော(အသီး)။

[جَذَّ] ❶ ချိုးဖဲ့သည်။ ❷ ဖြတ်တောက်သည်။ ခူးဖြတ်သည်။ ❸ [ـ القَوْمَ]မိမိ၏ နောက်သို့ လိုက်ကြရန် ခေါ်သော်လည်း မည်သူတစ်ဦးတစ်ယောက်မျှ လိုက်လာခြင်း မရှိဖြစ်သည်။

[اِنْجَذَّ] ❶ ကျိုးပဲ့သည်။ ❷ ပြတ်တောက်သည်။

[تَجَذَّذَ] ❶ အစိတ်စိတ်အမွှာအမွှာ ကျိုးပဲ့သည်။ ❷ အပိုင်းပိုင်း ပြတ်တောက်သည်။

[اَلْجُذَاذُ] ❶ အစိတ်စိတ်အမွှာအမွှာ၊ တစ်စစီ ကျိုးပဲ့ပျက်စီးနေသော(အရာ)။ ❷ အပိုင်းပိုင်း ပြတ်တောက်နေသော(အရာ)။ ﴿فَجَعَلَهُمْ جُذَاذًا اِلَّا كَبِيْرًا لَّهُمْ﴾သို့ဖြင့် သူသည် ယင်းအရာများအနက် အကြီးမားဆုံးသော အရာမှအပ ကျန်အရာများကို အစိတ်စိတ်အပိုင်းပိုင်း ပြုလုပ်ခဲ့လေသည်။

[اَلْجِذَاذُ] ❶ အစိတ်စိတ်အမွှာအမွှာ၊ တစ်စစီ ကျိုးပဲ့ပျက်စီးနေသော(အရာ)။ ❷ အပိုင်းပိုင်း ပြတ်တောက်နေသော(အရာ)။

[اَلْجُذَاذَةُ] ❶ ရွှေရှိုင်းတုံး။ ❷ ငွေတုံးအပိုင်းအစ။ ❸ မှတ်ချက်အတိုအထွာ ရေးမှတ်ထားသော စာရွက်အပိုင်းအစ၊ အတိုအထွာ။ (ج) [جُذَاذٌ]။

[اَلْجَذَّاءُ] ❶ ကျိုးပဲ့နေသော(အရာ)။ [اَلسِّنُّ الْجَذَّاءُ]ကျိုးပဲ့နေသော(သွား)။ ❷ ပြတ်တောက်နေသော(အရာ)။[يَدٌ جَذَّاءُ]ပြတ်တောက်နေသော(လက်)။

[اَلْجُذَّةُ] ခန္ဓာကိုယ်ကို ဖုံးအုပ်ရသောအဝတ်။[مَا عَلَيْهِ جُذَّةٌ]သူ့ ကိုယ်လုံးတည်း ဖြစ်နေတယ်။ သူ့ကိုယ်ပေါ်မှာ အဝတ်မရှိဘူး။

[اَلْجَذِيْذُ] ချိုးဖျက်ထားသည့် အပိုင်းအစ။ ဖြတ်တောက်ထားသည့် အပိုင်းအစ။(ج) [جُذَاذٌ]။

[اَلْمِجَذُّ] မျက်စိကို စုရိမာဆိုးသောအခါ၌ အသုံးပြုရသော တုတ်တံ၏အဖျား။(ج) [مَجَاذُّ]။

✿ [جَذَرَ ـُ] [ـ الشَّيْءَ]အမြစ်ပါမကျန်အောင် နုတ်သည်။ အခြေအမြစ်မှ လှန်၍ပြုတ်ထွက်စေသည်။

[جَذْرٌ] အမြစ်ပါမကျန်အောင် နုတ်ခြင်း။ အခြေအမြစ်မှ လှန်၍ပြုတ်ထွက်စေခြင်း။

[اَجْذَرَ] [ـ الشَّيْءَ]အမြစ်ပါမကျန်အောင် နုတ်သည်။ အခြေအမြစ်မှ လှန်၍ပြုတ်ထွက်စေသည်။

[اِنْجَذَرَ] [ـ الشَّيْءَ]အမြစ်ပါမကျန်အောင် ကျွတ်ထွက်သည်။ အခြေအမြစ်ပါမကျန် ပြုတ်ထွက်သည်။

[اَلْجُؤْذَرُ] ကြည့်[ج ا ذ ر]။

[اَلْجَذْرُ] ❶ အခြေ၊ အမြစ်၊ အရင်း။(ج) [جُذُوْرٌ]။ ❷ နှစ်ထပ်ကိန်းရင်း။ [جَذْرُ مِائَةٍ عَشَرَةٌ]တစ်ရာ၏နှစ်ထပ်ကိန်းရင်းသည် တစ်ဆယ်ဖြစ်သည်။ [جَذْرُ خَمْسَةٍ وَعِشْرِيْنَ خَمْسَةٌ]နှစ်ဆယ့်ငါး၏နှစ်ထပ်ကိန်းရင်းသည် ငါးဖြစ်သည်။

[اَلْجَذِيْرُ] (အပင်နှင့်သတ္တဝါများ၏)တစ်သျှူး

အမျိုး။

[اَلْمَجْذِرُ] [بَقَرَةٌمَجْذِرٌ]သားပေါက်ရှိသော နွားရိုင်းမ။

[اَلْمَجْذُوْرُ] နှစ်ထပ်ကိန်းရင်း၏နှစ်ထပ်ကိန်း တန်ဖိုး။

✽ [جَذَعَ ـَ] ❶ ပွတ်တိုက်၊ ပွတ်သပ်သည်။ ❷ [ـِ الدَّابَةَ](တိရစ္ဆာန်ကို)အစာမကျွေးဘဲ ဖမ်းဆီးချည်နှောင်ထားသည်။ ❸ [ـِ الرَّجُلَ] ဖမ်းဆီးချုပ်နှောင်ထားသည်။ ❹ [ـِ عِيَالَهُ] မိသားစုကို အငတ်ထားသည်။ ❺ [ـبَيْنَ الْبَعِيْرَيْنِ](ကုလားအုတ်နှစ်ကောင်ကို)ကြိုးတစ်ချောင်းတည်းဖြင့် တွဲချည်ထားသည်။

[جَذْعٌ] ❶ ပွတ်တိုက်၊ ပွတ်သပ်ခြင်း။ ❷ (တိရစ္ဆာန်ကို)အစာမကျွေးဘဲ ဖမ်းဆီးချည်နှောင်ထားခြင်း။ ❸ ဖမ်းဆီးချုပ်နှောင်ထားခြင်း။ ❹ မိသားစုကို အငတ်ထားခြင်း။ ❺ (ကုလားအုတ်နှစ်ကောင်ကို)ကြိုးတစ်ချောင်းတည်းဖြင့် တွဲချည်ထားခြင်း။

[اَجْذَعَ] [ـالْفَصِيْلُ](နို့ဖြတ်ထားသော ကုလားအုတ်ပေါက်စ)ငါးနှစ်သားအရွယ်သို့ ရောက်သည်။ (နို့ဖြတ်ထားသော နွားပေါက်စ)သုံးနှစ်သားအရွယ်သို့ ရောက်သည်။(နို့ဖြတ်ထားသော ဆိတ်ပေါက်စ)ရှစ်လ၊ ကိုးလသားအရွယ်သို့ ရောက်သည်။

[تَجَاذَعَ] ပို့ရွယ်နုနယ်ကြောင်း ပြသသည်။

[اَلْجَذَعُ] ❶ ပို့မြစ်နုနယ်သော (လုလင်ပို့)။ ❷ ငါးနှစ်သားအရွယ်ကုလားအုတ်။ ❸ သုံးနှစ်သားအရွယ် မြင်းသို့မဟုတ်နွား။ ❹ ရှစ်လသို့မဟုတ်ကိုးလသားအရွယ်ဆိတ်။ (ج) [فُلَانٌفِىْهٰذَا الْاَمْرِ جَذَعٌ][جِذَاعٌ ـ جِذْعَانٌ]။ သူဟာ ဒီကိစ္စမှာ လူသစ်ဖြစ်တယ်။(ဒီကိစ္စနဲ့ပတ်သက်ပြီး သူဟာ အတွေ့အကြုံမရှိသေးဘူး၊ မရင့်ကျက်သေးဘူး)။

[اَعَدْتُ الْاَمْرَ جَذَعًا] ဒီကိစ္စကို ငါ အသစ်ပြန်လုပ်ခဲ့တယ်။[اُمُّ الْجَذَعِ]ဘေးဆိုး၊ ကြမ္မာဆိုး။[اَلْاَزْلَمُ الْجَذَعُ] ခြသေ့်။ ခေတ်ကာလ။

[اَلْجِذْعُ] (စွန်ပလွံပင်၊ အုန်းပင်စသည်တို့၏)ပင်စည်။ (ج) [اَجْذَاعٌ ـ جُذُوْعٌ]။

[اَلْجِذَعُ] [ذَهَبَ الْقَوْمُ جِذَعَ مِذَعَ]လူတွေ အဘက်ဘက်ကို တကွဲတပြားထွက်သွားကြတယ်။ ကစဉ့်ကလျား လူစုခွဲသွားကြတယ်။

[اَلْمُجَذَّعُ] အခြေအမြစ်မရှိသော၊ နိုင်မာမှုမရှိသော(အရာ)။

✽ [جَذَفَ ـِ] ❶ [ـفِىْ مَشْيِهِ]အမြန်လျှောက်သည်။ ❷ [ـالطَّائِرُ فِىْ طَيَرَانِهِ](ငှက်)အမြန်ပျံသန်းသွားသည်။ ❸ [ـتِ الْمَرْاَةُ](မိန်းမ)ခြေလှမ်းစိတ်စိတ်လှမ်းသည်။ ❹ [ـتِ السَّمَاءُ] မိုးသီးများ ရွာချသည်။ ❺ [ـالشَّىْءَ]ဖြတ်တောက်သည်။

[جَذْفٌ] ❶ အလျှင်အမြန် လျှောက်ခြင်း။ ❷ (ငှက်)အမြန်ပျံသန်းသွားခြင်း။ ❸ (မိန်းမ)ခြေလှမ်းစိတ်စိတ် လှမ်းခြင်း။ ❹ မိုးသီးများ ရွာချခြင်း။ ❺ ဖြတ်တောက်ခြင်း။

[اَجْذَفَ] ❶ [ـفِىْ مَشْيِهِ]အမြန်လျှောက်သည်။ ❷ [ـالطَّائِرُ فِىْ طَيَرَانِهِ](ငှက်)အမြန်ပျံသန်းသွားသည်။ ❸ [ـتِ الْمَرْاَةُ](မိန်းမ)ခြေလှမ်းစိတ်စိတ် လှမ်းသည်။

[اِنْجَذَفَ] အမြန်လျှောက်သည်။ အမြန်လုပ်သည်။

[تَجَذَّفَ] အမြန်လျှောက်သည်။ အမြန်လုပ်သည်။

[اَلْمِجْذَافُ] လှော်တက်။(ဇ)[مَجَاذِيْفُ]။

✿ [جَذَلَ ـُ] [ـ الشَّيْءُ]ထောင်မတ်နေသည်။ မားမားမတ်မတ် ရပ်တည်သည်။ မယိုင်မလဲဘဲ မတ်မတ်ရပ်တည်သည်။

[جُذُوْلٌ] ထောင်မတ်နေခြင်း။ မားမားမတ်မတ် ရပ်တည်ခြင်း။ မယိုင်မလဲဘဲ မတ်မတ်ရပ်တည်ခြင်း။

[جَذِلَ ـَ] ပျော်ရွှင်သည်။

[جَذَلٌ] ပျော်ရွှင်ခြင်း။

[جَذِلٌ - جَذْلَانُ] ပျော်ရွှင်သော(သူ)။(မ)[جَذْلَى]။ [جَذَالَى - جُذْلَانٌ](ဇ)။

[اَجْذَلَ] ပျော်ရွှင်စေသည်။

[اِجْتَذَلَ] ပျော်ရွှင်သည်။

[تَجَاذَلَ] တစ်ဦးကိုတစ်ဦး အမုန်းထားသည်။ စိတ်ထဲ၌ ရန်ငြိုးထားသည်။

[اِسْتَجْذَلَ] ထောင်မတ်နေသည်။ မားမားမတ်မတ် ရပ်တည်သည်။ မယိုင်မလဲဘဲ မတ်မတ်ရပ်တည်သည်။

[اَلْجِذْلُ] ❶ သစ်ပင်ငုတ်တို(အကိုင်းအလက်များမရှိဘဲ ပင်စည်ချည်းကျန်သောအပင်။) ❷ တောင်ထိပ်။ တောင်၏ထင်သာမြင်သာသည့်အစိတ်အပိုင်း။ ❸ ဝဲနာ၊ ယားနာပေါက်သောကုလားအုတ် အယားပြေပွတ်တိုက်ရန် ထောင်ထားသော တုတ်တိုင်၊ ငုတ်တိုင်။ [فُلَانٌ جِذْلُ اِبِلٍ اَوْ غَنَمٍ]ကုလားအုတ်သို့မဟုတ် သိုးကို ကောင်းစွာထိန်းကျောင်းစောင့်ရှောက်သူ။(ဇ)[اَجْذَالٌ - جِذَالٌ - جُذُوْلٌ]။

✿ [جَذَمَ ـِ] ဖြတ်တောက်သည်။

[جَذْمٌ] ဖြတ်တောက်ခြင်း။

[مَجْذُوْمٌ - جَذِيْمٌ] ဖြတ်တောက်ထားသော(အရာ)။

[جَذِمَ ـَ] ပြတ်တောက်သည်။[ـتْ يَدُهُ](သူ၏လက်)ပြတ်သည်။ (သူ၏လက်ချောင်းများ) ပြတ်သည်။

[جَذَمٌ] ပြတ်တောက်ခြင်း။

[اَجْذَمُ] (လက်၊ လက်ချောင်းများ)ပြတ်နေသော(သူ)။(ဇ) [جُذْمٌ](ဇ) [جَذْمَاءُ]။

[جُذِمَ] အနာကြီးရောဂါရသည်။ နူသည်။

[مَجْذُوْمٌ] အနာကြီးရောဂါခံစားနေရသော(သူ)။ နူနေသော(သူ)။

[اَجْذَمَ] ❶ ဖြတ်တောက်သည်။[ـ يَدَهُ](သူ့လက်ကို)ဖြတ်သည်။ ❷ [ـ عَنِ الشَّيْءِ](တစ်စုံတစ်ရာကို)ဆွဲနုတ်သည်။ ချုတ်ယူသည်။ ❸ [ـ عَلَيْهِ]ဆုံးဖြတ်သည်။ အခိုင်အမာဆန္ဒထားသည်။ ❹ [ـ السَّيْرَ]အမြန်လျှောက်သည်။ အပြေးအလွှားသွားသည်။

[جَذَّمَ] အပိုင်းပိုင်း ပြတ်တောက်သည်။

[اَلْجُذَامُ] အနူရောဂါ။ အနာကြီးရောဂါ။

[اَلْجُذَامَةُ] [اَلْجُذَامَةُ مِنَ الزَّرْعِ]ရိတ်သိမ်းပြီးနောက် စိုက်ခင်း၌ ကျန်ရှိနေသော(အရာ)။

[اَلْجِذْمُ] ❶ အမြစ်။ ❷ အရင်းမူလ။ ဇစ်မြစ်။ ❸ မိသားစု။(ဇ) [اَجْذَامٌ - جُذُوْمٌ]။

[اَلْجَذْمَةُ] လက်၏ပြတ်နေသောနေရာ။

[اَلْجِذْمَةُ] အပိုင်းအစ။[جِذْمَةٌ مِنَ النَّاسِ]လူအုပ်စုတစ်စု။ (ဇ) [جِذَمٌ]။

[اَلْمِجْذَامُ اَلْمِجْذَامَةُ] ❶ ကိစ္စရပ်များကို ပြတ်သားစွာ ကိုင်တွယ်ဖြေရှင်း နိုင်သော(သူ)။ ❷ ချစ်ခင်မှုကို လျင်မြန်စွာပြတ်တောက်စေနိုင်သော (သူ၊ အရာ)။ ❸ [مِجْذَامُ الرَّكْضِ فِى الْحَرْبِ]။ တိုက်ပွဲ၌ ရန်သူကို လျှင်မြန်စွာ ခုန်အုပ်တိုက်ခိုက်နိုင်သူ။(ج) [مَجَاذِيمُ]။

[مَجْذُوْمٌ] ❶ အနာကြီးရောဂါခံစားနေရသော(သူ)။ နူနေသော(သူ)။ ❷ ဖြတ်တောက်ထားသော(အရာ)။

✿ [جَذَا ـ] ❶ မတ်မတ်ထောင်နေသည်။ အပေါ်ထောင်လျက်သားဖြစ်သည်။ မတ်တတ်အနေအထားဖြင့် တည်ရှိနေသည်။ ❷ ဒူးထောက်ထိုင်သည်။ ❸ ခြေဖျားထောက် ရပ်သည်။ ❹ [ـ السَّنَامُ]ကုလားအုပ်၏ဘို့ အဆီပြည့်သည်။

[جَذْوٌ - جُذُوٌّ] ❶ မတ်မတ်ထောင်နေခြင်း။ အပေါ်ထောင်လျက်သားဖြစ်ခြင်း။ မတ်တတ်အနေအထားဖြင့် တည်ရှိနေခြင်း။ ❷ ဒူးထောက်ထိုင်ခြင်း။ ❸ ခြေဖျားထောက် ရပ်ခြင်း။ ❹ ကုလားအုပ်၏ဘို့ အဆီပြည့်ခြင်း။

[جَاذٍ] ❶ မတ်မတ်ထောင်နေသော(သူ၊ အရာ)။ အပေါ်ထောင်လျက်သားဖြစ်နေသော(သူ၊ အရာ)။ မတ်တတ်အနေအထားဖြင့် တည်ရှိနေသော(သူ၊ အရာ)။ ❷ ဒူးထောက်ထိုင်သော(သူ)။ ❸ ခြေဖျားထောက်ရပ်သော(သူ)။(ج) [جِذَاءٌ]။

[جَذَا ـ] တားဆီးထားသည်။ တားမြစ်ပိတ်ပင်သည်။

[جَذْىٌ] တားဆီးထားခြင်း။ တားမြစ်ပိတ်ပင်ခြင်း။

[اَجْذَى] ❶ မတ်မတ်ထောင်နေသည်။ အပေါ်ထောင်လျက်သားဖြစ်သည်။ မတ်တတ်အနေအထားဖြင့် တည်ရှိနေသည်။ ❷ [ـ الْفَصِيلُ](နို့ဖြတ်ထားသော ကုလားအုပ်၏ဘို့၌)အဆီတက်သည်။ ❸ [ـ فُلَانًا عَنْهُ] တားဆီးထားသည်။ တားမြစ်ပိတ်ပင်သည်။ ❹ [ـ الْحَجَرَ](ကျောက်ခဲကို)မသည်။ ပင့်ဆောင်သည်။ ပင့်မြှောက်သည်။

[تَجَذَّى] ❶ [ـ الرَّجُلُ يَوْمَهُ اَجْمَعَ](တစ်နေ့လုံး)မရပ်မနား လုပ်ကိုင်သည်။ ❷ [ـ الْحَمَامُ بِالْحَمَامَةِ](ခိုထီး ခိုမကို ဖိုသံပေး၍ မြေကြီးကို အမြီးနှင့်ပွတ်သည်။

[تَجَاذَى] [ـ الْقَوْمُ حَجَرًا](ကျောက်တုံးကိုမရန် ယင်းကျောက်တုံးအောက်၌)တုတ်ကိုထည့်ထားသည်။

[اِجْذَوَى] ခြေဖျားထောက်၍ ရပ်သည်။

[اِجْذَوْذَى] ❶ မားမားမတ်မတ် တည်တန့်သည်။ ထောင်မတ်နေသည်။ ❷ အိမ်၌ ကုတ်ကပ်၍နေသည်။ အစီးအနင်းပေါ်၌ စွဲမြဲစွာ နေသည်။ ❸ သေးသိမ်နိမ့်ကျသည်။ ဂုဏ်သိမ်ညိုးနွမ်းသည်။

[اَلْجَاذِى] အရပ်အမောင်း ပုသောသူ။ ခြေတံလက်တံတိုသော သူ။

[اَلْجَاذِيَةُ] ❶ အရပ်အမောင်း ပုသောသူ(မ)။ ခြေတံလက်တံတိုသောသူ(မ)။ ❷ နို့အထွက်နည်းသော ကုလားအုတ်မ။

[اَلْجَذَاةُ] ကြီးမားသောအပင်၏အမြစ်။(ج) [جِذَاءٌ]။

[اَلْجِذْوَةُ] မီးတောက်နေသောမီးခဲ။ မီးစ။ (ج) [جِذَاءٌ ـ جِذَاءٌ]။

﴿لَعَلِّىٓ اٰتِيْكُمْ مِّنْهَا بِخَبَرٍ اَوْ جَذْوَةٍ مِّنَ النَّارِ لَعَلَّكُمْ تَصْطَلُوْنَ﴾

ကျွန်ုပ်သည် ထိုမီးရှိရာမှ သတင်းတစ်စုံတစ်ရာကို အသင်တို့ထံ ယူလာပါမည်။ သို့တည်းမဟုတ် ကျွန်ုပ်သည် အသင်တို့ မီးလှုံနိုင်ကြရန် မီးစတစ်ခုကို ညှိယူလာခဲ့ပါမည်'' ဟုပြောဆိုခဲ့လေသည်။

[اَلْجِذْىُ] ❶ အမြစ်။ ❷ အရင်းမူလ။ ဖစ်မြစ်။

[اَلْمَجْذَاءُ] [مِجْذَاءُ الطَّائِرِ](ငှက်)နှုတ်သီး။

✿ [جَرُؤَ ـُ] ❶ နောက်ဆိုင်းတွန့်ဆုတ်ခြင်းမရှိဘဲ ဖွတ်လုပ်သည်။ မစူးစမ်းမဆင်ခြင်ဘဲ အမြန်လုပ်သည်။ ❷ အတင့်ရဲသည်။

[جُرْأَةٌ ـ جَرَائَةٌ] ❶ နောက်ဆိုင်းတွန့်ဆုတ်ခြင်းမရှိဘဲ ဖွတ်လုပ်ခြင်း။ မစူးစမ်းမဆင်ခြင်ဘဲ အမြန်လုပ်ခြင်း။ ❷ အတင့်ရဲခြင်း။

[جَرِىْءٌ] ❶ နောက်ဆိုင်းတွန့်ဆုတ်ခြင်းမရှိဘဲ ဖွတ်လုပ်သော(သူ)။ မစူးစမ်းမဆင်ခြင်ဘဲ အမြန်လုပ်သော(သူ)။ ❷ အတင့်ရဲသော(သူ)။(ج) [جُرَاءُ ـ اَجْرِئَاءُ]။

[جَرَّاَ] အတင့်ရဲစေသည်။ ရဲဆေးတင်ပေးသည်။ သတ္တိရှိစေသည်။

[اِجْتَرَاَ] [ـعَلَيْهِ]အတင့်ရဲသည်။ ရဲတင်းသည်။ သတ္တိရှိသည်။

[تَجَرَّاَ] အတင့်ရဲသည်။ ရဲတင်းသည်။ သတ္တိရှိသည်။

[اَلْجِرِّيْئَةُ] ❶ လည်ပင်း။ ❷ ကြက်၊ ငှက်စသည်တို့၏လည်ချောင်းအရင်းရှိ အစာအိမ်။ (စားလုပ်)။ ❷ သားကောင်များကို ဖမ်းဆီးရာ၌ အသုံးပြုရသောထောင်ချောက်အိမ်။ (ج)[جَرَائِىُّ]။

✿ [اِجْرَاَشَّ] ❶ နာလန်ထဖြစ်သည်။ ခန္ဓာကိုယ်ပိန်လှီချိနဲ့ပြီးမှ ပြန်လည်ကျန်းမာသန်စွမ်းလာသည်။ ❷ [اِجْرَاَشَّ الْاِبِلُ](ကုလားအုတ်)ဗိုက်ပြည့်ကားဝဖြိုးသည်။

[اَلْجَرَائِضُ] ❶ ခြင်္သေ့။ ❷ အလွန်ကြီးမားကြံ့ခိုင်သော(ကုလားအုတ်)။(ج)[جَرَائِضُ]။

[جِرَافِيْتُ] ဂရပ်ဖိုက်။(ခဲတံ၏အဆံအဖြစ် အသုံးပြုရသော သတ္တုကျောက်တစ်မျိုး။

[اَلْجِرَانِيْتُ] ဂရေးနိုက်ကျောက်။(လိပ်သည်းကျောက်)။

✿ [جَرِبَ ـَ] ❶ ဝဲနာ၊ ယားနာပေါက်သည်။ ❷ [ـالسَّيْفُ] (ဓါး)သံချေးတက်သည်။

[جَرَبٌ] ❶ ဝဲနာ၊ ယားနာပေါက်ခြင်း။ ❷ (ဓါး)သံချေးတက်ခြင်း။

[اَجْرَبُ] ❶ ဝဲနာ၊ ယားနာပေါက်သော(သူ)။ ❷ သံချေးတက်သော(ဓါး)။ (မ)[جَرْبَاءُ]။ (ج) [جُرْبٌ ـ جِرَابٌ]။

[جَرْبَانُ] ဝဲနာ၊ ယားနာပေါက်သော(သူ)။ (မ) [جَرْبَى]။ (ج) [جِرَابٌ ـ جَرْبَى]။

[جَرِبٌ] ဝဲနာ၊ ယားနာပေါက်သော(သူ)။ (ج) [جِرَابٌ]။

[اَجْرَبَ] (သူ၏ကုလားအုတ်)ဝဲနာ၊ ယားနာပေါက်သည်။

[جَرَّبَ] အကြိမ်ကြိမ် စစ်ဆေးစမ်းသပ်သည်။ အတွေ့အကြုံများသည်။

[تَجْرِيْبٌ ـ تَجْرِبَةٌ]အကြိမ်ကြိမ် စစ်ဆေးစမ်းသပ်

ခြင်း။ အတွေ့အကြုံများခြင်း။

[جَوْرَبَ] ကြည့်[ج و ر ب]။

[تَجَوْرَبَ] ကြည့်[ج و ر ب]။

[اَلتَّجْرِبَةُ] ❶ စနစ်တကျ စူးစမ်းလေ့လာမှု။ ❷ အစမ်းလေ့ကျင့်မှု။

[اَلْجِرَابُ] ❶ စားနပ်ရိက္ခာများကို ထည့်ရသောအိပ်။ ❷ ဓါးအိမ်။ ❸ ရေတွင်း၏အတွင်းပိုင်း။ ❹ ကပ်ပယ်အိပ်။(ဍ)[اَجْرِبَةٌ.جُرُبٌ]။

[اَلْجُرَابُ] သင်္ဘောအလွတ်။

[اَلْجَرَبُ] ❶ ဝဲနာ၊ ယားနာ။ ❷ အပြစ်၊အနာအဆာ။

[اَلْجَرْبَاءُ] ❶ ဝဲနာ၊ ယားနာပေါက်သော (သူမ)။ ❷ မိုးခေါင်ရေရှားသဖြင့် သစ်ပင်ဝါးပင်ကင်းမဲ့သောမြေ။ ❸ မိုးကောင်းကင်။

[اَلْجِرِبَّانُ] အင်္ကျီအိပ်ကပ်။

[اَلْجُرُبَّانُ] ❶ အင်္ကျီအိပ်ကပ်။ ❷ ဓါးအိမ်။ ❸ ဓါးသွား။

[اَلْجِرْبَةُ] ❶ စိုက်ခင်း။ ❷ ရေတွင်း၏အတွင်းဘက်၌ခံထားသောသားရေ။ ရေမြောင်း၌ ရေကျရန် ခံထားသောသားရေပြား။ (ဍ) [جِرَبٌ]။

[اَلْجِرْبِيَاءُ] မြောက်လေအေး။

[اَلْجَرِيبُ] ❶ စိုက်ခင်း။ ❷ ကျောက်စလစ်ရောနေသည့်မြေ။ ❸ (၆၄)ကီလိုဂရမ်အလေးချိန်ခန့်ရှိသော အချင်အတွယ် ပမာဏ။(ဍ) [اَجْرِبَةٌ.جُرْبَانٌ]။

[اَلْجُرَيِّبُ] အရေပြား၌ အမွေးများ၏အရင်းရှိတွင်းငယ်။

[اَلْجَوْرَبُ] ကြည့်[ج و ر ب]။

✽ [تَجَرْثَمَ] ❶ ကုပ်နေသည်။ ကျုံ့ကျုံ့လေးနေသည်။ ခပ်ကုတ်ကုတ်နေသည်။ ❷ အမြင့်မှ အောက်သို့ ပြုတ်ကျသည်။ ❸ မကုန်တကုန်ယူသည်။ အကုန်လုံးနီးပါး ယူသည်။

[اِجْرَنْثَمَ] ❶ နေရာယူသည်။[_الْقَوْمُ]လူစုကြပြီး နေရာတစ်ခု၌ တပ်စွဲနေထိုင်ကြသည်။ ❷ [_الرَّجُلُ]အမြင့်မှ အောက်သို့ ပြုတ်ကျသည်။

[اَلْجُرْثُومَةُ] ❶ အရင်းအမြစ်။ မူလအခြေခံ။ ဇစ်မြစ်။ ❷ သစ်ပင်၏အရင်းအမြစ်၌ စုနေသောမြေ။ ❸ မျိုးဆက်ပြန့်ပွါးရန်အတွက် အခြေခံကျသော အစိတ်အပိုင်း။(သီးပင်များ၏သစ်စေ့၊ ကြက်၊ ငှက်တို့၏ဥ၊ ပန်းပင်များ၏ဝတ်ဆံ၊ တိရစ္ဆာန်တို့၏သုတ်ပိုးစသည်)။ ❹ လျှာ၏အရင်း၌ရှိသော လျှာခင်။ ❺ ပုရွက်ဆိတ်အုံ။ ပုရွက်ဆိတ်တွင်း။

✽ [جَرِجَ _] [_الْاِبِلُ الْمَرْعَى](ကုလားအုတ် စားကျက်ရှိ မြက်ကို)စားသည်။

[جَرْجٌ] (ကုလားအုတ် စားကျက်ရှိ မြက်ကို)စားခြင်း။

[جَرِجَ _] ❶ မတည်မငြိမ်လှုပ်ရှားသည်၊ တုန်ရီခါရမ်းသည်။[_الْخَاتَمُ فِى اِصْبَعِهِ]သူ့လက်ထဲကလက်စွပ် (ချောင်ပြီး)လှုပ်ရမ်းနေတယ်။ ❷ [_الرَّجُلُ]လမ်းအလယ်မှလျှောက်သည်။ ❸ [_الْاَرْضُ](မြေ)ကြမ်းတမ်းသည်။

[جَرَجٌ] ❶ မတည်မငြိမ် လှုပ်ရှားခြင်း။ တုန်ရီခါရမ်းခြင်း။ ❷ လမ်းအလယ်မှလျှောက်ခြင်း။ ❸ (မြေ)ကြမ်းတမ်းခြင်း။

[جَرِجٌ] မတည်မငြိမ်လှုပ်ရှားသော(အရာ)။

တုန်ရီခါရမ်းသော(အရာ)။
[سَكِيْنٌ جَرْجٌ]အရိုးချောင်သဖြင့် လှုပ်ရမ်းနေသောဓါး။(ج) [جَرِيَةٌ]။

[جَرَّجَ] ❶ မတည်မငြိမ် လှုပ်ရှားစေသည်။ တုန်ရီခါရမ်းစေသည်။ ❷ လွဲချော်စေသည်။

[اَلْجَرَجَةُ] ❶ အလမ်း၏အလယ်ဗဟို။ ❷ ကြမ်းတမ်းသောမြေ။(ج) [جَرْجٌ]။

[اَلْجُرْجَةُ] အဝကျဉ်းပြီး အခြေ၌ကျယ်သော စားနပ်ရိက္ခာထည့်သည့်အိပ်။(ج) [جُرَجٌ]။

✿ [جَرْجَرَ] ❶ [__الْبَعِيْرُ](ကုလားအုတ်)လည်ချောင်းသံ ပေးသည်။ ❷ [__الْمَاءُ](ရေ)အသံမြည်သည်။ ရေသံထွက်သည်။[__الْمَاءَ فِى الْحَلْقِ](ရေသောက်သောအခါ လည်ချောင်း၌)အသံမြည်သည်။ ❸ [__تِ النَّارُ](မီး)အသံမြည်သည်။ ❹ [__الْمَاءَ]လည်ချောင်း၌အသံမြည်အောင် ရေကိုသောက်သည်။ ❺ [__فُلَانًا الْمَاءَ] လည်ချောင်း၌အသံမြည်အောင် ရေတိုက်သည်။

[اَلْجَرَاجِرُ] ❶ ကိုယ်အတွင်းပိုင်း။ ဝမ်းဗိုက်။ ❷ [مَاءٌ جُرَاجِرٌ]အသံမြည်သော(ရေ)။

[اَلْجَرْجَارُ] တဂျိမ်းဂျမ်းမြည်သံ၊ မိုးချုန်းသံ။

[اَلْجَرْجَرُ] ❶ မြေကို ထွန်သည့်ထယ်သွား။ ❷ ရိတ်သိမ်းပြီး ဂျုံနှံများကို ချွေရန်အတွက် ပြုလုပ်ထားသော တလိမ့်တုံး။

[اَلْجِرْجِيْرُ] ဟင်းရွက်ပင်တစ်မျိုး။

✿ [جَرْجَمَ] ❶ [__الطَّعَامَ](အစားအစာကို)တစ်စက်မျှမကျန်အောင် အကုန်စားသည်။ ပြောင်စင်အောင်စားသည်။ ❷ [__الرَّجُلَ]တွန်းထိုးလှဲချသည်။ ပြိုလဲကျစေသည်။ ❸ [__الْبَيْتَ](အိမ်ကို)ဖြိုချသည်။ ဖျက်ချသည်။

[تَجَرْجَمَ] ❶ [__الطَّعَامُ](အစားအစာ)တစ်စက်မျှ မကျန်အောင် အကုန်စားထားသည်။ လုံးဝမကျွင်းမကျန် ကုန်ဆုံးသည်။ ❷ [__الرَّجُلُ]လဲကျသည်။ ပြိုလဲကျသည်။ ❸ [__الْبَيْتُ](အိမ်)ပြိုကျသည်။ ပျက်ကျသည်။ ❹ [__الشَّيْءُ]ကျသည်။ ပြုတ်ကျသည်။ ❺ [__فِى الْاَكْلِ]အစားများသည်။ ❻ [__فِى مَكَانِهِ](မိမိနေရာ၌)ခပ်ကုတ်ကုတ် နေသည်။ ကိုယ်ကို ကျုံ့လျက်နေသည်။

✿ [جَرَحَ] ❶ ခန္ဓာကိုယ်၌ ကွဲရှသည်။ ထိခိုက်ဒဏ်ရာရသည်။ ❷ [__هُ بِلِسَانِهِ]နာကြင်အောင်ပြောဆိုသည်။ ဆဲဆိုသည်။ ❸ [__الشَّيْءَ]ရှာဖွေဆည်းပူးသည်။ ပြုမူကျင့်ကြံသည်။

﴿وَهُوَ الَّذِىْ يَتَوَفّٰكُمْ بِالَّيْلِ وَيَعْلَمُ مَاجَرَحْتُمْ بِالنَّهَارِ﴾ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် အသင်တို့အား ညအချိန်၌ အိပ်စက်စေတော်မူသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့ နေ့၌ ပြုမူကြသမျှကို သိရှိတော်မူသည်။

[هُوَ يَجْرَحُ لِعِيَالِهِ]သူ သူ့မိသားစုအတွက် ဝမ်းစာရှာသည်။

[جَرْحٌ] ❶ ခန္ဓာကိုယ်၌ ကွဲရှခြင်း။ ထိခိုက်ဒဏ်ရာရခြင်း။ ❷ နာကြင်အောင်ပြောဆိုခြင်း။ ဆဲဆိုခြင်း။ ❸ ရှာဖွေဆည်းပူးခြင်း။ ပြုမူကျင့်ကြံခြင်း။

[جَرِيْحٌ] ❶ ခန္ဓာကိုယ်၌ ကွဲရှသော(သူ)။ ထိခိုက်ဒဏ်ရာရသော(သူ)။ ❷ နာကြင်အောင် ပြောဆိုသော(သူ)။ ဆဲဆိုသော(သူ)။

(ငှက်၊ ခွေးစသည်)။(ج)[جَوَارِحُ]။
﴿وَعَلَّمْتُمْ مِنَ الْجَوَارِحِ﴾ ငှင်းပြင် အသင်တို့ သင်ကြားပေးထားသော အမဲလိုက်တိရစ္ဆာန်များ။ ❷ သက်သေထွက် ဆိုချက်သို့မဟုတ် အဆိုတစ်ရပ်၏အားနည်းချို့ယွင်းချက်။

[اَلْجِرَاحَةُ] ❶ ထိခိုက်ဒဏ်ရာ။ နာကျင်မှု။ ❷ ခွဲစိတ်ကုသမှု အတတ်ပညာ။ ❸ ခွဲစိတ်ကုသမှု။

[اَلْجِرَاحَةُ] ထိခိုက်ဒဏ်ရာ။ နာကျင်မှု။(ج)[جُرُوْحٌ۔جِرَاحٌ]။

[اَلْجُرْحَةُ] သက်သေထွက်ဆိုချက် သို့မဟုတ် အဆိုတစ်ရပ်၏အားနည်းချက်။ ချို့ယွင်းချက်။ လက်မခံနိုင်ဖွယ် အပြစ်အနာအဆာ။

[اَلْجَرَّاحُ] ခွဲစိတ်ကုသသူ။

[جَرَدَ۔] ❶ အခွံကွာစေသည်။ အခွံချွတ်သည်။[ـه مِنْ ثَوْبِهِ]သူ့အဝတ်ကို ဆွဲချွတ်သည်။ ❷ [ـالْجِلْدَ](သားရေရှိ အမွေးများကို)ချွတ်သည်။ ❸ [ـالْجَرَادُ الْاَرْضَ](ကျိုင်းကောင် မြေ၌ရှိသမျှ အပင်များကို)ပြောင်စင်အောင် ဖျက်ဆီးစားသောက်သွားသည်။ ❹ [ـالْقَحْطُ الْاَرْضَ](မိုးခေါင်ရေရှားမှုက မြေ၌ရှိ သမျှအပင်များကို)သေကျေပျက်စီးစေသည်။ ❺ [ـالسَّيْفَ]ဓါးကို ဓါးအိမ်မှ ဆွဲထုတ်သည်။ ❻ [ـالْقَوْمَ](လူတို့ထံမှတောင်းဆိုရာ)တစ်စုံတစ်ရာမျှမရဘဲ လက်မဲ့ဖြစ်သည်။ (လူတို့ထံမှ တောင်းဆိုရာ)ကျေနပ်မှုမရှိဘဲ ပေးကမ်းသည်ကို ရရှိသည်။ ❼ [ـمَا فِى الْمَخْزَنِ اَوِ الْحَانُوْتِ](သိုလှောင်ခန်း သို့မဟုတ်ဆိုင်ရှိ ပစ္စည်းများကို)ရေတွက်မှတ်

❷ ရာဖွေဆည်းပူးသော(သူ)။ ပြုမူကျင့်ကြံသော(သူ)။(ج)[جَرْحَى]။

[جَرَحَ۔] ❶ ခန္ဓာကိုယ်၌ ကွဲရှသည်။ ထိခိုက်ဒဏ်ရာရသည်။ ❷ မိမိ၏အဆို၊ တင်ပြချက်၊ သက်သေထွက်ဆိုချက် ဝေဖန်ခံရသည်။

[جَرْحٌ] ❶ ခန္ဓာကိုယ်၌ ကွဲရှခြင်း။ ထိခိုက်ဒဏ်ရာရခြင်း။ ❷ မိမိ၏အဆို၊ တင်ပြချက် ဝေဖန်ခံရခြင်း။

[جَرَّحَ] အပြင်းအထန်ထိခိုက်နာကျင်စေသည်။ အကြိမ်ကြိမ် ထိုးနှက်ဒုက္ခပေးသည်။ [جَرَّحُوْا اَنْبِيَاءَ]သူ့ကို ဝိုင်း၍ ဆဲဆိုဝေဖန်ကြသည်။

[اِجْتَرَحَ] ❶ (မကောင်းမှု၊ ပြစ်မှု)ကျူးလွန်သည်။ ပြုမူလုပ်ကိုင်သည်။ ﴿اَمْ حَسِبَ الَّذِيْنَ اجْتَرَحُوا السَّيِّاٰتِ﴾မကောင်းမှုများကို ကျူးလွန်ကြသူတို့သည် ထင်မှတ်ကြလေသလော။ ❷ ရာဖွေဆည်းပူးသည်။ [هُوَ يَجْتَرِحُ لِعِيَالِهِ]သူ သူ့မိသားစုအတွက် ဝမ်းစာရှာသည်။

[اِسْتَجْرَحَ] [ـالشَّاهِدُ]သက်သေထွက်ဆိုသူ၏သက်သေထွက်ဆိုချက် ချို့ယွင်းအားနည်းသည်။ မခိုင်မလုံဖြစ်သည်။

[اَلْجَارِحُ] [جَارِحُ عِيَالِهِ]မိမိ၏ မိသားစု စားဝတ်နေရေးအတွက် ဝမ်းစာရှာသူ။

[اَلْجَارِحَةُ] ❶ လုပ်ရှားအသုံးပြုရသော ခန္ဓာကိုယ်အစိတ်အပိုင်း(ခြေ၊ လက်စသည်)။ ❷ အမဲလိုက်တိရစ္ဆာန်၊ သားကောင်ကို ဖမ်းဆီးပေးရန် လေ့ကျင့်သင်ကြားပေးထားသော

သွားသည်။ ❿ [الْقُطْنَ] (ဝါဂွမ်းကို)အစေ့ထုတ်သည်။

[جَرْدٌ] ❶ အခွံကွာစေခြင်း။ အခွံချွတ်ခြင်း။ ❷ (သားရေရှိ အမွေးများကို)ချွတ်ခြင်း။ ❸ (ကျိုင်းကောင် မြေ၌ရှိသမျှ အပင်များကို)ပြောင်စင်အောင် ဖျက်ဆီးစားသောက်သွားခြင်း။ ❹ (မိုးခေါင်ရေရှားမှုက မြေ၌ရှိသမျှအပင်များကို)သေကျေပျက်စီးစေခြင်း။ ❺ (ဓါးကို ဓါးအိမ်မှ)ဆွဲထုတ်ခြင်း။ ❻ (လူတို့ထံမှ တောင်းဆိုရာ) တစ်စုံတစ်ရာမျှမရဘဲ လက်မဲ့ဖြစ်ခြင်း။ (လူတို့ထံမှ တောင်းဆိုရာ)ကျေနပ်မှုမရှိဘဲ ပေးကမ်းသည်ကို ရရှိခြင်း။ ❼ (သိုလှောင်ခန်းသို့မဟုတ်ဆိုင်ရှိ ပစ္စည်းများကို)ရေတွက်မှတ်သားခြင်း။ ❽ (ဝါဂွမ်းကို)အစေ့ထုတ်ခြင်း။

[جَرِدَ ـ] ❶ ခန္ဓာကိုယ်၌ အမွေးကင်းစင်သည်။ အမွေးပါးသည်။ ❷ [الْمَكَانُ] အပင်ကင်းမဲ့သည်။ ❸ [ـتِ السَّمَاءُ] တိမ်ကင်းစင်သည်။ ❹ [شَعْرُ الْفَرَسِ] (မြင်းအမွေး)တို့၏ပါးသည်။ ❺ [الرَّجُلُ] ကျိုင်းကောင်ကို စားသဖြင့် အရေပြား၌ ယားယံပြီးနာကျင်စေသည့် အနီဖုများပေါက်သည်။ ❻ [الثَّوْبُ] (အဝတ်)ဆွေးမြေ့ ဟောင်းနွမ်းသည်။ ❼ [الْيَوْمُ أَوِ الشَّهْرُ] (တစ်ရက်သို့မဟုတ်တစ်လ)ပြည့်သွားသည်။

[جَرَدٌ] ❶ ခန္ဓာကိုယ်၌ အမွေးကင်းစင်ခြင်း။ အမွေးပါးခြင်း။ ❷ အပင်ကင်းမဲ့ခြင်း။ ❸ တိမ်ကင်းစင်ခြင်း။ ❹ (မြင်းအမွေး)တို့၏ပါးခြင်း။ ❺ ကျိုင်းကောင်ကို စားသဖြင့် အရေပြား၌ ယားယံပြီး နာကျင်စေသည့် အနီဖုများပေါက်ခြင်း။ ❻ (အဝတ်)ဆွေးမြေ့ ဟောင်းနွမ်းခြင်း။ ❼ (တစ်ရက်သို့မဟုတ်တစ်လ)ပြည့်သွားခြင်း။

[أَجْرَدُ] ❶ ခန္ဓာကိုယ်၌ အမွေးကင်းစင်သော(သူ)။ (ဇ) [جُرْدٌ]။ ❷ [فَرَسٌ أَجْرَدُ] အမွေးတို့၏ပါးသော(မြင်း)

(မ) [جَرْدَاءُ] [أَجْرَدُ ـ جَرِدٌ ـ جَرْدٌ] အပင်ကင်းမဲ့သော(နေရာ)။ [أَرْضٌ جَرِدَةٌ أَوْ جَرْدَاءُ] [جَرِدَةٌ ـ جَرْدَاءُ]။ အပင်မရှိသော မြေနေရာ။ [سَمَاءٌ جَرْدَاءُ] မိုးတိမ်ကင်းစင်သော ကောင်းကင်။ (ဇ) [جُرْدٌ]။

[جَرِدٌ] ကျိုင်းကောင်ကို စားသဖြင့် အရေပြား၌ ယားယံပြီးနာကျင်စေသည့် အနီဖုများပေါက်သော(သူ)။ (ဇ) [جُرْدٌ]။

[أَجْرَدُ ـ جَرِيدٌ] ပြည့်ဝကုန်ဆုံးသွားသော(ရက်၊ လ)။

[جُرِدَ] ❶ ကျိုင်းကောင်ကို စားသဖြင့် ဗိုက်နာသည်။ ❷ [الزَّرْعُ] စိုက်ခင်း၌ ကျိုင်းကောင်များ ကျရောက်သည်။

[مَجْرُودٌ] ❶ ကျိုင်းကောင်ကို စားသဖြင့် ဗိုက်နာသော(သူ)။ ❷ ကျိုင်းကောင်များ ကျရောက်သော(မြေနေရာ၊ စိုက်ခင်း)။

[جَرَّدَ] ကင်းကွာစေသည်။ [فُلَانًا الثَّوْبَ] အဝတ်ကို ကျွတ်စေသည်။ ကိုယ်လုံးတည်းထားသည်။ [الْجِلْدَ] သားရေရှိ အမွေးများကို ပြောင်စင်စေသည်။ [السَّيْفَ مِنْ غِمْدِهِ] ဓါးကို ဓါးအိမ်မှ ချွတ်သည်။ ဓါးကို ဓါးအိမ်မှ ဆွဲထုတ်သည်။

[اِنْجَرَدَ] ❶ ကင်းစင်သည်။ [مِنَ الثَّوْبِ] အ

ဝတ်ကင်းသည်။ ကိုယ်လုံးတည်း ဖြစ်သည်။ [ـالْاِبِلُ مِنْ اَوْبَارِهَا](ကုလားအုတ်)အမွေးကျွတ်သည်။ ❷ [ـالسُّنْبُلُ]အနှံ အဖူးမှ ကွဲထွက်သည်။ ❸ [ـالثَّوْبُ](အဝတ်)ဆွေးမြေ့ဟောင်းနွမ်းသည်။ ❹ [ـ شَعْرُ الفَرَسِ](မြင်း၏အမွေး)တိုသည်။ ❺ [ـفِى سَيْرِهِ]ကြိုးစားအားထုတ်၍ သွားသည်။ ❻ [ـبِهِ السَّيْرُ] အဝေးကိုရောက်ရှိသွားသည်။ ❼ [ـالْفَرَسُ](မြင်း)ပြိုင်မြင်းများကို ကျော်ထွက်သွားသည်။

[تَجَرَّدَ] ❶ ကင်းစင်သည်။[ـمِنَ الثَّوْبِ]အဝတ်ကင်းသည်။ ကိုယ်လုံးတည်း ဖြစ်သည်။ ❷ [ـالسُّنْبُلُ]အနှံ အဖူးမှ ကွဲထွက်သည်။ ❸ [ـلِلْاَمْرِ]ကြိုးစားအားထုတ်သည်။ ❹ [ـالْفَرَسُ](မြင်း)ပြိုင်မြင်းများကို ကျော်ထွက်သွားသည်။

[اَلْاَجْرَدُ] ❶ [فَرَسٌ سَبَّاقٌ]အကြိမ်ကြိမ်ရှေ့ကိုကျော်တက်သောမြင်း။ ❷ [لَبَنٌ اَجْرَدُ]အမြှုပ်မထွက်သောနို့။ ❸ [قَلْبٌ اَجْرَدُ]ဖေါက်ပြန်မှု၊ လိမ်ညာကောက်ကျစ်မှုမရှိသော နှလုံးသား။ ❹ နောက်ကျော။[رُمِىَ عَلَى اَجْرَدِهِ]သူ့ကျောမှာ အပစ်ခံရတယ်။(ج) [اَجَارِدُ]။

[اَلتَّجْرِيْدُ] ❶ အခွံခွါခြင်း။ ❷ အဝတ်ကိုချွတ်ခြင်း။ ❸ ကင်းကွာစေခြင်း။ ကင်းစင်စေခြင်း။

[اَلْجَارُوْدُ] ❶ [سَنَةٌ جَارُوْدٌ]မိုးခေါင်ရှားဖြစ်သောနှစ်။ ❷ [رَجُلٌ جَارُوْدٌ]မင်္ဂလာမရှိသောယောကျ်ား။

[اَلْجَارُوْدِيَّةُ] ရှီအဟ်ဂိုဏ်းဝင် ဇိုင်ဒီယဟ်အုပ်စုတစ်စု၏အမည်။(အဗုလ်ဂျာရှုးဒ်ဇိယားဒ်ဘင်နဲ အလ်မွန်ဇိရ်ဟမ်ဒါနီ၏ နောက်လိုက်များ။)

[اَلْجَرَادُ] ကျိုင်းကောင်။(နှံကောင်တစ်မျိုး)။

[اَلْجُرَادَةُ] အခွံသင်ထားသော၊ အခွံနွှာထားသော၊ အခွံချွတ်ထားသော(အရာ)။

[اَلْجَرْدَاءُ] ❶ ပြောင်ချောနေသော၊ ပြောင်လက်နေသော(အရာ)။[صَخْرَةٌ جَرْدَاءُ]ပြောင်ချောနေသောကျောက်တုံး။ ❷ အစားကြီးသော။ [نَاقَةٌ جَرْدَاءُ]အစားကြီးသောကုလားအုတ်မ။ ❸ အပင်ကင်းမဲ့သော(နေရာ)။ [اَرْضٌ جَرْدَاءُ]အပင်ကင်းမဲ့သောမြေ။ [اَلْجَرَدُ] [اَلْجَرَدُ مِنَ الْاَرْضِ]အပင်မရှိသောကွင်းပြင်။ လွင်ပြင်။(ج) [اَجَارِدُ]။

[اَلْجَرْدُ] ❶ သံခမောက်။ ❷ ပစ္စည်းအကြွင်းအကျန်။

[اَلْجَرَّادُ] ❶ [لِصٌّ جَرَّادٌ]ကိုယ်၌ရှိသောအဝတ်ပါမကျန်အောင် ခိုးသောသူခိုး။ ❷ ရွှေခွက်များကို အရောင်တောက်အောင် ပြုလုပ်သူ။

[اَلْجَرُوْدُ] [نَاقَةٌ جَرُوْدٌ]အစားကြီးသော ကုလားအုတ်မ။

[اَلْجَرِيْدَةُ] ❶ စွန်ပလွံ၊ အုန်းစသည်တို့၏ အကိုင်းအလက်မှခွါယူထားသော ရှည်လျားသည့်အခေါက်အကြော။ ❷ ပစ္စည်းအကြွင်းအကျန်။ ❸ ရိက္ခာစာရင်းဇယား။ ❹ နေ့စဉ်သတင်းစာ။ (ج) [جَرَائِدُ]။

[اَلْمَجْرَدُ] ဝါဂွမ်းမှ အစေ့ကို ထုတ်သည့်နေရာ။ ဝါဖတ်သည့်နေရာ။

[اَلْمُجَرَّدُ] ❶ အာရုံများဖြင့်မသိနိုင်ပဲ ဦး

နောက်ဖြင့်သာ စဉ်းစားယူ၍ရသော(အရာ)။ ❷ အပိုမပါသော၊ မူလအတိုင်းရှိသော(အရာ)။ [الثُّلَاثِى الْمُجَرَّدُ]မူလအက္ခရာသုံးလုံးသာလျှင်ရှိသောကြိယာ။

✿ [جَرْدَبَ] ❶ [ـالطَّعَامَ وَعَلَى الطَّعَامِ](အစားအစာကို)အကုန်စားသည်။ ❷ (အစားအစာကို)ညာလက်ဖြင့်စား၍ ဘယ်လက်ဖြင့် အခြားသူများဝင်မစားနိုင်အောင် ကာဆီးထားသည်။ ကိုယ်ကျိုးကိုသာကြည့်သည်။တစ်ကိုယ်ကောင်းဆန်လွန်းသည်။

[جَرْدَبَانُ ـ جُرْذُبَانُ] ❶ (အစားအစာကို)အကုန်စားသော(သူ)။ ❷ (အစားအစာကို)ညာလက်ဖြင့်စား၍ ဘယ်လက်ဖြင့် အခြားသူများဝင်မစားနိုင်အောင် ကာဆီးထားသော(သူ)။ ကိုယ်ကျိုးကိုသာကြည့်သော(သူ)။ တစ်ကိုယ်ကောင်း ဆန်လွန်းသော(သူ)။

[جَرْدَبِىٌّ] ❶ (အစားအစာကို)အကုန်စားသော(သူ)။ ❷ (အစားအစာကို)ညာလက်ဖြင့်စား၍ ဘယ်လက်ဖြင့် အခြားသူများဝင်မစားနိုင်အောင် ကာဆီးထားသော(သူ)။ ကိုယ်ကျိုးကိုသာကြည့်သော(သူ)။ တစ်ကိုယ်ကောင်း ဆန်လွန်းသော(သူ)။

✿ [اَلْجَرْدَقُ] မုန့်ကြမ်း။

✿ [اَلْجَرْدَلُ] လက်ဆွဲပုံး။ သံပုံး။(ج) [جَرَادِلُ]။

✿ [جَرْدَمَ] ❶ [ـفُلَانٌ]အလျှင်အမြန် ပြုလုပ်သည်။ အမြန်သွားသည်။ ❷ စကားများသည်။ အလွန်စကားပြောသည်။

❸ [ـفِى الطَّعَامِ](အစားအစာကို)အကုန် စားသည်။ ❹ [ـمَافِى الإِنَاءِ](ခွက်ထဲ၌ရှိသမျှကို) အကုန်စားသည်။ ❺ [ـالسِّتِّينَ مِنَ السِّنِينَ]အသက်ခြောက်ဆယ်ကျော်ဖြစ်သည်။

[اَلْجَرْدَمُ] ကိုယ်အနက်ရောင်ရှိပြီး ဦးခေါင်းအစိမ်းရောင်ဖြစ်သော နှံကောင်တစ်မျိုး။

✿ [جَرِذَ ـَ] [ـتِ الْقَرْحَةُ]ပြီတည်နာ ဖေါရောင်သည်။ ဖုထွက်ရောင်ကိုင်းသည်။

[جَرَذٌ] (ပြီတည်နာ)ဖေါရောင်ခြင်း။ ဖုထွက်ရောင်ကိုင်းခြင်း။

[جَرِذَ ـَ] ❶ [ـتِ الْقَرْحَةُ]ပြီတည်နာ ဖေါရောင်သည်။ ဖုထွက်ရောင်ကိုင်းသည်။ ❷ [ـالْفَرَسُ](မြင်း၏)နောက်ခြေနှစ်ဘက်ဒူးအရင်း၌ အနာဖြစ်ပြီး ဖူးရောင်သည်။

[جَرَذٌ] ❶ (ပြီတည်နာ)ဖေါရောင်ခြင်း။ ဖုထွက်ရောင်ကိုင်းခြင်း။ ❷ (မြင်း၏)နောက်ခြေနှစ်ဘက်ဒူးအရင်း၌ အနာဖြစ်ပြီးဖူးရောင်ခြင်း။

[اَجْرَذَ] ❶ [ـهُ اِلَى الشَّيْءِ]တစ်စုံတစ်ရာကို အတင်းအကြပ် ပြုလုပ်ရန် အကြောင်းဖြစ်စေသည်။ တစ်စုံတစ်ရာကို ပြုလုပ်ရန်မှတစ်ပါး အခြားရွေးချယ်စရာမရှိအောင် ဘေးကြပ်နံကြပ်ဖြစ်စေသည်။ အကြပ်အတည်းဆိုက်ရောက်စေသည်။ ❷ အခြားဆီသို့ ခိုလှုံရန် တွန်းပို့သည်။

[جَرَّذَ] ❶ [ـالشَّجَرَةَ](သစ်ပင်၏ အခေါက်ကို)ခွါသည်။ သစ်ပင်၏အတွင်းသား ပေါ်လွင်သည်အထိ အကိုင်းအလက်များနှင့် အခွံကို သင်သည်။ ❷ [ـهُ الدَّهْرُ](အချိန်ကာလက သူ့ကို)ရင့်ကျက်ခိုင်မာစေသည်။

[اَلْاَجْرَذُ] ခြေကားသူ။

[اَلْجَرَذُ] တိရစ္ဆာန်၏ နောက်ခြေနှစ်ဘက်ရှိ

ဒူး၌ အနာဖြစ်၍ ဖူးရောင်ခြင်း။

[اَلْجُرَذُ] မြေကြွက်ကြီး၊ ကြွက်အကြီးစား။ (ج) [اَلْجِرْذَانُ]။

[اَلْجَرِذَةُ] မြေကြွက်ကြီးများ ပေါများသည့်နေရာ။

❀ [جَرَّ ـُ] ၁ [ـتِ الْمَاشِيَةُ](တိရစ္ဆာန်)သွားလာကျက်စားသည်။ ၂ [ـتِ الْحَامِلُ](ကိုယ်ဝန်ဆောင်မိခင်)ကိုယ်ဝန်ဆောင်ရက် ကျော်လွန်သည်။ မွေးရမည့်အချိန်ကျော်လွန်၍ ကိုယ်ဝန်ဆောင်ထားသည်။ ၃ [ـالنَّاقَةَ](ကျက်စားနေသောကုလားအုတ်ကို)စီးသည်။ ၄ [ـالْإِبِلَ](ကုလားအုတ်ကို)ညှင်ညှင်သာသာ မောင်းသည်။ ဖြေးဖြေးမောင်းနှင်သည်။ ၅ [ـالْفَصِيلَ](နို့ဖြတ်ကာစ ကုလားအုတ်ငယ်ကို)နို့မစို့နိုင်အောင် လျှာကို ခွဲထားသည်။ ၆ [ـالْخَيْلُ الْأَرْضَ بِسَنَابِكِهَا](မြင်း)မြေကို ခွါဖြင့်ပေါက်သည်။ မြေ၌ ခွါအရာထင်စေသည်။ ၇ [ـعَلَى نَفْسِهِ](အပြစ်)ကျူးလွန်သည်။ ထိခိုက်နာကျင်စေမှုကို ပြစ်မှားကျူးလွန်သည်။

[جَرٌّ] ၁ (တိရစ္ဆာန်)သွားလာကျက်စားခြင်း။ ၂ (ကိုယ်ဝန်ဆောင်မိခင်)ကိုယ်ဝန်ဆောင်ရက် ကျော်လွန်ခြင်း။ မွေးရမည့်အချိန်ကျော်လွန်၍ ကိုယ်ဝန်ဆောင်ထားခြင်း။ ၃ (ကျက်စားနေသော ကုလားအုတ်ကို)စီးခြင်း။ ၄ (ကုလားအုတ်ကို)ညှင်ညှင်သာသာ မောင်းနှင်ခြင်း။ ဖြေးဖြေးမောင်းနှင်ခြင်း။ ၅ (နို့ဖြတ်ကာစ ကုလားအုတ်ငယ်ကို)နို့မစို့နိုင်အောင် လျှာကို ခွဲထားခြင်း။ ၆ (မြင်း)မြေကို ခွါဖြင့်ပေါက်ခြင်း။ မြေ၌ ခွါအရာထင်စေခြင်း။ ၇ (အပြစ်)ကျူးလွန်ခြင်း။ ထိခိုက်နာကျင်စေမှုကို ပြစ်မှားကျူးလွန်ခြင်း။

[جَرُورٌ] ကိုယ်ဝန်ဆောင်ရက် ကျော်လွန်သော(ကိုယ်ဝန်ဆောင်မိခင်)။ မွေးရမည့်အချိန်ကျော်လွန်၍ ကိုယ်ဝန်ဆောင်ထားသော(ကိုယ်ဝန်ဆောင်မိခင်)။

[أَجَرَّ] ၁ [ـتِ الْبِئْرُ](ရေတွင်း)အောက်ခြေ အလွန်နက်ရှိုင်းသည်။ (ရေတွင်း)ရေအောက်ကြမ်းပြင် နက်သည်။ ၂ [ـالْبَعِيرَ](ကုလားအုတ်ကို ဆွဲသည့်ကြိုးကို)ကုလားအုတ် လည်ဂုတ်ပေါ်၌ တင်ထားသည်။ ၃ [ـالْفَصِيلَ](နို့ဖြတ်ကာစ ကုလားအုတ်ငယ်ကို)နို့မစို့နိုင်အောင် လျှာခွဲထားသည်။ [ـلِسَانَهُ]သူ့ကို စကားမပြောရန် တားဆီးထားသည်။ ၄ [ـفُلَانًا أَغَانِيَّهُ](သီဆိုသူတစ်ဦးတစ်ယောက်၏နောက်မှ)လိုက်ဆိုသည်။ ၅ [ـفُلَانًا الدَّيْنَ](အကြွေးကို)နောက်ဆိုင်းထားသည်။ ၆ [ـفُلَانًا الرُّمْحَ](တစ်ဦးတစ်ယောက်ကို လှံဖြင့်)ထိုး၍ ပြန်မနှုတ်ဘဲထားသည်။

[جَارَّ] [جَارَّهُ](တစ်ဦးတစ်ယောက်အား)ပေးဆပ်ရန် သတ်မှတ်ထားသောအချိန်ကို အကြိမ်ကြိမ်သတ်မှတ်ရွှေ့ဆိုင်းသည်။(တစ်ဦးတစ်ယောက်အား ပေးဆပ်ရန်ရှိသည်ကို သတ်မှတ် ချိန်ကျရောက်လာသော်လည်း ပေးဆပ်ခြင်းမရှိဘဲ နောက်ထပ် သတ်မှတ်ချိန်တစ်ခု၌ ပေးရန်အကြိမ်ကြိမ်ကတိပြု၍

[اَلْجَشَشُ] အက်ကွဲသံပါသော အသံ။

[اَلْجَشُّ] ❶ ကြမ်းတမ်းသော ကျောက်ခဲများရှိသောနေရာ။ ❷ အလယ်ဗဟို။

[اَلْجُشُّ] ❶ ကြမ်းတမ်းသော ကျောက်ခဲများရှိသောနေရာ။ ❷ အလယ်ဗဟို။ ❸ ည၏အစိတ်အပိုင်း။ ညပိုင်းအချိန်တစ်ချိန်။(ဇ) [جِشَاشٌ]။

[اَلْجَشَّاءُ] ❶ စွန်ပလွံပင် စိုက်ပျိုးရန် အသင့်တော်ဆုံးဖြစ်သောမြေ။ ❷ အသဲ။

[مَا اَكَلُ الْجَشَّاءَ مِنْ شَهْوَتِهَا وَلٰكِنْ لِيُعْلِمَ اَهْلَ بَيْتِيْ اَنَّهَا حَلَالٌ]

ကျွန်ုပ်သည် အသဲကို နှစ်သက်သဖြင့်စားရခြင်းမဟုတ်ပါ။ ကျွန်ုပ်၏မိသားစုကို အသဲသည် တရားတော်အရ စားခွင့်ရှိသောအရာဖြစ်ကြောင်း အသိပေးစေလို၍ စားခြင်းသာဖြစ်သည်။

[اَلْجُشَّانُ] ❶ ကြမ်းတမ်းသော ကျောက်ခဲများရှိသောနေရာ။ ❷ အလယ်ဗဟို။

[اَلْجَشَّةُ] အုပ်စုလိုက် ထပြေးကြသူများ။

[اَلْجُشَّةُ] ❶ အုပ်စုလိုက် ထပြေးကြသူများ။ ❷ အသံပြင်းထန်ခြင်း။ ❸ အက်ကွဲ၍ နှာခေါင်းသံပါသောအသံ။

[اَلْجَشِيْشَةُ] ဂျုံမှုန့်၊ ဆန်မှုန့်စသည်၌ အသားသို့မဟုတ် စွန်ပလွံသီးကို ထည့်၍ချက်ထားသော အစားအစာ။

﴿اَنَّهُ ﴿ﷺ﴾ اَوْلَمَ عَلٰى بَعْضِ اَزْوَاجِهِ بِجَشِيْشَةٍ﴾

တမန်တော်မြတ်သည် ကြင်ယာတော်တစ်ပါးနှင့် ထိမ်းမြားမှုပြုရာ၌ ဂျုံမှုန့်၌ အသားသို့မဟုတ် စွန်ပလွံသီးကို ထည့်၍ချက်ထားသောအစားအစာကို ကျွေးမွေးဧည့်ခံခဲ့သည်။

[اَلْمَجَشُّ] ကြိတ်ဆုံ၊ ကြိတ်စက်။(ဇ)[مَجَاشُّ]။

[اَلْمِجَشَّةُ] ကြိတ်ဆုံ၊ ကြိတ်စက်။(ဇ)[مَجَاشُّ]။

✽ [جَشِعَ ـَ] ❶ လောဘရမက်ကြီးသည်။ ❷ မိမိနှင့် ချစ်ခင်ရင်းနှီးသူနှင့် ကွေကွင်းရသည့်အတွက် စိတ်ပူပင်သောကရောက်သည်။ စိတ်လှုပ်ရှားသည်။ ❸ ကြောက်ရွံ့တုန်လှုပ်သည်။

[جَشَعٌ] ❶ လောဘရမက်ကြီးခြင်း။ ❷ မိမိနှင့် ချစ်ခင်ရင်းနှီးသူနှင့် ကွေကွင်းရသည့်အတွက် စိတ်ပူပင်သောကရောက်ခြင်း။ စိတ်လှုပ်ရှားခြင်း။ ❸ ကြောက်ရွံ့တုန်လှုပ်ခြင်း။

[جَشِعٌ] ❶ လောဘရမက်ကြီးသော (သူ)။ ❷ မိမိနှင့် ချစ်ခင်ရင်းနှီးသူနှင့် ကွေကွင်းရသည့်အတွက် စိတ်ပူပင်သောကရောက်သော(သူ)။ စိတ်လှုပ်ရှားခြင်း။ ❸ ကြောက်ရွံ့တုန်လှုပ်သော(သူ)။(ဇ)[جُشَعَاءُ ـ جِشَاعٌ ـ جَشَاعَى]။

[تَجَاشَعَ] အလုအယက် တိုးဝှေ့လုယူသည်။

[تَجَشَّعَ] [ـ عَلَيْهِ]အလွန်လောဘကြီးစွာဖြင့် ရယူလိုသည်။ တတ်မက်မှုလွန်ကဲသည်။

[اَلْجَشِعُ] ❶ အရာရာကို မိမိတစ်ဦးတည်းရရှိခံစားလို၍ အခြားသူတို့ခံစားရမည်ကို အလွန်ကြောက်ရွံ့စိုးရိမ်သူ။ ❷ ခြင်္သေ့။

✽ [جَشَمَ ـِ] ❶ ဝဖြိုးသည်။ ❷ လေးလံသည်။ ❸ [ـ الْاَمْرَ](အမှုကိစ္စတစ်စုံတစ်ရာကို)ခက်ခဲစွာ တာဝန်ယူဆောင်ရွက်သည်။

[جَشْمٌ] ❶ ဝဖြိုးခြင်း။ ❷ လေးလံခြင်း။

[جَشْمٌ - جَشَامَةٌ] (အမှုကိစ္စတစ်စုံတစ်ရာကို)ခက်ခဲစွာ တာဝန်ယူဆောင်ရွက်ခြင်း။

[جَشِمٌ - جَشِيْمٌ] ❶ ဝဖြိုးသော(သူ)။ ❷ လေးလံသော(သူ)။

[جَاشِمٌ - جَشُوْمٌ] (အမှုကိစ္စတစ်စုံတစ်ရာကို)ခက်ခဲစွာ တာဝန်ယူဆောင်ရွက်သော(သူ)။

[أَجْشَمَ] [_أَمْرًا](အမှုကိစ္စတစ်စုံတစ်ရာကို)ခိုင်းစေတာဝန်ပေးသည်။

[جَشَّمَ] [_أَمْرًا](အမှုကိစ္စတစ်စုံတစ်ရာကို)ခိုင်းစေတာဝန်ပေးသည်။

[مَهْمَا تَجَشَّمْنِى فَإِنِّى جَاشِمٌ]ခင်ဗျား ကျွန်တော့ကို ဘာတာဝန်ဘဲပေးပေး ကျွန်တော်ကတော့ ဒုက္ခခံပြီးဆောင်ရွက်မဲ့သူဖြစ်တယ်။

[تَجَشَّمَ] ❶ [_الأَمْرَ](အမှုကိစ္စတစ်စုံတစ်ရာကို)ခက်ခဲစွာ တာဝန်ယူဆောင်ရွက်ပေးသည်။ ❷ [_فُلَانًا بَيْنَ الْقَوْمِ](လူအများကြားမှ တစ်ဦးတစ်ယောက်ထံသို့)ဦးတည်ရည်ရွယ်သည်။ ❸ [_الأَرْضَ](နယ်မြေတစ်ခုသို့)ဦးတည်ရည်ရွယ်၍သွားသည်။ ❹ ရွေးချယ်သည်။

[اَلْجُشْمُ] ❶ လေးလံမှု။ ❷ လေးလံသောဝန်။ ခက်ခဲသောတာဝန်။ ❸ ဒဂါးအညွှံစား။ (ج)[جُشُوْمٌ]။

[اَلْجُشَمُ] ❶ လေးလံမှု။ ❷ လေးလံသောဝန်။ ခက်ခဲသောတာဝန်။ ❸ ရင်ပုံပိုင်း၊ ရင်အုပ်ပိုင်း။(ج)[جُشُوْمٌ]။

✿ [جَشِنَ _] ဝဖြိုးတုတ်ခိုင်သည်။

[جَشْنٌ] ဝဖြိုးတုတ်ခိုင်ခြင်း။

[جَشِنٌ] ဝဖြိုးတုတ်ခိုင်သော(သူ)။

[اَلْجُشْنَةُ] အလွန်သေးငယ်သော ငှက်တစ်မျိုး။

[اَلْجَوْشَنُ] ❶ ရင်ဘတ်။ ❷ ရင်ဖုံးအကျႌ။ ❸ သံချပ်အကျႌ။ ❹ ညလယ်ယံ။ သန်းခေါင်အချိန်။

✿ [جَصَّ _] တင်းတင်းကြပ်ကြပ် ချည်နှောင်ထားသဖြင့် ညည်းညူသည်။

[جَصٌّ - جَصِيْصٌ] တင်းတင်းကြပ်ကြပ် ချည်နှောင်ထားသဖြင့် ညည်းညူခြင်း။

✿ [جَصَّصَ] ❶ [_الْجِرْوُ](ခွေး၊ ခြင်္သေ့ စသော သားရဲတို့၏ကလေးငယ်၊ သားပေါက်)မျက်လုံးဖွင့်၍ လိုက်ကြည့်သည်။ မျက်လုံးကစားသည်။ ❷ [_النَّبْتُ](အပင်)အညှောင့်ထွက်သည်။ ❸ [_الزَّهْرُ](ပန်း)အအဖူးထွက်သည်။ ❹ [_الْبِنَاءَ](အဆောက်အဦးကို)သရွတ်၊ အင်္ဂတေကိုင်သည်။ သရွတ်မံသည်။ ❺ [_الإِنَاءَ](ခွက်ကို)ဖြည့်သည်။

[اِجْتَصَّ] [_الْقَوْمُ]တစ်ဦးနှင့်တစ်ဦးနီးကပ်စွာ စုဝေးကြသည်။

[تَجَاصَّ] [_الْقَوْمُ]တစ်ဦးနှင့်တစ်ဦးနီးကပ်စွာ စုဝေးကြသည်။

[اَلْجِصُّ] သရွတ်၊ အင်္ဂတေ။

[اَلْجَصَّاصُ] ❶ သရွတ်၊ အင်္ဂတေကိုင်သူ။ ❷ သရွတ်၊ အင်္ဂတေရောင်းသူ။

[اَلْجَصَّاصَةُ] သရွတ်၊ အင်္ဂတေပြုလုပ်သည့်နေရာ။

[اَلْجَصِيْصَةُ] လူစုလူဝေး။

✿ [جَضَّ _] ❶ မောက်မာစွာ လမ်းလျှောက်သည်။ ❷ [_عَلَيْهِ بِالسَّيْفِ](ဓါးဖြင့်)တိုက်ခိုက်

သည်။

[جَضٌّ] ❶ မောက်မာစွာ လမ်းလျှောက်ခြင်း။ ❷ (ဓါးဖြင့်)တိုက်ခိုက်ခြင်း။

[جَضَّضَ] ❶ အလွန်လျှင်မြန်စွာ ပြေးသည်။ ❷ [ــعَلَيْهِ بِالسَّيْفِ](ဓါးဖြင့်)တိုက်ခိုက်သည်။

[اَلْجِيَضَّى] မောက်မာစွာ လမ်းလျှောက်ခြင်း။

✿ [جَعَبَ ـ] ❶ [ــالْجَعْبَةَ]များထည့်သည့်အိပ်ကို လုပ်သည်။ ❷ [ــالشَّيْءَ]စုဆောင်းသည်။ ❸ အထက်အောက် လှန်သည်။ ❹ တွန်း၍ လှဲချသည်။

[جَعْبٌ] ❶ များထည့်သည့်အိပ်ကို လုပ်ခြင်း။ ❷ စုဆောင်းခြင်း။ ❸ အထက်အောက် လှန်ခြင်း။ ❹ တွန်း၍ လှဲချခြင်း။

[جَعَّبَ] ❶ [ــالْجَعْبَةَ]များထည့်သည့်အိပ်ကို လုပ်သည်။ ❷ [ــالشَّيْءَ]စုဆောင်းသည်။ ❸ အထက်အောက် လှန်သည်။ ❹ တွန်း၍ လှဲချသည်။

[اِنْجَعَبَ] ❶ [ــالشَّيْءُ]စုဆောင်းထားသည်။ ❷ အထက်အောက် လန်သွားသည်။ ❸ လဲကျသည်။

[تَجَعَّبَ] ❶ [ــالشَّيْءُ]စုဆောင်းထားသည်။ ❷ အထက်အောက် လန်သွားသည်။ ❸ လဲကျသည်။

[اَلْجِعَابَةُ] များထည့်သည့်အိပ်ကို ပြုလုပ်သည့်လုပ်ငန်း၊ သို့မဟုတ် ယင်းအိပ်ကို ပြုလုပ်သည့်အတတ်ပညာ။

[اَلْجَعْبَةُ] များထည့်သည့်အိပ်။(ج)[جِعَابٌ]။

[اَلْجَعَّابُ] များထည့်သည့်အိပ်ကို ပြုလုပ်သူ၊ သို့မဟုတ် ရောင်းသူ။

[اَلْمُجَعَّبُ] အခြားသူကို အမြဲတမ်းလှဲချအနိုင်ရသူ။

[اَلْجُعْبُوبُ] ❶ အရုပ်ပုပြီး အလွန်အရုပ်ဆိုးသူ။ ❷ ကောင်းကျိုးမပေးသူ။ ❸ မည်သည့်အလုပ်ကိုမျှ ဖြစ်ဖြစ်မြောက်မြောက် မလုပ်နိုင်သူ။(ج)[جَعَابِيبُ]။

[اَلْجَعْبَاءُ] ကိုယ်အောက်ပိုင်း။

✿ [جَعْبَرَ] [ــه]တွန်း၍ လှဲချသည်။

[اَلْجَعْبَرُ] ပုသော၊ တိုသော(သူ၊ အရာ)။(ج)[جَعَابِرُ]။

[اَلْجَعْبَرِيُّ] အရုပ်ပုပြီး အလွန်အရုပ်ဆိုးသူ။

✿ [تَجَعْثَنَ] တွန့်ကြေသည်။ တွန့်လိမ်၍ ကျုံ့ဝင်သည်။

[اَلْجِعْثِنُ] သစ်ပင်၏အမြစ်။(ج)[جَعَاثِنُ]။

[اَلْجِعْثِنَةُ] ❶ သစ်ပင်၏အမြစ်။ ❷ အလွန်သတ္တိကြောင်၍ လေးလံထိုင်းမှိုင်းသူ။(ج)[جَعَاثِنُ]။

✿ [جَعْجَعَ] ❶ [ــالْجَمَلُ](ကုလားအုတ်)လည်ချောင်းမှ အသံမြည်သည်။ ညည်းညူသည်။ ❷ [ــالرَّحَى](ကြိတ်ဆုံ)တကျွီကျွီ မြည်သည်။ ❸ [ــفِي الْمَكَانِ](နေရာ၌)ဂဏှာမငြိမ်ဖြစ်လျက် ထိုင်သည်။ ဖင်တကြွကြွဖြစ်သည်။ ❹ [ــبِهِ]စိုးရိမ်ထိတ်လန့်စေသည်။ ❺ ဖမ်းဆီးချုပ်နှောင်သည်။ ❻ [ــالْبَعِيرَ](ကုလားအုတ်ကို)ထိုင်စေရန်၊ သို့မဟုတ်ထစေရန်ကိုင်လှုပ်သည်။ ❼ [ــالْجَزُوْرَ](ကုလားအုတ်ကို)လှီးဖြတ်၊ သတ်ဖြတ်သည်။ ❽ [ــبِالْغَرِيْمِ](အကြွေးပေးဆပ်ရရန်ရှိသူအပေါ်၌)အတင်းအကြပ် တောင်းဆိုသည်။ ❾

[ـهِ ـ]အကျဉ်းအကြပ်၌ နေစေသည်။

[جَعْجَعَةٌ] ၁ (ကုလားအုတ်)လည်ချောင်းမှ သံမြည်သောအသံ။ ညည်းညူသည့်အသံ။ ၂ (ကြိတ်ဆုံ)တကျွီကျွီ မြည်သံ။ [أَسْمَعُ جَعْجَعَةً وَلَا أَرَى طِحْنًا]ကြိတ်ဆုံရဲ့တကျွီကျွီမြည်သံကိုတော့ ကြားပါရဲ့။ ဒါပေမဲ့ မုန့်ညက်တော့မတွေ့ရဘူး။(စကားကို ကြီးကြီးကျယ်ကျယ်ပြောတတ်သော်လည်း လက်တွေ့အားဖြင့် အသုံးမဝင်သူအား ရည်ညွှန်းပြောဆိုရသည်။)

[تَجَعْجَعَ] [ـ الْبَعِيرُ](ကုလားအုတ်)နာကျင်သဖြင့်၊ သို့မဟုတ် အရိုက်ခံရသဖြင့် ထိုင်ချသည်။ မိမိကိုယ်ကို မြေကြီးပေါ်သို့လှဲချသည်။

[اَلْجَعْجَاعُ] ၁ ကြပ်တည်းကျဉ်းမြောင်းသည့်နေရာ။ ၂ ဖမ်းဆီးချုပ်နှောင်ထားသည့်နေရာ။ ၃ စစ်မြေပြင်။ စစ်ပွဲ။ ၄ မိုးခေါင်ရေရှားသည့်ဒေသ။ ၅ ရာသီဥတု အလွန်ဆိုးရွားသည့်ဒေသ။

[اَلْجَعْجَعُ] ၁ ကြပ်တည်းကျဉ်းမြောင်းသည့်နေရာ။ ၂ ချိုင့်ဝင်နေသော၊ နိမ့်ကျသောမြေနေရာ။

✿ [جَعُدَ ـُ] ၁ [ـ الشَّعْرُ](ဆံပင်)ထူ၍ တွန့်လိမ်ကောက်ကွေးသည်။ ၂ [ـ الزَّبَدُ](မလှိုင်)အထပ်ထပ်တက်သည်။ ၃ [ـ الْوَجْهُ](မျက်နှာ)သွယ်သည်။ ၄ [ـ الشَّيْءُ] တိုသည်။

[جُعُودَةٌ - جَعَادَةٌ] ၁ (ဆံပင်)ထူ၍ တွန့်လိမ်ကောက်ကွေးခြင်း။ ၂ (မလှိုင်)အထပ်ထပ်တက်ခြင်း။ ၃ (မျက်နှာ)သွယ်ခြင်း။ ၄ တိုခြင်း။

[جَعْدٌ] ၁ ထူ၍ တွန့်လိမ်ကောက်ကွေးသော(ဆံပင်)။ ၂ အထပ်ထပ်တက်သော(မလှိုင်)။ ၃ သွယ်လျသော(မျက်နှာ)။ ၄ တိုသော(အရာ)။

[جَعَّدَ] ၁ [ـ الشَّعْرَ](ဆံပင်ကို)စုသည်။ ၂ [ـ الزَّبَدَ](မလှိုင်)အထပ်ထပ်တက်စေသည်။ ၃ [ـ الشَّيْءَ]ပွတ်သိပ်စေသည်။ ၄ တိုစေသည်။

[تَجَعَّدَ] ၁ [ـ الشَّعْرُ](ဆံပင်)ထူ၍တွန့်လိမ်ကောက်ကွေးသည်။ ၂ [ـ الزَّبَدُ](မလှိုင်)အထပ်ထပ်တက်သည်။ ၃ [ـ الشَّيْءُ] ပွတ်သိပ်သည်။

[اَلْجَعْدُ] ၁ [شَعْرٌ جَعْدٌ]ထူ၍လိမ်ကောက်သော(ဆံပင်)။ ၂ [زَبَدٌ جَعْدٌ]အထပ်ထပ်တက်သော(မလှိုင်)။ ၃ [وَجْهٌ جَعْدٌ]သွယ်လျသော(မျက်နှာ)။ ၄ တိုသော(အရာ)။ ၅ [بَعِيرٌ جَعْدٌ]အမွေးထူသော ကုလားအုတ်။ ၆ အလွန်စေးနည်းတွန့်တို၍ စိတ်ထားသိမ်ဖျင်းယုတ်ညံ့သူ။[رَجُلٌ جَعْدُ الْقَفَا]အမျိုးညံ့သူ။ (ج)[جِعَادٌ]။

[اَلْجَعْدَةُ] ၁ အပင်တစ်မျိုး။ ၂ [أَبُو جَعْدَةَ] ဝံပုလွေ။

[اَلْجُعَادَةُ] [أَبُو جُعَادَةَ]ဝံပုလွေ။

✿ [جَعَرَ ـَ] ၁ ဝမ်းချုပ်သည်။ ကိုယ်ခန္ဓာအတွင်း၌ အပူလွန်ကဲသည်။ ၂ [ـ السَّبُعُ] (သားရဲတိရစ္ဆာန်)မစင်စွန့်သည်။

[جَعْرٌ] ၁ ဝမ်းချုပ်ခြင်း။ ကိုယ်ခန္ဓာအတွင်း၌ အပူလွန်ကဲခြင်း။ ၂ (သားရဲတိရစ္ဆာန်)

[اَلْجُعْرُوْرُ] ❶ အသုံးမဝင်သော စွန်ပလွံသီး အသေးစားတစ်မျိုး။ ❷ မြွေ၏ဦးခေါင်းကဲ့သို့ ဦးခေါင်းရှိပြီး ကင်းလိပ်နှင့်တူသော သတ္တဝါ။

❁ [جَعَسَ ـ] ❶ ဝမ်းသွားသည်။ မစင်စွန့်သည်။ ❷ ဆီးသွားသည်။ သေးပေါက်သည်။

[جَعْسٌ] ❶ ဝမ်းသွားခြင်း။ မစင်စွန့်ခြင်း။ ❷ ဆီးသွားခြင်း။ သေးပေါက်ခြင်း။

[تَجَعَّسَ] ❶ ဝမ်းသွားသည်။ မစင်စွန့်သည်။ ❷ ဆီးသွားသည်။ သေးပေါက်သည်။ ❸ စကားအပြောအဆို ရိုင်းဆိုင်းယုတ်မာသည်။ အပြောအဆို ညစ်ညမ်းသည်။

[اَلْجَعَسُ] မြေဩဇာအဖြစ်အသုံးပြုရသော နွားချေး၊ ကျွဲချေးစသည်။

[اَلْجَعِيْسُ] ထူထဲသော၊ ဖွံ့ထွားသော။

[اَلْجُعْسُوْسُ] ❶ အရုပ်ဆိုး၍ အလွန်အရုပ်ဆိုးသောသူ။ ❷ ရုပ်ဆိုးပြီး အကျင့်ယုတ်သူ။(ج) [جَعَاسِيْسُ]။

❁ [اَلْجَعْشَمُ] ခါးလယ်ပိုင်။ အလယ်အလတ်။ (ج) [جَعَاشِمُ]။

[اَلْجُعْشُمُ] လူပုစိတ်တို။(ج)[جَعَاشِيْمُ]။

❁ [اَلْجُعْضِيْضُ] မြက်ပင်တစ်မျိုး။ကြည့်[اَلتِّفَافُ]။

❁ [جَعَظَ ـ] ❶ [ـ فُلَانًا عَنِ الشَّيْءِ](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာမှ)ဝေးရာသို့ မောင်းထုတ်သည်။ ❷ [ـ عَلَيْهِ](တစ်ဦးတစ်ယောက်ထံသို့)ထွက်လာပြီး သူ၏အမှုကိစ္စများ၌ ဝင်ရောက်စွက်ဖက်သည်။

[جَعْظٌ] ❶ (တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာမှ)ဝေးရာသို့ မောင်းထုတ်ခြင်း။ ❷ (တစ်ဦးတစ်ယောက်ထံသို့)ထွက်လာပြီး သူ

မစင်စွန့်ခြင်း။

[مِجْعَارٌ] ဝမ်းချုပ်သော၊ ကိုယ်ခန္ဓာအတွင်း၌ အပူလွန်ကဲသော(သူ)။[اِنِّي مِجْعَارُ الْبَطْنِ] ကျွန်ုပ်သည် ဝမ်းချုပ်တတ်သူဖြစ်သည်။

[تَجَعَّرَ] ရေတွင်းထဲသို့ ဆင်းရန်အတွက် ခါး၌ ကြိုးချည်ထားသည်။

[اَلْجَاعِرَةُ] ❶ စအို။ ❷ (သားရဲတိရစ္ဆာန်၏) မစင်။ ❸ တင်ပါး။

[جَعَارِ] [اُمُّ الْجَعَارِ] ခွေးအ။

[اَلْجِعَارُ] ❶ ရေတွင်းထဲသို့ ဆင်းသူများ မိမိတို့၏ခါး၌ ချည်နှောင်ရသောကြိုး။(ယင်းကြိုးအစတစ်ဘက်ကို ခါး၌ချည်၍ ကျန်တစ်ဘက်ကို ရေတွင်းပေါ်ရှိ လူတစ်ယောက်က ဆွဲထားရသည်။) ❷ တိရစ္ဆာန်၏တင်ပါး၌ ပြုလုပ်ထားသော အမှတ်အသား။

[اَلْجَعْرُ] ❶ စအို၌ကပ်နေသော မစင်အခြောက်။ ❷ သားရဲတိရစ္ဆာန်၏မစင်။(ج) [جُعُوْرٌ]။

[اَلْجَعْرَاءُ] စအို။

[اَلْجَعْرَانُ] ❶ [اَبُوْ جَعْرَانَ]ချေးထိုးပိုးကောင်။ ❷ [اُمُّ جِعْرَانَ]လင်းတငှက်။

[اَلْجُعْرَةُ] ❶ ခါး၌ထင်ကျန်ရစ်သော ကြိုးအရာ။ ❷ ပင်စည်နှင့်အနံ့ ဖွံ့ဖြိုးသော ဂျောင်ပင်၊ မုယောစပါးပင်။

[اَلْجِعِرَّى] ❶ စအို။ ❷ သောက်ရေအိုးစင် ကစားနည်း။(ယင်းကစားနည်း၌ ကလေးနှစ်ဦးက မိမိတို့၏အလယ်၌ ကလေးတစ်ယောက်ကို လက်ဖြင့်တင်မ၍ကစားရသည်။)

[اَلْمَجْعَرُ] စအို။

၏အမှုကိစ္စများ၌ ဝင်ရောက်စွက်ဖက်ခြင်း။

[جَعِظَ ـ] အကျင့်စာရိတ္တ ဆိုးရွားသည်။ အကျင့်ယုတ်သည်။

[جَعْظ] အကျင့်စာရိတ္တ ဆိုးရွားခြင်း။ အကျင့်ယုတ်ခြင်း။

[اَجْعَظَ] (၁) [ـ فُلَانًا عَنِ الشَّيْءِ](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာမှ)ဝေးရာသို့ မောင်းထုတ်သည်။ (၂) ထွက်ပြေးသည်။ ကိုယ်လွတ်ရုန်းပြေးသည်။

[جَعَّظَ] [ـ عَلَيْهِ](တစ်ဦးတစ်ယောက်ထံသို့)ထွက်လာပြီး သူ၏အမှုကိစ္စများ၌ ဝင်ရောက်စွက်ဖက်သည်။

[اَلْجَعْظُ] (၁) ထုထည်ကြီးမားသော (အရာ)။ (၂) မိမိကိုယ်ကို အထင်ကြီး၍မောက်မာသောသူ။﴿اَلَا اُنَبِّئُكُمْ بِاَهْلِ النَّارِ كُلُّ جَظٍّ جَعْظٍ﴾ ငရဲသားများမည်သူမည်ဝါဖြစ်ကြသည်ကို အသင်တို့အား ကျွန်ုပ်မပြောဘဲနေရမည်လော။ စင်စစ် ငရဲသားများသည် မိမိတို့ကိုယ်ကို အထင်ကြီး၍ မောက်မာဆိုးသွမ်းသူများဖြစ်ကြ၏။ (၃) အကျင့်ယုတ်သူ။

✿ [جَعَّ ـ] (၁) [ـ فُلَانٌ]မြေကြီးကိုစားသည်။ (၂) [ـ فُلَانًا]မြေကြီးဖြင့် ပစ်ပေါက်သည်။

[جَعٌّ] (၁) မြေကြီးကိုစားခြင်း။ (၂) မြေကြီးဖြင့် ပစ်ပေါက်ခြင်း။

✿ [جَعَفَ ـ] (၁) မှောက်လှန်သည်။ (၂) ဆွဲနုတ်သည်။ (၃) [ـ فُلَانًا]မြေကြီးပေါ် ဆွဲဖွတ်ချသည်။ ဆွဲဖွတ်၍ မြေကြီးပေါ် ပစ်ကျစေသည်။

[جَعْفٌ] (၁) မှောက်လှန်ခြင်း။ (၂) ဆွဲနုတ်ခြင်း။ (၃) မြေကြီးပေါ် ဆွဲဖွတ်ချခြင်း။ ဆွဲဖွတ်၍ မြေကြီးပေါ် ပစ်ကျစေခြင်း။

[اَجْعَفَ] [ـ فُلَانًا]မြေကြီးပေါ် ဆွဲဖွတ်ချသည်။ ဆွဲဖွတ်၍ မြေကြီးပေါ် ပစ်ကျစေသည်။

[اِجْتَعَفَ] [ـ الشَّجَرَةَ](အပင်ကို)ဆွဲနုတ်သည်။

[اِنْجَعَفَ] (၁) ကပြောင်းကပြန်ဖြစ်သည်။ (၂) ဆွဲနုတ်သဖြင့် ကျွတ်ထွက်သည်။ (၃) မြေကြီးပေါ် ဆွဲဖွတ်ချသဖြင့် လဲကျသည်။

[اَلْجَاعِفُ] [سَيْلٌ جَاعِفٌ]အပင်များနှင့် အဆောက်အဦးများကို ကျွတ်ထွက်သွားအောင် တိုက်စားသောရေစီး။

[اَلْجُعَافُ] [سَيْلٌ جُعَافٌ]အပင်များနှင့် အဆောက်အဦးများကို ကျွတ်ထွက်သွားအောင် တိုက်စားသောရေစီး။

[اَلْجَعْفُ] အနည်းငယ်မျှဖြစ်သော(အရာ)။ [مَاعِنْدَهُ مِنَ الْمَتَاعِ الَّا جَعْفٌ]သူ့ဆီမှာ ဥစ္စာပစ္စည်း အနည်းငယ်သာရှိတယ်။

✿ [اَلْجَعْفَرُ] (၁) မြစ်၊ ချောင်း။ (၂) အလွန်နို့ထွက်ကောင်းသော ကုလားအုတ်မ။(ج)[جَعَافِرُ]။

[اَلْجَعْفَرِيَّةُ] (၁) အေမာမ်ဂျအ်ဖရ်ဆွာဒိက် အိဗ်နုမုဟမ္မဒ်အလ်ဘာကိရ်၏နောက်လိုက် ရှိအဟ်အုပ်စုတစ်စု၏အမည်။ (၂) ဂျအ်ဖရ်အိဗ်နုဟရဗ်နှင့် ဂျအ်ဖရ်အိဗ်နုမုဘတ်ရှ်ရှိရ်တို့၏နောက်လိုက် မုအ်တဇိလဟ်အုပ်စုတစ်စု။

✿ [اَلْجَعْفِيلُ] ကပ်ပါးပင်တစ်မျိုး။ ယင်းအပင်ကို အင်္ဂလိပ်နိုင်ငံ၌[الْهَالُوكُ]ဟု ခေါ်သည်။

✿ [جَعَلَ ـ] (၁) တီထွင်ပြုလုပ်သည်။ ဖန်ဆင်းသည်။﴿وَجَعَلَ الظُّلُمٰتِ وَالنُّوْرَ﴾ထိုအရှင်

မြတ်သည် အမှောင်ထုများနှင့် အလင်းကို ဖန်ဆင်းတော်မူခဲ့သည်။ ❷ ပြုမူသည်။ ❸ [ـعَلَى كَذَا]ထည့်ထားသည်။ ချထားသည်။ [لَمْ اَجْعَلْ هٰذَا الْاَمْرَ بِظَهْرٍ]ဒီကိစ္စကို ငါ နောက်ကျောမှာ မထားခဲ့ပါ။(ဒီကိစ္စကို ပစ်ထားခဲ့ခြင်းမဟုတ်ပါ။ အလေးအနက်ထား၍ ဆောင်ရွက်ခဲ့သည်။) ❹ [ـفُلَانًا كَذَا]ခန့်အပ်သည်။[جَعَلَهُ حَاكِمًا فِى هٰذَا الْاَمْرِ]ဒီကိစ္စမှာ သူ့ကို အဆုံးအဖြတ်ပေးနိုင်သူအဖြစ် ခန့်အပ်ခဲ့တယ်။ ❺ [ـ اَلشَّيْءَ كَذَا]ဖြစ်သွားစေသည်။ ပြောင်းလဲသွားစေသည်။
[جَعَلَ الْقَدِيْمَ حَدِيْثًا]အဟောင်းကို အသစ်ဖြစ်စေသည်။[جَعَلَ الْحُسْنَ قَبِيْحًا]လှပသူကို အရုပ်ဆိုးသူဖြစ်စေသည်။ ❻ [ـيَفْعَلُ كَذَا]အစပြုသည်။ [جَعَلَ يَكْتُبُ]သူ စာရေးစပြုသည်။ ❼ [ـهُ كَذَا]ထင်သည်။[جَعَلَ الْحَقَّ بَاطِلًا]အမှန်ကို အမှားဟုထင်သည်။ ❽ ပေးကမ်းချီးမြှင့်သည်။[اِجْعَلْنِى نِصْفَ هٰذَا]ဒီပစ္စည်းတစ်ဝက် ကျွန်တော်ကို ပေးပါ။
❾ [ـلَهُ عَلَى كَذَا]အဖိုးအခ သတ်မှတ်သည်။ ❿ [ـالْقِدْرَ](အိုးကို)လက်နှိုးအဝတ်ဖြင့် ကိုင်၍ ချသည်။

[جَعْلٌ] ❶ တီထွင်ပြုလုပ်ခြင်း။ ဖန်ဆင်းခြင်း။ ❷ ပြုမူခြင်း။ ❸ ထည့်ထားခြင်း။ ချထားခြင်း။ ❹ ခန့်အပ်ခြင်း။ ❺ ဖြစ်သွားစေခြင်း။ ပြောင်းလဲသွားစေခြင်း။ ❻ အစပြုခြင်း။ ❼ ထင်ခြင်း။ ❽ ပေးကမ်းချီးမြှင့်ခြင်း။ ❾ (အိုးကို)လက်နှိုးအဝတ်ဖြင့် ကိုင်၍ ချခြင်း။

[جُعْلٌ . جَعَالَةٌ] အဖိုးအခ သတ်မှတ်ခြင်း။

[جَعِلَ ـَ] ❶ ချေးထိုးပိုးကောင် ပေါ်များသည်။ ❷ [ـالْمَاءُ](ရေ၌)ချေးထိုးပိုးကောင်ကျသေသည်။ ❸ [ـالصَّبِيُّ](ကလေးငယ်)ဝပြီးပုသည်။

[جَعَلٌ] ❶ ချေးထိုးပိုးကောင် ပေါ်များခြင်း။ ❷ (ရေ၌)ချေးထိုးပိုးကောင် ကျသေခြင်း။ ❸ (ကလေးငယ်)ဝပြီးပုခြင်း။

[جَعِلٌ] ❶ ချေးထိုးပိုးကောင် ပေါ်များသော(နေရာ)။ ❷ ချေးထိုးပိုးကောင် ကျသေသော(ရေ)။ ❸ ဝပြီးပုသော(ကလေးငယ်)။

[اَجْعَلَ] ❶ ချေးထိုးပိုးကောင် ပေါ်များသည်။ ❷ [ـالْمَاءُ](ရေ၌)ချေးထိုးပိုးကောင် ကျသေသည်။ ❸ [ـالصَّبِيُّ](ကလေးငယ်)ဝပြီးပုသည်။ ❹ [ـفُلَانًا اَوْ لَهُ]လုပ်ခကို သတ်မှတ်ပေးသည်။ ❺ [ـالْقِدْرَ](အိုးကို)လက်နှိုးအဝတ်ဖြင့် ကိုင်၍ ချသည်။

[جَاعَلَ] [ـفُلَانًا اَوْ لَهُ]လုပ်ခကို သတ်မှတ်ပေးသည်။

[مُجَاعَلَةٌ . جِعَالٌ] လုပ်ခကို သတ်မှတ်ပေးခြင်း။

[اِجْتَعَلَ] ❶ [ـالشَّيْءَ]ပြုလုပ်သည်။ [اِجْتَعَلَ مِنَ الْخَشَبِ السَّرِيْرَ]သစ်သားဖြင့် ကုတင်ကို ပြုလုပ်သည်။ ❷ [ـ الْجُعْلَ]လုပ်ခကို လက်ခံယူသည်။

[تَجَاعَلَ] [تَجَاعَلُوا الشَّيْءَ]တစ်စုံတစ်ရာကို မိမိတို့အကြား၌ထားသည်။ ဘုံပစ္စည်းအဖြစ် သတ်မှတ်သည်။

[اَلْجِعَالُ] ❶ လုပ်အားခ၊ အလုပ်ဖြစ်ရန်အတွက် ပေးရသောတံစိုးလက်ဆောင်။ ❷

လက်နီးအဝတ်။(ဇ)[جُعَلٌ]။

[اَلْجَعَالَةُ] လုပ်အားခ၊ အလုပ်ဖြစ်ရန်အတွက် ပေးရသော တံစိုးလက်ဆောင်။(ဇ)[جَعَائِلُ]။

[اَلْجُعْلُ] လုပ်အားခ၊ အလုပ်ဖြစ်ရန်အတွက် ပေးရသော တံစိုးလက်ဆောင်။(ဇ)[جُعُولٌ]။

[اَلْجُعَلُ] ❶ ချေးထိုးပိုးကောင်။ ❷ အသားမည်း၍အရုပ်ဆိုးသော(သူ)။ ❸ ပေကပ်ကပ်နိုင်သောသူ။ ဖွတ်တရွတ်ပြုမူတတ်သူ။(ဇ)[جِعْلَانٌ]။

[اَلْجِعْلَةُ] ❶ အပင်ပေါက်။ အပင်ခွဲ။ ❷ ပုသောစွန်ပလွံပင်။(ဇ)[جَعْلٌ]။

[اَلْجَعِيلَةُ] လုပ်အားခ၊ အလုပ်ဖြစ်ရန်အတွက် ပေးရသော တံစိုးလက်ဆောင်။(ဇ)[جَعَائِلُ]။

❀ [جَعِمَ ـَ] ❶ အလွန် အလိုရမ္မက်ကြီးသည်။ ငမ်းငမ်းတက်ဖြစ်သည်။ လောဘကြီးသည်။ [ـاِلَى الطَّعَامِ](အစားအစာကို)ငမ်းငမ်းတက်ဖြစ်သည်။ စားလိုစိတ် ပြင်းထန်သည်။ ❷ [ـالْبَعِيرَ](ကုလားအုပ်ကို)မစားနိုင်အောင် ပါးချုပ်တပ်ဆင်ပေးထားသည်။

[جَعْمٌ] ❶ အလွန်အလိုရမ္မက်ကြီးခြင်း။ ငမ်းငမ်းတက်ဖြစ်ခြင်း။ လောဘကြီးခြင်း။ ❷ (ကုလားအုပ်ကို)မစားနိုင်အောင် ပါးချုပ်တပ်ဆင်ပေးထားခြင်း။

[جَعِمَ ـَ] ❶ အလွန် အလိုရမ္မက်ကြီးသည်။ ငမ်းငမ်းတက်ဖြစ်သည်။ လောဘကြီးသည်။ [ـتِ الْإِبِلُ](ကုလားအုတ်)စားစရာမတွေ့သဖြင့် အရိုးကို ကိုက်ဖဲ့သည်။[ـاِلَى الطَّعَامِ](အစားအစာကို)ငမ်းငမ်းတက်ဖြစ်သည်။ စားလိုစိတ် ပြင်းထန်သည်။ ❷ [ـلِكَذَا]ပေါ့ပါးသည်။ ❸ အသံသြဇာအပြည့်ဖြင့် ပြောသည်။ လည်ချောင်းအပြည့် ပြောသည်။

[جَعَمٌ] ❶ အလွန် အလိုရမ္မက်ကြီးခြင်း။ ငမ်းငမ်းတက်ဖြစ်ခြင်း။ လောဘကြီးခြင်း။ ❷ ပေါ့ပါးခြင်း။ ❸ အသံသြဇာအပြည့်ဖြင့် ပြောခြင်း။ လည်ချောင်းအပြည့် ပြောခြင်း။

[جَعِمٌ] [جَعِمُ الْكَلَامِ]အသံသြဇာအပြည့်ဖြင့်ပြောသော(သူ)။ လည်ချောင်းအပြည့် ပြောသော(သူ)။

[أَجْعَمَ] ❶ [ـالْمَكَانُ](နေရာ၌)တိရစ္ဆာန်များစားထားသဖြင့် အပင်ကင်းမဲ့သည်။ ❷ [ـالْقَوْمُ](၎င်းတို့၏)တိရစ္ဆာန်များ ဝမ်းလျှောရောဂါဖြစ်သည်။ ❸ [ـالشَّيْءَ]အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်သည်။ အမြစ်လှန်သည်။

[اَلْجُعَامُ] တိရစ္ဆာန်များ၌ဖြစ်သော ဝမ်းလျှောသည့်ရောဂါ။

[اَلْجِعْمُ] ဆာလောင်မှု။ ဆာတော်မှု။

[اَلْجِعْمِيُّ] အာသာငမ်းငမ်းဖြစ်သောသူ။ အလွန်လောဘကြီးသူ။

[اَلْجُعْمُومُ] ❶ မလိုလားအပ်သော၊ မတောင့်တအပ်သောအရာကိုမှ လိုချင်တတ်မက်သောသူ။ ❷ အလွန်ဆာလောင်နေသောမိန်းမ။

[اَلْجَيْعَمُ] ❶ ဆာလောင်သောသူ။ ❷ မိမိလိုချင်သောအရာမှလွဲ၍ အခြားမည်သည့်အရာကိုမျှမမြင်သူ။

[اَلْمَجْعَمُ] နိုလှုံရာနေရာ။ အကြပ်အတည်းကို ဖြေရှင်းပေးနိုင်သည့်နေရာ။(ဇ)[مَجَاعِمُ]။

✿ [جَعَا ـ] ၁ [ـ الْجِعَةَ]ဘီယာအရက် ပြုလုပ်သည်။ ၂ [ـ الْبَعْرَ](ကုလားအုပ်ချေး၊ မြင်းချေးစသည်ကို)စု၍ ပုံထားသည်။

[جَعْوٌ] ၁ ဘီယာအရက် ပြုလုပ်ခြင်း။ ၂ (ကုလားအုပ်ချေး၊ မြင်းချေးစသည်ကို)စု၍ ပုံထားခြင်း။

[اَلْجِعَةُ ـ اَلْجِعْوُ] ဂျုံ၊ မုယောဆန်စသည်တို့ဖြင့် ချက်လုပ်ထားသောဘီယာအရက်။

[اَلْجَعْوُ] ၁ မြေကြီး။ ၂ (ကုလားအုပ်ချေး၊ မြင်းချေးစသည်၏)အစုအပုံ။ ၃ တင်းပါး။ ကိုယ်အောက်ပိုင်း။

✿ [اَلْجَعْوَلُ] ငှက်ကုလားအုတ်ပေါက်စ။ (ج) [جَعَاوِلُ]။

✿ [اَلْجُغْرَافِيَّةُ] ✿ ပထဝီဝင် ဘာသာရပ်။

✿ [جَفَا ـ] ၁ [ـ الزَّبَدُ]အမြှုပ်ထသည်။ ၂ [ـ الْقِدْرُ](အိုး)ဆူပွက်ပြီး အမြှုပ်များဖိတ်စင်ကျသည်။ ၃ [ـ الْوَادِى غُثَائَهُ](ချိုင့်ဝှမ်းရှိရေများ သစ်ဆွေး၊ သစ်ရွက်အဆွေးများကို)သည်ဆောင် အနည်ကျစေသည်။ ၄ [ـ الْقِدْرُ](အိုးရှိ အမြှုပ်များကို)ရှင်းလင်းဖယ်ရှားသည်။ ၅ [ـ الْقِدْرُ](အိုးကို)သွန်မှောက်သည်။﴿اِنَّهُ حَرَّمَ الْحُمُرَ الْاَهْلِيَّةَ فَجَفَئُوا الْقُدُوْرَ﴾။ တမန်တော်မြတ်သည် အိမ်မွေးမြည်းတို့ကို စားခြင်းမှ တားမြစ်ခဲ့ရာ ၎င်းတို့သည် အိုးများကို သွန်မှောက်ခဲ့ကြကုန်၏။ ၆ [ـ الرَّجُلَ]တွန်းထိုးလှဲချသည်။ နပမ်းသတ်သည်။ ၇ [ـ بِهِ الْاَرْضَ]မြေပေါ်သို့ ဖွတ်ချသည်။ မြေကြီးပေါ် ပစ်ကျစေသည်။ ၈ [ـ الشَّجَرَ](သစ်ပင်ကို)နှုတ်ပစ်သည်။ ၉ ခုတ်ဖြတ်သည်။ ၁၀ [ـ الْبَابَ](တံခါးကို)ပိတ်သည်။

[جَفْؤٌ ـ جُفُوْءٌ] ၁ အမြှုပ်ထခြင်း။ ၂ (အိုး)ဆူပွက်ပြီး အမြှုပ်များဖိတ်စင်ကျခြင်း။ ၃ (ချိုင့်ဝှမ်းရှိရေများ သစ်ဆွေး၊ သစ်ရွက်အဆွေးများကို)သည်ဆောင် အနည်ကျစေခြင်း။ ၄ (အိုးရှိအမြှုပ်များကို)ရှင်းလင်းဖယ်ရှားခြင်း။ ၅ (အိုးကို)သွန်မှောက်ခြင်း။ ၆ တွန်းထိုးလှဲချသည်။ နပမ်းသတ်ခြင်း။ ၇ မြေပေါ်သို့ ဖွတ်ချခြင်း။ မြေကြီးပေါ် ပစ်ကျစေခြင်း။ ၈ (သစ်ပင်ကို)နှုတ်ပစ်သည်။ ၉ ခုတ်ဖြတ်ခြင်း။ ၁၀ (တံခါးကို)ပိတ်ခြင်း။

[اَجْفَأَ] ၁ [ـتِ الْاَرْضُ](မြေညံ့ဖျင်းသည်။ ၂ [ـ الْقِدْرُ](အိုး)ဆူပွက်ပြီး အမြှုပ်တက်သည်။ ၃ [ـ الْوَادِى](ချိုင့်ဝှမ်းရှိရေများ သစ်ဆွေး၊ သစ်ရွက်အဆွေးများကို)သည်ဆောင်သည်။ ၄ [ـ الْقِدْرَ](အိုးရှိ အမြှုပ်များကို)ရှင်းလင်းဖယ်ရှားသည်။ ၅ [ـ الرَّجُلَ]တွန်းထိုးလှဲချသည်။ နပမ်းသတ်သည်။ ၆ [ـ مَاشِيَتَهُ]တိရစ္ဆာန်ကို အစာမကျွေးဘဲ မောင်းနှင်၍ မောပန်းစေသည်။ ၇ [ـ الْبَابَ](တံခါးကို)ပိတ်သည်။

[اِجْتَفَأَ] [ـ الشَّجَرَ](သစ်ပင်ကို)နှုတ်ပစ်သည်။

[تَجَفَّأَ] [ـتِ الْاَرْضُ](မြေညံ့ဖျင်းသည်။

[اَلْجُفَاءُ] ၁ အမြှုပ်။ ၂ ရေပေါ်၌ အမှိုက်များဖြင့် ပေါလောပေါ်နေသော ရေမြှုပ်။ ၃ အလဟဿ၊ အချည်းအနှီး။ ﴿فَاَمَّا الزَّبَدُ فَيَذْهَبُ جُفَاءً﴾သို့ဖြစ်ရာ အညစ်အကြေးသည် အသုံးမဝင်သောအရာအဖြစ်

အချည်းနှီးဖြစ်သွား၏။❸ ခွဲထွက်ရေးသမားတို့၏အသင်း။ အဖွဲ့။ သင်းကွဲ။[نَبَذَهُ جُفَاءً] မိတ်ဆွေအဖြစ်မှ စွန့်လွှတ်သည်။

✿ [اَلْجِفْتُ] ❶ မွေးညှပ်။ ❷ ဇာဂနာ။ ❸ ကဏန်းလက်မပုံညှပ်။

✿ [جَفْجَفَ] ❶ [_الثَّوْبُ الْجَدِيْدُ](အဝတ်အသစ်)ကော်ရည်မစင်သဖြင့် တရှမ်းရှမ်းအသံမြည်သည်။ ❷ မခြောက်တခြောက်ဖြစ်သည်။ အစိုဓါတ်ကျန်ရှိသည်။ ❸ [_الْمَوْكَبُ](အခမ်းအနား၊ အခင်းအကျင်း၌ အစီးအနင်းကိုဟန်ရေးပြ စီးနင်းသူများ)ပေါ့ပါးညှင်သာစွာသွားသည်။ ❹ [_النَّعَمَ](တိရစ္ဆာန်များကို)တစ် ကောင်နှင့်တစ်ကောင်ထပ်သည်အထိ တရကြမ်းမောင်းနှင်သည်။ ❺ [_الْمَاشِيَةَ] (တိရစ္ဆာန်များကို)စုစည်းသည်။ ❻ ဖမ်းလှောင်ထားသည်။

[تَجَفْجَفَ] ❶ [_الطَّائِرُ](ငှက်)မိမိ၏အမွေးအတောင်ကို ထောင်ထစေသည်။ ❷ (ငှက်) မိမိ၏ဥပေါ်၌ ဝပ်သည်။

[اَلْجَفَاجِفُ] ❶ အသွင်သဏ္ဌာန်၊ ပုံစံ။ ❷ အဝတ်အထည်။

[اَلْجَفْجَفُ] ❶ ကုန်းမြေ၊ ကုန်းမြင့်။ ❷ မြေနိမ့်၊ ချိုင့်ဝှမ်း။ ❸ ပြန့်ပြူးညီညာ၍ ကျယ်ဝန်းသောလွင်ပြင်။ ❹ ထိတွေ့သမျှကို ခြောက်သွေ့စေသောလေ။ ❺ ပေါက်တတ်ကရပြောသူ။ အမှားမှားအယွင်းယွင်း ပြောဆိုသူ။

✿ [جَفَخَ _] မောက်မာသည်။ မာနကြီးသည်။ ဝင့်ကြွားသည်။

[جَفْخٌ] မောက်မာခြင်း။ မာနကြီးခြင်း။ ဝင့်ကြွားခြင်း။

[جَفَّاخٌ] မောက်မာသော(သူ)။ မာနကြီးသော(သူ)။ ဝင့်ကြွားသော(သူ)။

[جَافَخَ] တစ်ဦးကိုတစ်ဦး မောက်မာစွာ ဆက်ဆံသည်။ အပြိုင်အဆိုင်မာနထားသည်။

✿ [جَفَرَ _] ❶ ကာမစပ်ယှက်မှု ကင်းပြတ်သည်။ ❷ [_الْجَدْيُ](ဆိတ်ပေါက်စ)အစာစားနိုင်သည့်အရွယ်သို့ ရောက်သည်။ ဗိုက်နှင့်ကိုယ် ကြီးမားလာသည်။ ❸ [_جَنْبَاهُ] (ဘေးနှစ်)ဘက် ကျယ်သည်။ ဖျက်ကျယ်သည်။ ❹ [_مِنَ الْمَرَضِ](ရောဂါဝေဒနာမှ) ကင်းစင်သည်။ ဝေဒနာ သက်သာပျောက်ကင်းသည်။

[جُفُوْرٌ] ❶ ကာမစပ်ယှက်မှု ကင်းပြတ်ခြင်း။ ❷ (ဆိတ်ပေါက်စ)အစာ စားနိုင်သည့်အရွယ်သို့ ရောက်ခြင်း။ ဗိုက်နှင့်ကိုယ် ကြီးမားလာခြင်း။ ❸ (ဘေးနှစ်)ဘက် ကျယ်ခြင်း။ ဖျက်ကျယ်ခြင်း။ ❹ (ရောဂါဝေဒနာမှ)ကင်းစင်ခြင်း။ ဝေဒနာ သက်သာပျောက်ကင်းခြင်း။

[اَجْفَرَ] ❶ ကာမစပ်ယှက်မှု ကင်းပြတ်သည်။ ❷ [_الْجَدْيُ](ဆိတ်ပေါက်စ)အစာစားနိုင်သည့်အရွယ်သို့ ရောက်သည်။ ဗိုက်နှင့်ကိုယ် ကြီးမားလာသည်။ ❸ [_جَنْبَاهُ] (ဘေးနှစ်)ဘက် ကျယ်သည်။ ဖျက်ကျယ်သည်။ ❹ [_مِنَ الْمَرَضِ](ရောဂါဝေဒနာမှ) ကင်းစင်သည်။ ဝေဒနာ သက်သာပျောက်ကင်းသည်။ ❺ ပျောက်ကွယ်သည်။ ❻ ကိုယ်

နှံ ညီစော်နံသည်။ အပုပ်နံ့ ထွက်သည်။ ❼ [ــ عَنْهُ]ကင်းကွာသည်။ အဆက်ပြတ်သည်။ ❽ [ــ الشَّيْءَ]စွန့်လွှတ်ထားသည်။ စွန့်ပစ်သည်။ ❾ [ــ فُلَانًا]ကာမစပ်ယှက်မှုကို ကင်းစေသည်။ ရာဂစိတ် ကုန်ခန်းစေသည်။ ❶❶ [ــ عَنِ الْأَمْرِ]ပြတ်သားသည်။ ❶❶ [ــ الرَّكِيَّةَ](ရေတွင်း)ဘေးနှစ်ဘက်ကို ချဲ့သည်။

[اِجْتَفَرَ] ကာမစပ်ယှက်မှု ကင်းပြတ်သည်။

[تَجَفَّرَ] [ــ الْجَفْرُ](အစားစားနိုင်သည့်အရွယ် ဆိတ်ပေါက်စ)ဝဖြိုးသည်။ နို့စို့ရန်မလိုဘဲ အစာဖြင့် အားအင်ပြည့်သည်။

[اِسْتَجْفَرَ] [ــ الْجَفْرُ](အစားစားနိုင်သည့်အရွယ် ဆိတ်ပေါက်စ)ဝဖြိုးသည်။ နို့စို့ရန်မလိုဘဲ အစာဖြင့် အားအင်ပြည့်သည်။

[اَلْجَفْرُ] ❶ အစာစားနိုင်သည့်အရွယ် ဆိတ်ပေါက်စ။ ❷ အသားအရေ ပြည့်ဖေါင်းနေသော ကလေးငယ်။ ❸ အုတ်စီထားခြင်းမရှိသောရေတွင်း။(ج)[اَجْفَارٌ - جِفَارٌ - جَفَرَةٌ]။ ❹ သာဝကကြီးအလီ သို့မဟုတ် အေမာမ်ဂျအ်ဖရ်က အနာဂတ်၌ဖြစ်မည့်အရာများကို ကြိုတင်ရေးသားထားသော သားရေချပ်။ [عِلْمُ الْجَفْرِ]အနာဂတ်ကို ကြိုတင်ဟောသည့် အတတ်ပညာ။ ❺ စကားဝှက်။ ❻ အတွက်ကြောင့်။[فَعَلْتُ كَذَا مِنْ جَفْرِ كَذَا]ဒီကိစ္စကို ဒါကြောင့် ငါလုပ်ခဲ့ရတယ်။

[اَلْجُفْرَةُ] ❶ အလယ်ဗဟို။ ❷ အဝိကအပိုင်း။ ❸ ရေတွင်းကျယ်။ ❹ ရင်အုပ်အတွင်းပိုင်း။(ج)[جُفَرٌ - جِفَارٌ]။

[اَلْجُفَرَّى] အဖူး၏အခွံ။

[اَلْجَفِيرُ] မြားထည့်သည့်အိတ်။ မြားပူး။ [لَيْسَ فِي جَفِيرِهِ غَيْرُ زَنْدَيْنِ]သူ့မြားပူးထဲမှာ မီးမွှေးတံနှစ်ချောင်းကလွဲလို့ ဘာမှမရှိဘူး။ (အသုံးမကျတဲ့ကောင်)။

[اَلْجَفِيرَةُ] မြားထည့်သည့်အိတ်။ မြားပူး။

[اَلْمَجْفَرُ] ကာမအားကို ဆုတ်ယုတ်စေသည့် အစားအစာ။(ج)[مَجَافِرُ]။

[اَلْمُجْفَرُ] ❶ ရင်အုပ်ကြီးသော ကုလားအုတ်၊ မြင်းစသည်။ ❷ ဘေးနှစ်ဘက် ကျယ်သော(အရာ)။ ဗျက်ကျယ်သော(အရာ)။

[اَلْمَجْفَرَةُ] ကာမအားကို ဆုတ်ယုတ်စေသည့် အစားအစာ။(ج)[مَجَافِرُ]။

✽ [جَفِسَ ـَ] ❶ [ــ الطَّعَامَ](အစားအစာကို)အီသည်။ ရင်ပြည့်သည်။ ❷ [ــتْ نَفْسُهُ مِنَ الطَّعَامِ] အစာစားချင်စိတ် ကင်းမဲ့သည်။ အစားအစာကို မုန်းသည်။

[جَفْسٌ - جَفَاسَةٌ] ❶ (အစားအစာကို)အီခြင်း။ ရင်ပြည့်ခြင်း။ ❷ အစာစားချင်စိတ် ကင်းမဲ့ခြင်း။ အစားအစာကို မုန်းခြင်း။

[جَفِسٌ] ❶ (အစားအစာကို) အီသော(သူ)။ ရင် ပြည့်သော(သူ)။ ❷ အစာစားချင်စိတ် ကင်းမဲ့ခြင်း။ အစားအစာကို မုန်းသော(သူ)။

✽ [جَفَشَ ـِ] ❶ [ــهُ]စုစည်းသည်။ စုဆောင်းသည်။ ❷ ဖြေးဖြေးသာသာညှစ်သည်။ ❸ [ــ النَّاقَةَ](ကုလားအုတ်မကို)လက်ချောင်းထိပ်များဖြင့် နို့ညှစ်သည်။

[جَفْشٌ] ❶ စုစည်းခြင်း။ စုဆောင်းခြင်း။ ❷ ဖြေးဖြေးသာသာညှစ်ခြင်း။ ❸ (ကုလား

အုတ်မကို)လက်ချောင်းထိပ်များဖြင့် နှိုညှစ်ခြင်း။

✿ [جَفَظَ ـُ] ဖြည့်သည်။ ပြည့်စေသည်။

[جَفْظٌ] ဖြည့်ခြင်း။ ပြည့်စေခြင်း။

[اِجْفَاظَّ] ❶ သေလုမျောပါးဖြစ်သည်။ အသက်ငင်သည်။ ❷ [ـتِ الْجِيفَةُ](အသေကောင်)ပုပ်ပွသည်။

[اَلْجَفْظُ] သဘော်ကြိုး။

[اَلْجَفِيظُ] ပုပ်ပွနေသောအသေကောင်။

✿ [جَفَّ ـِ] ❶ [ـ الشَّيْءُ]ခြောက်သွေ့သည်။ ❷ [ـ الرَّجُلُ]စကားမပြောဘဲ ရေငုံနှုတ်ပိတ်နေသည်။

[جُفُوفٌ - جَفَافٌ] ❶ ခြောက်သွေ့ခြင်း။ ❷ စကားမပြောဘဲ ရေငုံနှုတ်ပိတ်နေခြင်း။

[جَفَّ ـُ] [ـ الشَّيْءَ]စုဆောင်းသည်။ စုစည်းသည်။

[جَفٌّ] စုဆောင်းခြင်း။ စုစည်းခြင်း။

[جَفَّفَ] ❶ [ـ الشَّيْءَ]အခြောက်ခံသည်။ ခြောက်သွေ့စေသည်။ ❷ [ـ الْاِنْسَانَ اَوِ الْفَرَسَ] (လူသို့မဟုတ် မြင်းကို)စစ်မြေပြင်၌ ထိခိုက်မှုမှ ကာကွယ်ရန် ချပ်ဝတ်တန်ဆာကို ဆင်ပေးသည်။

[اِجْتَفَّ] [ـ مَافِى الْاِنَاءِ](ခွက်ထဲ၌ရှိသမျှကို) တစ်စက်မကျန် သောက်သည်။

[تَجَفَّفَ] ❶ ခြောက်သွေ့သည်။ ❷ [ـ الطَّائِرُ] (ငှက်)မိမိ၏ဥပေါ်၌ ဝပ်သည်။

[اَلتِّجْفَافُ] ချပ်ဝပ်တန်ဆာ။(စစ်မြေပြင်၌ ထိခိုက်မှုမှ ကာကွယ်ရန် လူသို့မဟုတ် မြင်းအား ဆင်ယင်ပေးရသော ချပ်ဝတ်။)(ج)[تَجَافِيفُ]။

[اَلْجَفَافُ] အခြောက်ခံထားသည့်အရာ။

[اَلْجُفَافَةُ] လွင့်စင်ပြန့်ကြဲနေသော မြက်ခြောက်၊ ကောက်ရိုးစသည်။

[اَلْجَفَفُ] ❶ ခြောက်သွေ့ကြမ်းတမ်းသောမြေ။ ❷ လိုအင်ဆန္ဒ။ လိုအပ်ချက်။

[اَلْجَفُّ] လူအုပ်။

[اَلْجُفُّ] ❶ အတွင်း၌ ဟာလာဟင်းလင်းဖြစ်နေသော(အရာ)။ ❷ အဖူး၏အကာ။ ❸ ရေပုံးငယ်။ ❹ အဖိုးအို။ ❺ ကုန်းမြေမြင့်။ ကုန်းပေါ်ပိုင်း။ ❻ ကိုယ်ထည်ပိုင်း။ ❼ လူအုပ်စု။ (ج)[جُفُوفٌ]။

[اَلْجُفَّةُ] ❶ ရေပုံးငယ်။ ❷ လူအုပ်စု။

[اَلْجَفِيفُ] အပင်ခြောက်။

[اَلْمُجَفِّفُ] ခြောက်သွေ့မှုကို အားပေးသောပစ္စည်း။

✿ [جَفَلَ ـِ] ❶ [ـ الشَّعْرُ](ဆံပင်၊ အမွေး)ထောင်သည်။ ❷ တိမ်းရှောင်ထွက်ပြေးသည်။ ❸ အမြန်သွားသည်။ ❹ တုန်လှုပ်ခြောက်ခြားသည်။ ❺ [ـ الْفِيلُ](ဆင်)ချေးပါသည်။ ❻ [ـ الشَّيْءَ]အစအနပျောက်စေသည်။ အဝေးသို့ ယူဆောင်သွားသည်။ ❼ [ـ الْبَحْرُ السَّمَكَ] (ပင်လယ်လှိုင်းက ငါးကို)ကမ်းပေါ်တင်စေသည်။ ❽ [ـ الرِّيحُ السَّحَابَ](လေက မိုးတိမ်ကို)တိုက်ခတ်သည်ဆောင်သွားသည်။ ❾ [ـ الشَّيْءَ عَنِ الشَّيْءِ]တစ်ခုကို တစ်ခုနှင့် ဝေးဝေးထားသည်။ ခွါထားသည်။ ❶❶ [ـ الطَّيْرَ] (ငှက်ကို)မောင်းနှင်ထုတ်သည်။ ❶❶ [ـ فُلَانًا] လုံးထွေးသတ်ပုတ်၍ လှဲချသည်။

[جَفْلٌ - جُفُولٌ] ❶ (ဆံပင်၊ အမွေး) ထောင်ခြင်း။

❶ တိမ်းရှောင်ထွက်ပြေးခြင်း။ ❷ အမြန်သွားခြင်း။ ❸ တုန်လှုပ်ခြောက်ခြားခြင်း။ ❹ (ဆင်)ချေးပါခြင်း။ ❺ အစအနပျောက်စေခြင်း။ အဝေးသို့ ယူဆောင်သွားခြင်း။ ❻ (ပင်လယ်လှိုင်းက ငါးကို)ကမ်းပေါ်တင်စေခြင်း။ ❼ (လေက မိုးတိမ်ကို)တိုက်ခတ်သည့်ဆောင်သွားခြင်း။ ❽ တစ်ခုကို တစ်ခုနှင့် ဝေးဝေးထားခြင်း။ ခွါထားခြင်း။ ❾❿ (ငှက်ကို)မောင်းနှင်ထုတ်ခြင်း။ ⓫ လုံးထွေးသတ်ပုတ်၍ လှဲချခြင်း။

[أَجْفَلَ] အမြန်သွားသည်။ ထွက်ပြေးသည်။

[جَفَّلَ] ❶ မောင်းနှင်ထုတ်သည်။ ❷ အလုံးစုံ ပျက်စီး၊ ပျောက်ပျက်စေသည်။

[اِنْجَفَلَ] ❶ အလျင်အမြန် ထွက်ပြေးသည်။ ❷ [ـالدِّيْكُ](ကြက်ဖ)လည်ပင်းမွေးထောင်သည်။

[الْاَجْفَلَى] လူအုပ်။ လူအုပ်စု တစ်ခုလုံး။ [دَعَاهُمُ الْاَجْفَلَى]အယုတ်၊ အမြတ်၊ အလတ် မရွေး လူအားလုံးကို ဖိတ်သည်။

[اَلْاَجْفَلَةُ] လူအုပ်။ လူအုပ်စု တစ်ခုလုံး။

[اَلْإِجْفِيْلُ] တွေ့သမျှကို ကြောက်နေသူ။ အကြောက်လွန်သည့် ဝေဒနာခံစားနေရသူ။

[اَلْجُفَالُ] ❶ များပြားလှသော(အရာ)။ ❷ အမြှုပ်၊ ရေမြှုပ်။

[اَلْجُفَالَةُ] ❶ များပြားလှသော(အရာ)။ ❷ အမြှုပ်၊ ရေမြှုပ်။

[اَلْجَفْلُ] ❶ တွေ့သမျှကို ကြောက်နေသူ။ အ ကြောက်လွန်သည့် ဝေဒနာခံစားနေရသူ။ (ج)[جُفُوْلٌ]။ ❷ မိုးရွာသွန်း၍ လွင်းပါးနေသော မိုးတိမ်။ ❸ မည်းနက်သော ပုရွက်ဆိတ်အကြီးစား။

[اَلْجِفْلُ] ဆင်ချေး။(ج)[اَجْفَالٌ]။

[اَلْجَفْلَى] လူအုပ်။ လူအုပ်စု တစ်ခုလုံး။

[اَلْجَفْلَةُ] ❶ အလွန်အရွက်များသော(အပင်)။ ❷ တစ်နှစ်ခန့် မည့ုပ်ဘဲထားသော သိုးမွေး။

[اَلْجُفْلَةُ] တစ်နှစ်ခန့် မည့ုပ်ဘဲထားသော သိုးမွေး။(ج)[جُفَلٌ]။

[اَلْجَفُوْلُ] အဖွားအို။

[اَلْجَفِيْلُ] ❶ များပြားလှသော(သိုးမွေး)။ ❷ စိုက်ခင်းရှိ ရှည်လျားသောအပင်များအား ဖြတ်တောက်ထားသည့်အကိုင်းအလက်များ။ အသီးအနှံများ။

[جَفَنَ ـ] ❶ [ـالطَّعَامَ](အစားအစာကို)ပန်းကန်၌ထည့်သည်။ ❷ [ـنَفْسَهُ عَنِ الشَّيْءِ] (တစ်စုံတစ်ရာမှ)စိတ်ကို ချုပ်တည်းထားသည်။

[جَفْنٌ] ❶ (အစားအစာကို)ပန်းကန်၌ ထည့်ခြင်း။ ❷ (တစ်စုံတစ်ရာမှ)စိတ်ကို ချုပ်တည်းထားခြင်း။

[جَفَّنَ] ❶ ပန်းကန်ပြုလုပ်သည်။ ❷ အစားအစာထည့်ထားသော ပန်းကန်ကိုပေးသည်။[اِئْتِنَا نُجَفِّنْ لَكَ]မင်း ငါတို့ဆီလာရင် မင်းအတွက် ငါတို့ စားစရာထည့်ထားတဲ့ ပန်းကန် ပေးမယ်။

[تَجَفَّنَ] မိမိကိုယ်ကို ဂျဖ်နဟ်မျိုးနွယ်ဝင် တစ်ဦးဟု ပြောသည်။

[اَلجَفْنُ] ❶ ဓါးအိမ်။ ❷ မျက်လွှာ။ မျက်ခွံ။ [اِنَّهُ لَشَدِيْدُ جَفْنِ الْعَيْنِ]သူဟာ အလွန်အိပ်ရေး အပျက်ခံနိုင်သူဖြစ်တယ်။ (ج) [ـ جُفُوْنٌ] ❸ ။[اَجْفُنٌ ـ اَجْفَانٌ] ❸ [جَفْنُ الْمَاءِ]မိုးတိမ်။ [جَفْنَا الرَّغِيْفِ]ပေါင်မုန့်၏မျက်နှာနှစ်ဘက်။

[اَلْجِفْنُ] ဓါးအိမ်။(ج)[اَجْفَانٌ ـ جُفُوْنٌ] ။[اَجْفُنٌ]

[اَلْجَفْنَةُ] ❶ ရေတွင်းငယ်။ ❷ ပန်းကန်။ ဇလုံ၊ အင်တုံ။ (ج)[جِفَانٌ ـ جِفَنٌ]။ ﴿وَجِفَانٍ كَالْجَوَابِ﴾ရေကန်ကြီးများတမျှ ဇလုံ၊ အင်တုံများ။ ❸ အလွန် ရက်ရောသော (ကျေး)သူ။ ❹ သတ္တုကျို့ချက်သည့်လုံခွက်။

[جَفَا ـ] ❶ [ـ الشَّيْءَ]နေရာလွဲချော်သည်။ အနေအထား မကျမနဖြစ်သည်။ အံမဝင်ခွင် မကျဖြစ်သည်။ ❷ ဝေးကွာသည်။ ❸ ထူထည်းကျမ်းတမ်းသည်။ ❹ [ـ فُلَانٌ]စရိုက်ကြမ်းသည်။ အကျင့်ဆိုးသည်။ ❺ [ـ فُلَانًا] ကျောခိုင်း၊ အဆက်ဖြတ်သည်။ ❻ [ـ الشَّيْءَ] ဝေးကွာစေသည်။ ❼ [ـ الشَّيْءُ عَلَيْهِ]လေးလံသည်။ ခက်ခဲပင်ပန်းစေသည်။ ❽ [ـ الْبَقْلَ] (ဟင်းသီးဟင်းရွက်ပင်ကို)အမြစ်မှ ဆွဲနုတ်သည်။

[جَفَاءٌ ـ جَفْوٌ] ❶ နေရာလွဲချော်ခြင်း။ အနေအထား မကျမနဖြစ်ခြင်း။ အံမဝင်ခွင်မကျဖြစ်ခြင်း။ ❷ ဝေးကွာခြင်း။ ❸ ထူထည်းကျမ်းတမ်းခြင်း။ ❹ စရိုက်ကြမ်းခြင်း။ အကျင့်ဆိုးခြင်း။ ❺ ကျောခိုင်း၊ အဆက်ဖြတ်ခြင်း။ ❻ ဝေးကွာစေခြင်း။ ❼ လေးလံခြင်း။ ခက်ခဲပင်ပန်းစေခြင်း။ ❽ (ဟင်းသီးဟင်းရွက်ပင်ကို) အမြစ်မှ ဆွဲနုတ်ခြင်း။

[جَفَى ـ] ❶ [ـ الشَّيْءَ]ဝေးကွာစေသည်။ အဝေးသို့ လွှင့်ပစ်သည်။ ❷ [ـ فُلَانًا]ကျောခိုင်း၊ အဆက်ဖြတ်သည်။ ❸ [ـ الْبَقْلَ](ဟင်းသီးဟင်းရွက်ပင်ကို)အမြစ်မှ ဆွဲနုတ်သည်။ ❹ [ـ فُلَانًا]နှပမ်းသတ်သည်။ တွန်းထိုးလှဲချသည်။

[اَجْفَى] ❶ [ـتِ الْاَرْضُ](မြေ)ညံ့သည်။ ❷ [ـ الشَّيْءَ]အဝေးသို့ လွှင့်ပစ်သည်။ ဝေးကွာစေသည်။ ❸ [ـ الْمَاشِيَةَ](တိရစ္ဆာန်ကို)ခပ်ကြမ်းကြမ်း မောင်းနှင်သည်။

[جَافَى] [ـ الشَّيْءَ]အဝေးသို့ လွှင့်ပစ်သည်။

[اِجْتَفَى] ❶ [ـ الشَّيْءَ]အဝေးသို့ လွှင့်ပစ်သည်။ ❷ [ـ فُلَانًا]ကျောခိုင်း၊ အဆက်ဖြတ်သည်။ ❸ [ـ الشَّيْءَ]ဝေးကွာစေသည်။ နေရာ မှဖယ်ရှားသည်။ ❹ [ـ الْبَقْلَ](ဟင်းသီးဟင်း ရွက်ပင်ကို)အမြစ်မှ ဆွဲနုတ်သည်။

[تَجَافَى] ❶ အဝေးသို့ လွှင့်စင်သွားသည်။ ❷ နေရာလွဲချော်၊ အနေအထားမမှန်၊ စနစ်မကျဖြစ်သည်။ ❸ [ـ فِيْ سُجُوْدِهِ]ဦးချရာ၌ မိမိ၏လက်မောင်းနှစ်ဘက်ကို ရင်ပတ်ဘေးနှင့်ခွါထားသည်။

[اِسْتَجْفَى] ကြမ်းတမ်းသော(သူ၊ အရာ)ဟုမှတ်ယူသည်။

[اَلْجَافِى] သဘာဝမကျသော ရွေးချယ်မှု။

[اَلْجُفَاءُ] အမြှုပ်၊ ရေမြှုပ်။

[اَلْجُفَايَةُ] သင်္ဘောအလွတ်။ ကုန်တင်ထားခြင်းမရှိသော သင်္ဘော)။

[جَلَبَ ـ] ❶ အော်ဟစ်ဆူညံသည်။ ညာသံ

ပေးသည်။ ❹ [ـالْجَرْحَ](အနာ၊ ဒဏ်ရာ) အသားတက်သည်။ ❺ [ـالدَّمُ](သွေး) ခြောက်သွေ့သည်။ ❻ [ـعَلَيْهِ]ကိုယ်ထိလက်ရောက် ကျူးလွန်သည်။ ❼ [ـلِاَهْلِهِ] (မိမိ၏ မိသားစုအတွက်)ဝမ်းစာရှာသည်။ ❽ [ـالشَّيْءَ]တစ်နေရာမှ တစ်နေရာသို့ ဆွဲယူသွားသည်။ တွန်းပို့သည်။ ❾ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)အော်ဟစ်ကြိမ်းမောင်း၍ ၄င်းအားတိုက်ခိုက်ရန် လှုံ့ဆော်သည်။ ❿ [ـعَلَى الْفَرَسِ](မြင်းကို)အော်ဟစ်၍ အသော့နှင်သည်။

[جَلْبٌ - جَلَبٌ] ❶ အော်ဟစ်ဆူညံခြင်း။ ညာသံပေးခြင်း။ ❷ (အနာ၊ ဒဏ်ရာ) အသားတက်ခြင်း။ ❸ (သွေး)ခြောက်သွေ့ခြင်း။ ❹ ကိုယ်ထိလက်ရောက် ကျူးလွန်ခြင်း။ ❺ (မိမိ၏ မိသားစုအတွက်)ဝမ်းစာရှာခြင်း။ ❻ တစ်နေရာမှ တစ်နေရာသို့ ဆွဲယူသွားခြင်း။ တွန်းပို့ခြင်း။ ❼ (တစ်ဦးတစ်ယောက်ကို)အော်ဟစ်ကြိမ်းမောင်း၍ ၄င်းအားတိုက်ခိုက်ရန် လှုံ့ဆော်ခြင်း။ ❽ (မြင်းကို)အော်ဟစ်၍ အသော့နှင်ခြင်း။

[جَلَّابٌ] တစ်နေရာမှ တစ်နေရာသို့ ဆွဲယူသွားသော(သူ)။ တွန်းပို့သော(သူ)။

[جَلَبَ -] [ـعَلَى الْفَرَسِ]စုသည်။ စုဆောင်းသည်။

[جَلْبٌ] စုခြင်း။ စုဆောင်းခြင်း။

[اَجْلَبَ] ❶ [ـالْقَوْمُ]စုရုံး၍ ဆူညံအော်ဟစ်ကြသည်။ ညာသံပေး ဟစ်အော်သည်။ ❷ [ـالْجَرْحَ](အနာ၊ ဒဏ်ရာ)အသားတက်သည်။ ❸ [ـالدَّمُ](သွေး)ခြောက်သွေ့သည်။ ❹ [ـعَلَيْهِ]ကိုယ်ထိလက်ရောက် ကျူးလွန်သည်။ ❺ [ـلِاَهْلِهِ](မိမိ၏ မိသားစုအတွက်) ဝမ်းစာရှာသည်။ ❻ [ـالشَّيْءَ]တစ်နေရာမှ တစ်နေရာသို့ ဆွဲယူသွားသည်။ တွန်းပို့သည်။ ❼ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို) အော်ဟစ်ကြိမ်းမောင်း၍ ၄င်းအားတိုက်ခိုက်ရန် လှုံ့ဆော်သည်။ ❽ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)ကူညီရန် လှုံ့ဆော်ပေးသည်။ ❾ [ـعَلَى الْفَرَسِ](မြင်းကို)အော်ဟစ်၍ အသော့နှင်သည်။

[جَلَّبَ] ❶ [ـالْقَوْمُ]စုရုံး၍ ဆူညံအော်ဟစ်ကြသည်။ ညာသံပေးဟစ်အော်သည်။ ❷ [ـالرَّعْدُ]မိုးခြိမ်းသည်။ ❸ [ـعَلَى الْفَرَسِ] (မြင်းကို)အော်ဟစ်၍ အသော့နှင်သည်။

[اِنْجَلَبَ] ရောက်ရှိသွားသည်။ ဆွဲရာသို့ လိုက်ပါသွားသည်။

[تَجَلَّبَ] ရေကြည်ရာမြက်နုရာ လှည့်လည်သွားလာသည်။

[اِسْتَجْلَبَ] [ـالشَّيْءَ]မိမိထံသို့ ဆွဲယူလာရန် တောင်းဆိုသည်။ မိမိထံသို့ ပို့ဆောင်ပေးရန် တောင်းဆိုသည်။

[اَلْجَالِبَةُ] ပျက်စီးစေသည့်အရာ။ အကြပ်အတည်း၊ အခက်အခဲ။ ဘေးဒုက္ခ။(ج) [جَوَالِبُ]။

[اَلْجَلَبُ] ❶ အရောင်းအဝယ်ပြုလုပ်ရန် ဆွဲငင်ယူဆောင်လာသော ကုလားအုတ်၊ သိုး၊ ဆိတ်စသည်။ ❷ အရောင်းအဝယ်ပြုလုပ်ရန် ကုလားအုတ်၊ သိုး၊ ဆိတ်စသည်ကို ဆွဲငင်

ယူဆောင်လာကြသောသူများ။(ဂ)[اَجْلَابٌ]။

[اَلْجِلْبُ] ❶ အဖုံးအကာ၊ အပိတ်။ ❷ (ည၏)အမှောင်ထု။ ❸ တိမ်တောင်တိမ်လိပ်။ (ဂ)[اَجْلَابٌ]။

[اَلْجُلْبَانُ] ❶ ဓါးလွယ်နှင့် အခြားခရီးဆောင်ပစ္စည်းများကို ထည့်ရသော သားရေအိတ်။ ❷ အစေ့ကို စားရသော ရာသီလိုက်ပေါက်ရောက်သည့် အပင်တစ်မျိုး။

[اَلْجُلُبَّانُ] ❶ ဓါးလွယ်နှင့် အခြားခရီးဆောင်ပစ္စည်းများကို ထည့်ရသော သားရေအိတ်။ ❷ အစေ့ကို စားရသော ရာသီလိုက်ပေါက်ရောက်သည့် အပင်တစ်မျိုး။ ❸ ဟစ်အော်ဆူညံသူ။

[اَلْجُلْبَةُ] ❶ အနာ၊ ဒဏ်ရာပျောက်ကင်းသဖြင့် အသားတက်၍ ခြောက်သွားသောအရေပြား။ ❷ တစ်စုံတစ်ခုပေါ်၌ခြောက်သွားသည်အထိ အုပ်ထားရသော သားရေ။ ❸ တိမ်အပိုင်းအစ။ ❹ ကစဥ့်ကလျားဖြစ်နေသော မြက်ပင်များ။ ❺ အခါသမယဆိုး။ အလွန်ဆိုးရွားလှသောခေတ်ကာလ။ အခက်ခဲဆုံး အချိန်အခါ။(ဂ)[جُلَبٌ]။

[اَلْجَلَبَةُ] ဆူညံအော်ဟစ်မှု။(ဂ)[جَلَبٌ]။

[اَلْجُلَّابُ] နှင်းဆီရေ။(ဂ)[جَلَبٌ]။

[اَلْجَلُوبَةُ] ❶ ရောင်းဝယ်ရန်အတွက် ဆွဲငင်ယူဆောင်လာသောပစ္စည်း။ ❷ ကုန်ပစ္စည်းများတင်ဆောင်ထားသော ကုလားအုတ်။ (ဂ)[جَلَائِبُ]။

[اَلْجَلِيبُ] ❶ ဆွဲဆောင်ယူငင်လာခြင်းခံရသော(သူ)။(ဂ)[جُلَبَاءُ - جَلْبَى]။ ❷ ဆွဲဆောင်ယူငင်လာခြင်းခံရသော(သူမ)။(ဂ)[جَلْبَى - جَلَائِبُ]။

[اَلْجَلِيبَةُ] ဆွဲဆောင်ယူငင်လာခြင်းခံရသော(သူမ)။(ဂ)[جَلَائِبُ]။

✿ [جَلْبَبَ] ❶ [ـهُ]အင်္ကျီဝတ်ဆင်ပေးသည်။ ❷ [ـهَا]ခြုံထည် ဝတ်ဆင်ပေးသည်။

[تَجَلْبَبَ] ❶ အင်္ကျီဝတ်ဆင်ထားသည်။ ❷ ခြုံထည် ဝတ်ဆင်ထားသည်။

[اَلْجِلْبَابُ] ❶ အင်္ကျီ၊ ❷ ခြုံထည်။ ❸ အမျိုးသမီးများ မိမိတို့၏ရင်သားပေါ်၌ ဖုံးအုပ်ဆင်မြန်းရသော ပုဝါ။ ❹ ခေါင်းမြီးခြုံထည်။ (ဂ)[جَلَابِيبُ]။﴿يُدْنِيْنَ عَلَيْهِنَّ مِنْ جَلَابِيْبِهِنَّ﴾ သူမတို့သည် မိမိတို့၏အပေါ်ရုံခြုံထည်များကို မိမိတို့၏ကိုယ်ပေါ်၌ တွဲလျားချထားကြရမည်။

✿ [جَلْجَلَ] ❶ [ـالسَّحَابُ اَوِ الرَّعْدُ]မိုးခြိမ်းသည်။ မိုးခြိမ်းသံ တုန်ခါမြည်ဟည်းသည်။ ❷ [ـالرَّجُلُ]ဟိန်းဟောက်သည်။ ❸ ခေါင်းလောင်းကို အသံမြည်အောင်လှုပ်ရမ်းသည်။ ❹ [ـالفَرَسُ](မြင်း)ဟီသည်။ ❺ [ـالشَّيْءَ](တစ်စုံတစ်ရာကို)အသံမြည်အောင် လှုပ်ရမ်းသည်။ ❻ (တစ်စုံတစ်ရာကိုအခြားတစ်စုံတစ်ရာဖြင့်) အသံမြည်လာသည်အထိ ရောမွှေသည်။ ❼ [ـالبَعِيرَ](ကုလားအုတ်ကို)ခြုံဆွဲပေးသည်။ ❽ [ـالشَّيْءَ]ဆန်ကာချသည်။ ❾ [ـالاَمْرُ فِيْ نَفْسِهِ]စိတ်ကူးပေါ်သည်။ စိတ်လှုပ်ရှားသည်။

[تَجَلْجَلَ] ❶ လှုပ်ရမ်းသဖြင့် အသံမြည်သည်။ ❷ ရောမွှေသဖြင့် အသံမြည်သည်။

❷ ဆန်ကာချပြီးသားဖြစ်သည်။ ❸ လှုပ်ရှားသည်။ [ـ الْقَوْمُ لِلسَّفَرِ] ခရီးထွက်ရန် လှုပ်ရှားကြသည်။ ❹ [ـ الْأَمْرُ فِي نَفْسِهِ] စိတ်ကူးပေါ်သည်။ စိတ်လှုပ်ရှားသည်။

[اَلْجِلَاجِلُ] ❶ ဟိန်းသံ၊ မြည်သံ။ ❷ အလုပ်ကို သွက်လက်တက်ကြွစွာ လုပ်ကိုင်တတ်သောအစေခံ။ ❸ စိတ်ကူး၊ စိတ်လှုပ်ရှားမှု။

[اَلْجَلْجَالُ] ပြင်းထန် ပြတ်သားသောအသံ။

[اَلْجُلْجُلَانُ] ❶ မရိုတ်သိမ်းရသေးသော နှမ်းစေ့။ ❷ နှလုံးသည်းပွတ်။ [أَصَبْتُ جُلْجُلَانَ قَلْبِهِ] သူ့နှလုံးသားအတွင်းအထိ ရောက်အောင်၊ မှတ်လောက်သားလောက်တဲ့အထိ ခံစားသွားရလေအောင် ငါပြောထည့်လိုက်တယ်။ ❸ နံနံစေ့။

[اَلْجُلْجُلُ] ❶ ခေါင်းလောင်းငယ်။ ချူ။ ❷ အလွန်အရေးပါသော အမှုကိစ္စ။ ❸ မပြောပလောက်သောအမှုကိစ္စ။ ❹ အလုပ်ကို သွက်လက်တက်ကြွစွာဆောင်ရွက်သော(အစေခံ)။(ج)[جَلَاجِلُ]။[بَثَثْتُهُ جَلَاجِلَ نَفْسِي]ငါ့ရဲ့စိတ်ကူးပါက်တာတွေကို သူ့ကိုပြောပြခဲ့တယ်။

[اَلْمُجَلْجِلُ] ❶ ခွန်အားဗလနှင့်ပြည့်စုံသည့် ခေါင်းဆောင်။ ❷ မိုးခြိမ်းသံနှင့်အတူ မိုးရွာသွန်းသည့် မိုးတိမ်။ ❸ အပြစ်ဆိုဖွယ်မရှိအောင် သပ်ယပ်ပြေပြစ်သူ။ ❹ အသံကို အဝေးသို့ရောက်ရှိအောင် အော်ဟစ်နိုင်သူ။

[اَلْمُجَلْجَلُ] အလွန်မျိုးရိုးသန့်သူ။ အခြားသွေးနှောထားခြင်းမရှိသူ။

✿ [جَلَحَ ـَ] [ـ الْحَيَوَانُ النَّبْتَ](တိရစ္ဆာန် အပင်၏)အညွှန့်များနှင့် အခက်အလက်များကို စားသည်။

[جَلْحٌ] ❶ (တိရစ္ဆာန် အပင်၏)အညွှန့်များနှင့် အခက်အလက်များကို စားခြင်း။

[جَلِحَ ـَ] ❶ ထိပ်ပြောင်သည်။ ❷ [ـ الْيَوْمُ] (နေ့)အပူချိန် ပြင်းထန်သည်။ ❸ [ـ الثَّوْرُ] (နွားထီး)ဦးချို ကင်းမဲ့သည်။ ❹ [ـتِ الْأَرْضُ] (မြေနေရာ၌)တိရစ္ဆာန်များ ကျက်စားထားသဖြင့် ကွက်လပ်ဖြစ်သည်။ ❺ [ـتِ الْقَرْيَةُ] (မြို့၊ ရွာ)မြို့ရိုး၊ စည်းရိုးကင်းမဲ့သည်။

[جَلَحٌ] ❶ ထိပ်ပြောင်ခြင်း။ ❷ (နေ့)အပူချိန်ပြင်းထန်ခြင်း။ ❸ (နွားထီး)ဦးချို ကင်းမဲ့ခြင်း။ ❹ (မြေနေရာ၌)တိရစ္ဆာန်များ ကျက်စားထားသဖြင့် ကွက်လပ်ဖြစ်ခြင်း။ ❺ (မြို့၊ ရွာ)မြို့ရိုး၊ စည်းရိုးကင်းမဲ့ခြင်း။

[أَجْلَحُ] ❶ ထိပ်ပြောင်သော(သူ)။ ❷ အပူချိန်ပြင်းထန်သော(နေ့)။ ❸ ဦးချိုကင်းမဲ့သော (နွားထီး)။ ❹ တိရစ္ဆာန်များ ကျက်စားထားသဖြင့် ကွက်လပ်ဖြစ်(မြေနေရာ)။ ❺ မြို့ရိုး၊ စည်းရိုးကင်းမဲ့သော(မြို့၊ ရွာ)။(م)[جَلْحَاءُ]။(ج)[جُلْحٌ]။

[جَالَحَ] ❶ တစ်ဦးနှင့်တစ်ဦး ဂုဏ်ပြိုင်သည်။ အားပြိုင်သည်။ ❷ [ـ بِالْعَدَاوَةِ]ရန်စသည်။ စိန်ခေါ်ရန်လုပ်သည်။

[جَلَّحَ] ❶ [ـ الذِّئْبُ](ဝံပုလွေ)အတင့်ရဲသည်။ ခုန်အုပ်တိုက်ခိုက်သည်။ ❷ [ـ السَّنَةُ] (အငတ်ဘေး)ဥစ္စပစ္စည်းများကို ကုန်ဆုံးပျက်သုဉ်းစေသည်။ ကုန်းကောက်စရာမရှိအောင် မွဲတေစေသည်။ ❸ [ـ فُلَانٌ]အရှိန်အဟုန်

ပြင်းစွာ ပြေးသည်။ ❹ [ـفُلَانٌ فِى الْاَمْرِ]အတင့်ရဲစွာဆောင်ရွက်သည်။ တာဝန်ယူ ခေါင်းခံဆောင်ရွက်သည်။ ❺ [ـالْحَيَوَانُ النَّبْتَ](တိရစ္ဆာန် အပင်၏)အညွန့်များနှင့် အခက်အလက်များကို စားသည်။

[اَلْاَجْلَحُ] ❶ ဦးချိုကင်းမဲ့သောတိရစ္ဆာန်။ (ج)[جُلْحٌ]။ ❷ အမိုးမပါသော အစီးအနင်းပေါ်တင်ထားသည့် ဝေါ၊ ထမ်းစင်။ (ج)[اَجْلَاحٌ]။

[اَلْاِجْلِيحُ] အညွန့်၊ အခက်အလက်များ ခူးစားထားသော(အပင်)။

[اَلْجَالِحَةُ] ❶ ကြံ၊ ပြောင်းအစရှိသောအပင်တို့၏အဖျားဍ္ဍ်ရှိသော လေထဲ၌ ပျံ့လွင့်နေသောအမှုံ။ ❷ နှင်းမှုံနှင်းပွင့်။(ج)[جَوَالِحُ]။

[اَلْجُلَاحُ] အလွန်ရေစီးသန်သော(ချောင်း၊ မြောင်း)။

[اَلْجَلْحَاءُ] ❶ ဦးချိုကင်းမဲ့သောတိရစ္ဆာန်(အမ)။ ❷ စည်းရိုးမရှိသောရွာ၊ မြို့ရိုးမရှိသော(မြို့)။ ❸ သစ်ပင်မရှိသော(မြေနေရာ။ (ج)[جُلْحٌ]။

[اَلْجَلَحَةُ] ဦးခေါင်းရှိ ဆံပင်မပေါက်သောနေရာ။ ပြောင်နေသောထိပ်။

[اَلْمَجَالِحُ] ခြသေ့်။

[اَلْمِجْلَاحُ] အငတ်ဘေး။ မိုးခေါင်ရေရှားသောနှစ်။(ج)[مَجَالِيحُ]။

✿ [جَلَخَ ـ] ❶ [ـبِفُلَانٍ]တွန်းထိုးလှဲချသည်။ နပမ်းသတ်သည်။ ❷ [ـالسَّيْلُ الْوَادِىَ](ရေစီးက လျှိုကို)ပြည့်လျှံစေသည်။ လျှို၏ကမ်းနှစ်ဘက်ကို တိုက်စားသွားသည်။ ❸ [ـالشَّىْءَ] ဆွဲဆန့်သည်။ ဖြန့်သည်။ ခင်းသည်။ ❹ အခွံနွာသည်။ အခွံသင်သည်။ ❺ [ـفُلَانًا بِالسَّيْفِ] ဓါးဖြင့် အသားကို လှီးဖြတ်သည်။

[جَلْخٌ] ❶ တွန်းထိုးလှဲချခြင်း။ နပမ်းသတ်ခြင်း။ ❷ (ရေစီးက လျှိုကို)ပြည့်လျှံစေခြင်း။ လျှို၏ကမ်းနှစ်ဘက်ကို တိုက်စားသွားခြင်း။ ❸ ဆွဲဆန့်ခြင်း။ ဖြန့်ခြင်း။ ခင်းခြင်း။ ❹ အခွံနွာခြင်း။ အခွံသင်ခြင်း။ ❺ ဓါးဖြင့် အသားကို လှီးဖြတ်ခြင်း။

[جَلَّخَ] ❶ [ـالشَّىْءَ]ဆွဲဆန့်သည်။ ဖြန့်သည်။ ခင်းသည်။ ❷ [ـالْمُوْسَى]မောင်းချဓါးကို သွေးသည်။

[اِجْلَخَّ] ❶ အရိုးအဆစ်များ မခိုင်ဘဲ အားနည်းချိနဲ့သည်။ ❷ ဦးချရာ၌ လက်မောင်းရင်းနှစ်ဘက်ကို ဖွင့်ကားထားသည်။

[اَلْجُلَاخُ] ❶ အလွန် ရေစီးသန်သော(ချောင်း၊ မြောင်း)။ ❷ အလွန်နက်သောလျှို။

[اَلْجُلْخُ] ဓါးသွေးကျောက်၊ ကျောက်စက်။

[اَلْجَلِيْخُ] ရေစီးသံ၊ ရေကျသံ။

✿ [جَلَدَ ـ] ❶ [ـهُ]အရေပြားကို ထိခိုက်နာကျင်စေသည်။[جَلَدَهُ بِالسَّوْطِ]ကြာပွတ်ဖြင့် အရေပြားစုတ်အောင် ရိုက်သည်။[جَلَدَهُ بِالسَّيْفِ] ဓါးဖြင့် ခုတ်သည်။ ❷ [ـالْحَيَّةُ فُلَانًا](မြွေ)ပေါက်သည်။ ❸ [ـبِهِ الْاَرْضَ]မြေကြီးပေါ်တွန်းထိုးလှဲချသည်။ ❹ [ـفُلَانًا الْحَدَّ]ပြစ်ဒဏ်စီရင်သည်။ ❺ [ـفُلَانًا عَلَى الْاَمْرِ]ကိစ္စတစ်ခုကို အတင်းအကြပ် စေခိုင်းသည်။

[جَلْدٌ] ❶ အရေပြားကို ထိခိုက်နာကျင်စေခြင်း။ ❷ (မြွေ)ပေါက်ခြင်း။ ❸ မြေကြီးပေါ်

တွန်းထိုးလှဲချခြင်း။ ❺ ပြစ်ဒဏ် စီရင်ခြင်း။ ❻ ကိစ္စတစ်ခုကို အတင်းအကြပ် စေခိုင်းခြင်း။

[جَلِدَ ـ] [ـتِ الْأَرْضُ](မြေကြီးပေါ်၌)ရေခဲသည်။ မိုးသီးကျရောက်သည်။

[جَلْدٌ] (မြေကြီးပေါ်၌)ရေခဲခြင်း။ မိုးသီးကျရောက်ခြင်း။

[جَلُدَ ـ] ❶ ခွန်အားနှင့်ပြည့်စုံသည်။ ❷ ဒုက္ခအခက်အခဲများအပေါ် ကြံ့ကြံ့ခံရပ်တည်သည်။ ဖွဲ့ရှိသည်။

[جَلَدٌ ـ جَلَادَةٌ ـ جُلُودَةٌ] ❶ ခွန်အားနှင့်ပြည့်စုံခြင်း။ ❷ ဒုက္ခအခက်အခဲများအပေါ် ကြံ့ကြံ့ခံရပ်တည်ခြင်း။ ဖွဲ့ရှိခြင်း။

[جَلْدٌ] ❶ ခွန်အားနှင့်ပြည့်စုံသော(သူ)။ ❷ ဒုက္ခအခက်အခဲများအပေါ် ကြံ့ကြံ့ခံရပ်တည်သော(သူ)။ ဖွဲ့ရှိသော(သူ)။(ج)[أَجْلَادٌ]။

[جَلِيدٌ] ❶ ခွန်အားနှင့်ပြည့်စုံသော(သူ)။ ❷ ဒုက္ခအခက်အခဲများအပေါ် ကြံ့ကြံ့ခံရပ်တည်သော(သူ)။ ဖွဲ့ရှိသော(သူ)။(ج)[أَجْلَادٌ ـ جُلَدَاءُ]။

[جُلِدَ] [ـتِ الْأَرْضُ](မြေကြီးပေါ်၌)ရေခဲသည်။ မိုးသီးကျရောက်သည်။

[أَجْلَدَ] ❶ [ـهُ]အရေပြားကို ထိခိုက်နာကျင်စေသည်။[جَلَدَهُ بِالسَّوْطِ]ကြာပွတ်ဖြင့် အရေပြားစုတ်အောင် ရိုက်သည်။[جَلَدَهُ بِالسَّيْفِ] ဓါးဖြင့် ခုတ်သည်။ ❷ [ـالْحَيَّةُ فُلَانًا](မြွေ) ပေါက်သည်။ ❸ [ـ بِهِ الْأَرْضَ]မြေကြီးပေါ် တွန်းထိုးလှဲချသည်။ ❹ [ـفُلَانًا الْحَدَّ]ပြစ်ဒဏ် စီရင်သည်။ ❺ [ـفُلَانًا عَلَى الْأَمْرِ]ကိစ္စတစ်ခုကို အတင်းအကြပ် စေခိုင်းသည်။ ❻ [ـفُلَانًا إِلَيْهِ] အကြပ်အတည်းတွေ့စေသည်။ မရမဖြစ်၊ မရှိမဖြစ်အခြေအနေကို ဖန်တီးပေးထားသည်။

[أُجْلِدَ] [ـتِ الْأَرْضُ](မြေကြီးပေါ်၌)ရေခဲသည်။ မိုးသီးကျရောက်သည်။

[جَالَدَ] [ـهُ بِالسَّيْفِ](ဓါးဖြင့်)တစ်ဦးကို တစ်ဦး တိုက်ခိုက်သည်။

[مُجَالَدَةٌ ـ جِلَادٌ] (ဓါးဖြင့်)တစ်ဦးကိုတစ်ဦး တိုက်ခိုက်ခြင်း။[لَوْ لَا جِلَادِيْ لَغَنَمَ تِلَادِيْ]ငါသာ ဓါးနဲ့ခုခံတိုက်ခိုက်ခြင်းမရှိလျှင် ငါ့ပစ္စည်းတွေ ကုန်သွားတာကြာပြီ။

[جَلَّدَ] ❶ [ـالشَّيْءَ]သားရေဖုံးအုပ်သည်။ ❷ [ـالْكِتَابَ](စာအုပ်ကို)သားရေအဖုံး ဖုံးသည်။ စာအုပ်ကို အတွဲများခွဲချုပ်သည်။ ❸ [ـالذَّبِيحَةَ](လည်လှီးထားသော သားကောင်ကို)အရေခွါသည်။

[اِجْتَلَدَ] ❶ [ـالْقَوْمُ بِالسُّيُوفِ]ဓါးများဖြင့် တစ်ဦးကိုတစ်ဦး တိုက်ခိုက်ကြသည်။ ❷ [ـمَا فِي الْإِنَاءِ](ခွက်ထဲ၌ရှိသမျှကို)တစ်စက်မကျန် သောက်သည်။

[تَجَالَدَ] [ـالْقَوْمُ بِالسُّيُوفِ]ဓါးများဖြင့် တစ်ဦးကိုတစ်ဦး တိုက်ခိုက်ကြသည်။

[تَجَلَّدَ] ❶ [ـالشَّيْءُ]သားရေအုပ်ထားသည်။ ❷ [ـالْكِتَابُ](စာအုပ်)သားရေဖြင့် ချုပ်ထားသည်။ အတွဲများခွဲချုပ်ထားသည်။ ❸ [ـالْجَلَدُ](ကုလားအုတ်ပေါက်စ၏သားရေ၌ မြက်၊ ကောက်ရိုးစသည်ကို သွပ်၍ပြုလုပ်ထားသော ကုလားအုတ်ပေါက်စအရုပ်

ကို) ကုလားအုတ်မနို့ချပေးရန် ထုတ်ပြသည်။
❸ ဖွံ့ကြိုးသည်။ ကြံ့ကြံ့ခံသည်။
[اَلْاَجْلَدُ] မာပြင်းကြမ်းတမ်းသောမြေ။
[اَلتَّجَالِيْدُ] [تَجَالِيْدُ الْاِنْسَانِ]လူတစ်ကိုယ်လုံး။
[اَلْجِلْدُ] သားရေ။ အရေပြား။[لَبِسَ لَهُ جِلْدَ النَّمِرِ] သူ့ကို ကျားသားရေ ခြုံပြသည်။(ရန်စသည်။)
[اَجْلَادُ الْاِنْسَانِ]လူတစ်ကိုယ်လုံး။[اَجْلَادٌ ـ جُلُوْدٌ](ج)
[اَلْجَلَدُ] ❶ ကုလားအုတ်ပေါက်စ၏သားရေ၌ မြက်၊ ကောက်ရိုးစသည်ကို သွပ်၍ပြုလုပ်ထားသော ကုလားအုတ်ပေါက်စအရုပ်။ ကြည့်[اَلْبَوُّ]။ ❷ မာပြင်းကြမ်းတမ်းသောမြေ။ ❸ ကလေးနှင့် နို့မရှိသောကုလားအုတ်မ၊ ဆိတ်မစသည်။(ج)[اَجْلَادٌ ـ جِلَادٌ]။
[اَلْجِلْدَةُ] ❶ သားရေအပိုင်းအစ။ ❷ မိသားစု။ မျိုးနွယ်။[هُوَ مِنْ جِلْدَتِنَا]သူဟာ ငါတို့ရဲ့ မျိုးနွယ်ကဖြစ်တယ်။
[اَلْجَلَّادُ] ❶ ပြစ်ဒဏ်စီရင်ရသူ။ အာဏာပါးကွက်သား။ ❷ သားရေကုန်သည်။
[اَلْجَلِيْدُ] မြေပေါ်၌ခဲနေသောရေ၊ နှင်းခဲ၊ မိုးသီး။
[اَلْمِجْلَادُ] ❶ ကြာပွတ်။ ❷ သားရေအပိုင်းအစ။ ❸ ငိုချင်းချသူအမျိုးသမီးများ မိမိတို့၏ မျက်နှာကို ရိုက်ပုပ်သောပုဝါ။
[اَلْمِجْلَدُ] ❶ ကြာပွတ်။ ❷ သားရေအပိုင်းအစ။ ❸ ငိုချင်းချသူအမျိုးသမီးများ မိမိတို့၏ မျက်နှာကို ရိုက်ပုပ်သောပုဝါ။(م)[اَلْمِجْلَدَةُ]။ (ج)[مَجَالِدُ]။
[اَلْمُجَلَّدُ] ❶ အသားမရှိဘဲ အရေပြားသာလျှင် တင်ကျန်နေသောအရိုး။ ❷ သားရေဖြင့်ဖုံးအုပ်ချုပ်ထားသော၊ အတွဲများခွဲထားသော (စာအုပ်)။ ❸ [حَيَوَانٌ مُجَلَّدٌ]ရိုက်သလောက်မဖြုံသောတိရစ္ဆာန်။

✿ [اِجْلَوَّذَ] ❶ အလျှင်အမြန်သွားသည်။ ❷ ဆက်လက်ဖြစ်မြဲဖြစ်သည်။ ❸ [ـ اللَّيْلُ](ည) ကုန်ဆုံးသွားသည်။ ❹ (ည)တာရှည်သည်။ ❺ [ـ الْمَطَرُ](မိုး)စဲသွားပြီးဆက်လက်ရွာသည်။ ❻ အမြန်သွားမြဲသွားသည်။ အမြန်နှုန်းကို ထိန်းထားသည်။
[اَلْجُلَذُ] ကြွက်စုတ်တစ်မျိုး။(ج)[مَنَاجِذُ]။
[اَلْجُلَاذِيُّ] ❶ ခက်ထန်ကြမ်းတမ်းသောသူ။ ❷ ကျောက်ခဲ၊ ကျောက်တုံး။ ❸ အလုပ်သမား။ ❹ ဘုန်းကြီး။(ج)[جَلَاذِيُّ]။
[اَلْجِلْذَاءُ] ❶ ကြမ်းတမ်းသောမြေ။ ❷ ကျောက်ခဲ၊ ကျောက်တုံး။
[اَلْجِلْذِيُّ] ❶ ခက်ထန်ကြမ်းတမ်းသောသူ။ ❷ ကျောက်ခဲ၊ ကျောက်တုံး။ ❸ အလုပ်သမား။ ❹ ဘုန်းကြီး။
[اَلْجِلْوَذُ] ခက်ထန်ကြမ်းတမ်းသောသူ။

✿ [جَلَزَ ـ] ❶ အလျှင်အမြန်သွားသည်။ ❷ [ـ الشَّيْءَ]လိပ်ခေါက်သည်။ ပတ်စည်းသည်။ ❸ [ـ الشَّيْءَ بِالشَّيْءِ](တစ်ခုကို အခြားတစ်ခုနှင့်)ပူးပေါင်းသည်။ ထပ်သည်။ ပူးကပ်တွဲစပ်ထားသည်။ စည်းနှောင်သည်။ ❹ [ـ الرَّاْسَ] (ဦးခေါင်းကို)ပုဝါသို့မဟုတ် ပတ်တီးစည်းထားသည်။ ❺ [ـ عَلَى الْاَمْرِ نَفْسَهُ](အမှုကိစ္စတစ်စုံတစ်ရာပေါ်၌)မိမိ၏စိတ်ကို စုစည်းထားသည်။ အာရုံပြုထားသည်။ ❻ [ـ السِّكِّيْنَ]

(ခါးကို)အရိုးတပ်သည်။ ခါးရိုး၌ သံကွင်းတပ်သည်။

[جَلْزٌ ـ جَلِيزٌ] ❶ အလျှင်အမြန်သွားခြင်း။ ❷ လိပ်ခေါက်ခြင်း။ ပတ်စည်းခြင်း။ ❸ (တစ်ခုကို အခြားတစ်ခု နှင့်)ပူးပေါင်းခြင်း။ ထပ်ခြင်း။ ပူးကပ်တွဲစပ်ထားခြင်း။ စည်းနှောင်ခြင်း။ ❹ (ဦးခေါင်းကို)ပုဝါသို့မဟုတ် ပတ်တီးစည်းထားခြင်း။ ❺ (အမှုကိစ္စတစ်စုံတစ်ရာပေါ်၌)မိမိ၏စိတ်ကို စုစည်းထားခြင်း။ အာရုံပြုထားခြင်း။ ❻ (ခါးကို)အရိုးတပ်ခြင်း။ ခါးရိုး၌ သံကွင်းတပ်ခြင်း။

[جَلَزَ] ❶ အလျှင်အမြန်သွားသည်။ ❷ [ـالشَّيْءَ]လိပ်ခေါက်သည်။ ပတ်စည်းသည်။

[جَلْوَزَ] [ـالشُّرْطِيُّ](ပုလိပ်)ခြေဖော့၍ လျှောက်သည်။ပေါ့ပါးစွာ သွားလာသည်။

[اَلْجِلَازُ] ❶ တစ်စုံတစ်ရာပေါ်၌ လိပ်ပတ်ရသောအရာ။ ❷ ကြာပွတ်ထိပ်၌ လိပ်ပတ်ထားသော သားရေပြား။ ❸ လေးကိုင်း၌ လိပ်ပတ်ထားသော သားရေ၊ သို့မဟုတ် သစ်ပင်၏အခေါက်၊ အကြော။(မ)[جِلَاذَةٌ]။ (ဇ)[جَلَائِزُ]။

[اَلْجَلْزُ] ❶ ခါးရိုး၊ လုံရိုးစသည်တို့၏အရင်း၌ ခိုင်မြဲစေရန် စွပ်ထားရသော သတ္တုကွင်း။ ❷ သားရေပြား။ သစ်ပင်၏အခေါက်၊ အကြော။

[اَلْجِلْوَزُ] ❶ ကိုယ်ကာယထွားကျိုင်း၍သတ္တိနှင့်ပြည့်စုံသူ။ ❷ သစ်အယ်ပင်။ ❸ ရဲသား။ ပုလိပ်။(ဇ)[جَلَاوِزَةٌ]။

[اَلْجِلْوَازُ] ရဲသား။ ပုလိပ်။(ဇ)[جَلَاوِزَةٌ]။

[رَجُلٌ مَجْلُوزُ الْجِسْمِ] ❶ [اَلْمَجْلُوزُ]အသားအရေကျစ်လျစ်ခိုင်မာသူ။ ❷ [مَجْلُوزُ الرَّأْيِ] အတွေးအခေါ် မှန်ကန်တိကျသူ။

✿ [جَلَسَ ـِ] ❶ ထိုင်သည်။ ❷ [ـالطَّائِرُ] (ငှက်)နားသည်။ ❸ [ـالشَّيْءَ]တည်ရှိသည်။ ❹ [ـجَلْسًا]မာပြင်းသောမြေနေရာသို့ လာသည်။

[جُلُوسٌ ـ مَجْلَسٌ] ❶ ထိုင်ခြင်း။ ❷ (ငှက်)နားခြင်း။ ❸ တည်ရှိခြင်း။ ❹ မာပြင်းသောမြေ နေရာသို့ လာခြင်း။

[جَالِسٌ] ❶ ထိုင်သော(သူ)။ ❷ နားသော(ငှက်)။ ❸ တည်ရှိသော(အရာ)။ ❹ မာပြင်းသောမြေနေရာသို့ လာသော(သူ)။

[اَجْلَسَ] ❶ ထိုင်စေသည်။ ❷ [ـالشَّيْءَ] တည်ရှိစေသည်။

[جَالَسَ] အတူထိုင်သည်။

[هُوَ جَلِيسُ نَفْسِهِ]။[جَلِيسٌ ـ مُجَالِسٌ] အတူထိုင်သော(သူ)။ သူနဲ့အတူထိုင်သူဆိုလို့ သူဘဲရှိတယ်။(သူလူတွေနဲ့ ရောနှောဆက်ဆံမှု ကင်းတယ်။)

[تَجَالَسَ] အတူထိုင်သည်။

[اِسْتَجْلَسَ] အတူထိုင်ရန်ခေါ်သည်။ အထိုင်ခိုင်းသည်။

[اَلْجَلْسُ] ❶ အိမ်ရှေ့မျက်နှာစာ၌ အမြဲထွက်၍ ထိုင်နေတတ်သော မိန်းမ။ ❷ လူကြားဝင်ဆန့်သော မိန်းမ။ ❸ ထုထည်းကြမ်းတမ်းသော၊ မြင့်သော၊ ရှည်သောအရာ။ ❹ နှစ်ချို့အရက်။(ဇ)[اَجْلَاسٌ ـ جِلَاسٌ]။

[اَلْجِلْسُ] ❶ အတူထိုင်သော(သူ)။ ❷ အလွန်ညာဏ်ထိုင်းသူ။ ထူအသူ။

[اَلْجَلْسَةُ] ❶ တစ်ကြိမ်ထိုင်ခြင်း။ ❷ အခမ်းအနား။ လူစုလူဝေး၊ လူပွဲသဘင်။ (ج) [جَلَسَاتٌ]။

[اَلْجِلْسِىُّ] မျက်သား။(မျက်ဆန်ဘေးရှိအစိတ်အပိုင်း)။

[اَلْجُلْسَانُ] နှင်းဆီအဖြူ။

[اَلْجَلِيْسُ] ❶ ထိုင်ဖော်ထိုင်ဘက်။ ❷ အလွန်ထိုင်သူ။ မကြာခဏထိုင်သူ။

[اَلْمَجْلِسُ] ❶ ထိုင်သည့်နေရာ။ ❷ အသင်း။ အဖွဲ့။ ကော်မတီ။ ကောင်စီ။

[اَلْمَجْلِسُ الْاَعْلٰى لِلشُّؤُنِ الْاِسْلَامِيَّةِ] အစ္စလာမ်သာသနာရေးရာကောင်စီဌာနချုပ်။

✿ [جُلَّاشٌ] အစားအစာကို အရောင်ချယ်သော ဆေးတစ်မျိုး။

✿ [جَلَطَ ـِ] ❶ လိမ်ညာသည်။ ❷ ကျိန်ဆိုသည်။ ❸ [ـ الشَّيْءَ مِنَ الشَّيْءِ](တစ်စုံတစ်ရာကို တစ်စုံတစ်ရာမှ)ချွတ်ခွါသည်။ ကင်းစင်စေသည်။ ဖယ်ရှားသည်။ ❹ ဆွဲထုတ်သည်။ ❺ [ـ رَأْسَهُ](ဦးခေါင်းရှိ ဆံပင်ကို)ရိတ်သည်။ ❻ [ـ السَّيْفَ](ဓါးကို)ဆွဲထုတ်သည်။

[جَلْطٌ] ❶ လိမ်ညာခြင်း။ ❷ ကျိန်ဆိုခြင်း။ ❸ (တစ်စုံတစ်ရာကို တစ်စုံတစ်ရာမှ)ချွတ်ခွါခြင်း။ ကင်းစင်စေခြင်း။ ဖယ်ရှားခြင်း။ ❹ ဆွဲထုတ်ခြင်း။ ❺ (ဦးခေါင်းရှိ ဆံပင်ကို)ရိတ်ခြင်း။

[تَجَلَّطَ] [ـ الدَّمُ](သွေး)ခဲသည်။

[اِجْتَلَطَ] ❶ [ـهُ](တစ်စုံတစ်ရာကို)အလစ်သုတ်ယူသည်။ ခိုးဝှက်သည်။ ❷ [ـ مَافِى الْاِنَاءِ](ခွက်၌ရှိသမျှကို)ကုန်စင်အောင်သောက်သည်။

[اِنْجَلَطَ] ❶ ကင်းကွာသည်။ ❷ ကျွတ်သွားသည်။

[اَلْجُلْطَةُ] ❶ ကျန်ရစ်သောနို့။ ခွက်၌ ကပ်နေသောနို့။ ❷ သွေးစ၊ ကျွင်းကျန်သောသွေး။

✿ [جَلَعَ ـَ] ❶ အရှက်အကြောက်ကင်းမဲ့စွာဖြင့် ညစ်ညမ်းသောစကားများကို ပြောဆိုသည်။ ❷ အိန္ဒြေသိက္ခာမဲ့စွာ နေထိုင်သွားလာသည်။ ❸ ဖော်သည်။ လှစ်ဟပြသည်။ ❹ (အဝတ်ကို)ချွတ်ပြသည်။

[جُلُوْعٌ] ❶ အရှက်အကြောက်ကင်းမဲ့စွာဖြင့် ညစ်ညမ်းသောစကားများကို ပြောဆိုခြင်း။ ❷ အိန္ဒြေသိက္ခာမဲ့စွာ နေထိုင်သွားလာခြင်း။

[جَالِعٌ] ❶ အရှက်အကြောက်ကင်းမဲ့စွာ ညစ်ညမ်းသောစကားများကို ပြောဆိုသော(သူ၊ သူမ)။ ❷ အိန္ဒြေသိက္ခာမဲ့စွာ နေထိုင်သွားလာသော(သူ၊ သူမ)။

[جَلْعٌ] ❶ ဖော်ခြင်း။ လှစ်ဟပြခြင်း။ ❷ (အဝတ်ကို)ချွတ်ပြခြင်း။

[جَالِعٌ] ❶ ဖော်သော(သူ)။ လှစ်ဟပြသော(သူ)။❷ (အဝတ်ကို)ချွတ်ပြသော(သူ)။

[جَلِعَ ـَ] ❶ အရှက်အကြောက်ကင်းမဲ့စွာဖြင့် ညစ်ညမ်းသောစကားများကို ပြောဆိုသည်။ ❷ အိန္ဒြေသိက္ခာမဲ့စွာ နေထိုင်သွားလာသည်။ ❸ ဖော်သည်။ လှစ်ဟပြသည်။ ❹ (အဝတ်ကို)ချွတ်ပြသည်။ ❺ ပက်လက်လန်သွားသည်။ ❻ ရယ်မောသဖြင့် သွားစွယ်ပေါ်သည်။ ❼ [ـ الشَّفَتَانِ اَوِ الْفَمُ](နှုတ်ခမ်းနှစ်ခု)ပွင့်ဟသည်။ ❽ [ـ اللِّثَةُ](သွားဖုံးကို)ဖော်

သည်။ သွားဖြိပြသည်။

[جَلَّعَ] (၁) အရှက်အကြောက်ကင်းမဲ့စွာဖြင့် ညစ်ညမ်းသောစကားများကို ပြောဆိုခြင်း။ (၂) အိန္ဒြေသိက္ခာမဲ့စွာ နေထိုင်သွားလာခြင်း။ (၃) ဖေါ်ခြင်း။ လှစ်ဟပြခြင်း။ (၄) (အဝတ်ကို)ချွတ်ပြခြင်း။ (၅) ပက်လက်လန်သွားခြင်း။ (၆) ရယ်မောသဖြင့် သွားစွယ်ပေါ်ခြင်း။ (၇) (နှုတ်ခမ်းနှစ်ခု)ပွင့်ဟခြင်း။ (၈) (သွားဖုံးကို)ဖေါ်ခြင်း။ သွားဖြိပြခြင်း။

[جَالَعَ] (၁) အရှက်အကြောက်ကင်းမဲ့စွာဖြင့် ညစ်ညမ်းသောစကားများကို ပြောဆိုသည်။ (၂) အိန္ဒြေသိက္ခာမဲ့စွာ နေထိုင်သွားလာသည်။ (၃) ဖေါ်သည်။ လှစ်ဟပြသည်။ (၄) (အဝတ်ကို)ချွတ်ပြသည်။ (၅) ပက်လက်လန်သွားသည်။ (၆) ရယ်မောသဖြင့် သွားစွယ်ပေါ်သည်။ (၇) ငြင်းခုန်ရာ၌ ယုတ်မာညစ်ညမ်းစွာ တုန့်ပြန်ဆဲဆိုသည်။

[اِنْجَلَعَ] ပေါ်လွင်ထင်ရှားသည်။

[تَجَالَعَ] (အရက်ဝိုင်း၊ ဖဲဝိုင်း၊ သို့မဟုတ် ဝေစုခွဲသည့်နေရာ၌)တစ်ဦးကိုတစ်ဦး မကျေနပ်သဖြင့် ယုတ်မာစွာ ဆဲဆိုငြင်းခုန်သည်။

[اَلْجَلِيْعُ] မိမိ၏လင်သားနှင့် နှစ်ကိုယ်တည်းတွေ့စဉ် လွတ်လပ်ပွင့်လင်းစွာ ဆက်ဆံတတ်သောမိန်းမ။ ﴿جَلِيْعٌ عَلٰى زَوْجِهَا حَصَانٌ مِنْ غَيْرِهٖ﴾ လိင်ကိစ္စနှင့်ပတ်သက်၍ မိမိ၏လင်ယောက်ျားအပေါ်၌ ပွင့်လင်းစွာ ဆက်ဆံတတ်ပြီး အခြားယောက်ျားများနှင့်ပတ်သက်၍ မိမိကိုယ်ကို ထိန်းသိမ်းသောမိန်းမ။

✿ [جَلَفَ ـ] (၁) လုံးဝပျက်သုဉ်းစေသည်။ (၂) အဝေးသို့ ယူဆောင်သွားသည်။ (၃) အခွံခွါသည်။ အခွံချွတ်သည်။ (၄) အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်သည်။ (၅) [ـ الذَّبِيْحَةَ] လည်လှီးထားသည့်သားကောင်ကို သားရေခွါသည်။ (၆) [ـ الْجِلَافَ عَنْ رَأْسِ الدَّنِّ](အိုးစရည်း၏ အပိတ်ကို)ချွတ်သည်။

[جَلْفٌ] (၁) လုံးဝပျက်သုဉ်းစေခြင်း။ (၂) အဝေးသို့ ယူဆောင်သွားခြင်း။ (၃) အခွံခွါခြင်း။ အခွံချွတ်ခြင်း။ (၄) အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်ခြင်း။ (၅) လည်လှီးထားသည့် သားကောင်ကို သားရေခွါခြင်း။ (၆) (အိုးစရည်း၏ အပိတ်ကို)ချွတ်ခြင်း။

[جَلِفَ ـ] ခက်ထန်ကြမ်းကြုတ်သူ ဖြစ်သွားသည်။

[جَلْفٌ ـ جَلَافَةٌ] ခက်ထန်ကြမ်းကြုတ်သူ ဖြစ်သွားခြင်း။

[اَجْلَفَ] အိုးစရည်း၏အပိတ်ကို ချွတ်သည်။

[جَلَّفَ] (၁) လုံးဝပျက်သုဉ်းစေသည်။ (၂) အဝေးသို့ ယူဆောင်သွားသည်။ (၃) အခွံခွါသည်။ အခွံချွတ်သည်။ (၄) အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်သည်။ (၅) [ـ الذَّبِيْحَةَ] လည်လှီးထားသည့်သားကောင်ကို သားရေခွါသည်။ (၆) [ـ الْجِلَافَ عَنْ رَأْسِ الدَّنِّ](အိုးစရည်း၏ အပိတ်ကို)ချွတ်သည်။

[اِجْتَلَفَ] (၁) လုံးဝပျက်သုဉ်းစေသည်။ (၂) အဝေးသို့ ယူဆောင်သွားသည်။ (၃) အခွံခွါသည်။ အခွံချွတ်သည်။ (၄) အရင်းအမြစ်ပါမကျန်အောင် ဆွဲနှုတ်သည်။ (၅) [ـ الذَّبِيْحَةَ]

လည်လှီးထားသည့်သားကောင်ကို သားရေခွါသည်။ (၆) [الجِلاَفَ عَنْ رَأسِ السَّنِ](အိုးစရည်း၏ အပိတ်ကို)ချွတ်သည်။

[تَجَلَّفَ] (၁) လုံးဝပျက်သုဉ်းသွားသည်။ (၂) အဝေးသို့ ရောက်ရှိသွားသည်။ (၃) အခွံကျွတ်သည်။ (၄) အရင်းအမြစ်ပါမကျန်အောင် ကျွတ်သည်။ (၅) [ـ الذَّبِيْحَةَ](လည်လှီးထားသည့်သားကောင်)သားရေ ခွါထားသည်။ (၆) ပိန်ခြိုးသည်။

[اَلْجَالِفَةُ] (၁) ဥစ္စာပစ္စည်းအလုံးစုံကို ပျက်သုဉ်းစေသော ဘေးဆိုး၊ ကပ်ဆိုးကြီး။ (၂) အရေပြားပွန်းပဲ့ ထိခိုက်မှု။

[اَلْجِلاَفُ] (၁) ခက်ထန်ကြမ်းတမ်းသူ။ (၂) ထုံထိုင်းနှံ့အသူ။ (၃) အိပ်။ (၄) အိုးစရည်းအလွတ်။ (၅) ဦးခေါင်းမရှိသော ခန္ဓာကိုယ်။ (၆) သားရေခွါထားသော လည်လှီးထားသည့်သားကောင်။ (၇) စွန်ပလွံအဖုံးပင်။ (၈) အစာမသိပ်ထားသော မုန့်ခြောက်အကြမ်း။

﴿كُلُّ شَيْءٍ سِوَى جِلْفِ الطَّعَامِ وَظِلِّ ثَوْبٍ وَبَيْتٍ يَسْتُرُ فَضْلٌ﴾ အစားအစာမုန့်ခြောက်အကြမ်း၊ အပူဒဏ်ကာကွယ်ရန်အဝတ်နှင့် လုံခြုံမှုပေးသောအိမ်မှအပ ကျန်ပစ္စည်းများသည် အပိုပစ္စည်းများသာဖြစ်သည်။(ج)[ـ اَجْلُفٌ ـ جُلُوْفٌ اَجْلاَفٌ]။

[اَلْجَلْفَةُ] ကလောင်သွား။

[اَلْجُلْفَةُ] ချွတ်ခွါထားသည့်သားရေ။(ج) [جُلَفٌ]။

[اَلْجِلْفَةُ] (၁) အစိတ်အပိုင်း၊ အစအန။ (၂) ကလောင်သွား။(ج) [جِلَفٌ]။

[اَلْجَلِيْفُ] (၁) ခက်ထန်ကြမ်းတမ်းသူ။ (၂) ထုံထိုင်းနှံ့အသူ။(ج) [جُلَفَاءُ]။

[اَلْجَلِيْفَةُ] (၁) ဥစ္စာပစ္စည်းအလုံးစုံကို ပျက်သုဉ်းစေသော ဘေးဆိုး၊ ကပ်ဆိုးကြီး။ (၂) အရေပြားပွန်းပဲ့ ထိခိုက်မှု။(ج) [جَلاَئِفُ]။

❁ [جَلْفَطَ] လှေ၊ သင်္ဘောစသည်၏ ပျဉ်ချပ်များအကြား၌ အဝတ်စသို့မဟုတ် လျှော်စများသိပ်၍ ကတ္တရာစေးဖြင့် ပိတ်သည်။

[اَلْجِلْفَاطُ] လှေ၊ သင်္ဘောစသည်၏ ပျဉ်ချပ်များအကြား၌ အဝတ်စသို့မဟုတ် လျှော်စများသိပ်၍ ကတ္တရာစေးဖြင့် ပိတ်သူ။(ج) [جَلاَفِطَةٌ]။

❁ [اَلْجَلْفَقُ] လှေကားလက်ကိုင်တန်း။ လှေကားဘောင်။

❁ [جَلَقَ ـِ] (၁) [ـ الشَّيْءَ]ဖွင့်ဖေါ်သည်။ လှစ်ဟပြသည်။ ဖေါ်ထုတ်ထင်ရှားစေသည်။ (၂) [ـ الرَّأسَ]ဆံပင်ရိတ်သည်။ (၃) [ـ فَمَهُ]ပါးစပ်ဟသည်။ (၄) [ـ الحِصْنَ](ခံတပ်၊ မြို့ရိုးကို) ကျောက်ခဲထည့်၍ ပစ်ရသောလက်နက်ဖြင့် ပစ်ခတ်ဖြိုဖျက်သည်။

[جَلْقٌ] (၁) ဖွင့်ဖေါ်ခြင်း။ လှစ်ဟပြခြင်း။ ဖေါ်ထုတ်ထင်ရှားစေခြင်း။ (၂) ဆံပင်ရိတ်ခြင်း။ (၃) ပါးစပ်ဟခြင်း။ (၄) (ခံတပ်၊ မြို့ရိုးကို) ကျောက်ခဲထည့်၍ ပစ်ရသောလက်နက်ဖြင့် ပစ်ခတ်ဖြိုဖျက်ခြင်း။

[جَلَّقَ] [ـ الحِصْنَ](ခံတပ်၊ မြို့ရိုးကို)ကျောက်ခဲထည့်၍ ပစ်ရသောလက်နက်ဖြင့် ပစ်ခတ်ဖြိုဖျက်သည်။

[تَجَلَّقَ] အံသွားများပေါ်သည်အထိ ဟက်

မှု။[هٰذَا قَلِيْلٌ فِى جَنْبِ مَوَدَّتِكَ]မင်းရဲ့အချစ်နဲ့ နှိုင်းရင် ဒါဟာ အသေးအဖွဲ့ပါ။ ❻ ပတ်သက်မှု။ [مَاذَا تَفْعَلُ فِى جَنْبِ حَاجَتِى]ငါ့ရဲ့ လိုအပ်ချက်နဲ့ပတ်သက်ပြီး မင်းဘာလုပ်ပေးမှာလဲ။ ﴿يَا حَسْرَتَى عَلَى مَا فَرَّطْتُ فِى جَنْبِ اللّٰهِ﴾သြော် ငါသည် အလ္လာဟ်အရှင်မြတ်နှင့် စပ်လျဉ်း၍ ပျက်ကွက်လစ်ဟင်း၊ ပေါ့ဆခဲ့သောကြောင့် ဝမ်းနည်းရလေခြင်း။(ج)[جُنُوْبٌ - اَجْنَابٌ]။ [جَارُ الْجَنْبِ]အိမ်ချင်းကပ်နေသော အိမ်နီးချင်းမိတ်ဆွေ။[صَاحِبُ الْجَنْبِ]အလွန်ရင်းနှီးသောမိတ်ဆွေ။ [اَعْطَاهُ الْجَنْبَ]သူ့အမိန့်ကို နာခံသည်။ [ذَاتُ الْجَنْبِ]အဆုတ်အမြှေးရောင်ရောဂါ။ ယင်းရောဂါ ခံစားနေရသော မိန်းမ။ [ذُو الْجَنْبِ]အဆုတ်အမြှေးရောင်ရောဂါ ခံစားနေရသောသူ။

[اَلْجُنُبُ] ❶ မနီးမဝေး၌ရှိသော(သူ၊ အရာ)။ ﴿فَبَصُرَتْ بِهِ عَنْ جُنُبٍ﴾သို့ဖြင့် သူမသည် ၎င်းအား မနီးမဝေးမှ ကြည့်ရှုနေခဲ့သည်။ ❷ [جَارُ الْجُنُبِ - جَارٌ جُنُبٌ]ဆွေမျိုးတော်စပ်ခြင်းမရှိသော အိမ်နီးနားချင်းမိတ်ဆွေ။ ❸ ခရီးသွားဖော်။❹ အမိန့်မနာခံသူ။ ❺ ကိုယ်မသန့်မရှင်းဖြစ်သူ။ (သုတ်ရည်ထွက်သောကြောင့်လည်းကောင်း၊ ကာမစပ်ယှက်သောကြောင့်လည်းကောင်း ရေချိုးရန် တာဝန်ရှိသူ။)(ج)[اَجْنَابٌ]။

[اَلْجَنْبَةُ] ❶ နံဘေး၊ဘက်၊ဘေးဘက်။ ❷ ဖယ်ခွါ၍နေခြင်း၊ရှောင်နေခြင်း၊ကင်းကင်းရှင်းရှင်းနေခြင်း။﴿عَلَيْكُمْ بِالْجَنْبَةِ فَاِنَّهَا عَفَافٌ﴾အသင်တို့သည် အပြစ်များမှ ကင်းကင်းရှင်းရှင်း သူ။(ج)[جُنَّابٌ]။

[اَلْجَنَابُ] ❶ ဘက်။ ရှုထောင့်၊ ထောင့်။ ❷ အိမ်ရှေ့မျက်နှာစာ။ ❸ ဘေးဘက်၊ ဘေးနား။[مَرُّوْا يَسِيْرُوْنَ جَنَابَيْهِ]သူ့ဘေးနှစ်ဘက်နားက ဖြတ်သန်းသွားကြသည်။ ❹ ကာကွယ်စောင့်ရှောက်မှု။[اَنَا فِى جَنَابِهِ]ငါဟာ သူ့ရဲ့စောင့်ရှောက်မှုအောက်မှာရှိတယ်။ ❺ [رَحْبُ الْجَنَابِ - خَصِيْبُ الْجَنَابِ]အလွန်ရက်ရောသူ။(ج)[اَجْنِبَةٌ]။

[اَلْجُنَابُ] အဆုတ်အမြှေးရောင်ရောဂါ။

[اَلْجِنَابُ] ❶ ဘေးနားကို ရောက်ရှိလာခြင်း။ ဘေးမှလျှောက်ခြင်း။ ❷ [فَرَسٌ طَوْعُ الْجِنَابِ] ချည်နှောင်ရလွယ်သောမြင်း။

[اَلْجُنَابَى] ကစားနည်းတစ်မျိုး။(ယင်းကစားနည်း၌ တစ်ဦးကဖမ်း၍ ကျန်တစ်ဦးက ရှောင်ရသည်။)

[اَلْجُنَابَاءُ] ကစားနည်းတစ်မျိုး။(ယင်းကစားနည်း၌ တစ်ဦးကဖမ်း၍ ကျန်တစ်ဦးက ရှောင်ရသည်။)

[اَلْجَنَابَةُ] ❶ ကိုယ်မသန့်မရှင်းဖြစ်မှု။(သုတ်ရည်ထွက်သောကြောင့်လည်းကောင်း၊ ကာမစပ်ယှက်သောကြောင့်လည်းကောင်း ရေချိုးရန် တာဝန်ရှိမှု။)[اِغْتَسَلَ مِنَ الْجَنَابَةِ]သူ ကိုယ်မသန့်သဖြင့် ရေချိုးခဲ့သည်။ ❷ ဘက်။ ရှုထောင့်၊ ထောင့်။ ❸ ဘေးဘက်၊ ဘေးနား။ [مَرُّوْا يَسِيْرُوْنَ جَنَابَتَيْهِ]သူ့ဘေးနှစ်ဘက်နားက ဖြတ်သန်းသွားကြသည်။

[اَلْجَنْبُ] ❶ ဘက်။ ရှုထောင့်၊ ထောင့်။ ❷ ဘေးဘက်၊ ဘေးနား။ နံဘေး။ ❸ နှိုင်းယှဉ်

နေကြ။ ဤသို့နေခြင်းသည် အပြစ်ကျူးလွန်မှုကို ချုပ်တည်းစေနိုင်သောအရာဖြစ်သည်။ ❸ နွေရာသီ၌ စိမ်းစိုသောအပင်။ ❹ သစ်ပင်အလတ်စား။

[اَلْجَنَبَةُ] ❶ နံဘေး။ဘက်၊ဘေးဘက်။ ❷ ထောင့်၊ ရှုထောင့်။

[اَلْجُنَبَةُ] လူတို့နှင့် ခပ်ကင်းကင်းနေသူ။

[اَلْجُنَّابُ] မိမိနှင့်ဘေးချင်းယှဉ်လျက်လျှောက်သောအဖော်။

[اَلْجَنُوْبُ] ❶ တောင်အရပ်။ တောင်ဘက်။ ❷ တောင်လေ။[رِيْحُهُمَا جَنُوْبٌ]သူတို့နှစ်ယောက်ရဲ့ ဆက်ဆံရေးဟာ သန့်ရှင်းတယ်။ (ج)[جَنَائِبُ]။

[اَلْجَنِيْبُ] ❶ နံဘေးမှ ဆွဲခေါ်လာသော(မြင်း။ အကျဉ်းသားစသည်)။ ❷ မိမိနှင့်ဘေးချင်းယှဉ်လျက် လျှောက်သောအဖော်။ ❸ အမိန့်နာခံသူ။ ❹ လမ်းလျှောက်ရာ၌ ခြေတစ်ဘက်ဆာသူ။ ❺ သူစိမ်း၊ ဆွေမျိုးတော်စပ်ခြင်းမရှိသူ။ ❻ စွန်ပလွံသီးအကောင်းစားတစ်မျိုး။(ج)[جُنُبٌ]။

[اَلْجَنِيْبَةُ] ❶ ဆွဲခေါ်လာသောတိရစ္ဆာန်။ ❷ ခရီးဆောင်ပစ္စည်းနှင့် ရိက္ခာများတင်ဆောင်ရန် ပေးအပ်သောကုလားအုတ်။ ❸ တိရစ္ဆာန်အစီးအနင်း၏ ဘေးနှစ်ဘက်နှစ်ချက်၌ ချိတ်ဆွဲတင်ဆောင်ထားသောအိတ်။(ج)[جَنَائِبُ]။ [فُلَانٌ تُقَادُ الْجَنَائِبُ بَيْنَ يَدَيْهِ]သူဟာ သူ့ရှေ့မှာ ကုလားအုတ်ကို ဆွဲလာရသူဖြစ်တယ်။ (သူဟာ အလွန်ကြီးကျယ်သူ ဖြစ်တယ်။)

[اَلْمَجْنَبُ] ❶ ကောင်းသောအမှု၌အလွန် အကွဲပြုသူ။ ❷ ဆိုးသောအမှု၌အလွန်အကွဲပြုသူ။(ج)[مَجَانِبُ]။

[اَلْمِجْنَبُ] ❶ ကောင်းသောအမှု၌အလွန် အကွဲပြုသူ။ ❷ ဆိုးသောအမှု၌အလွန်အကွဲပြုသူ။ ❸ ပေါက်ပြား။ ❹ ပျားဖွတ်သူတို့ အသုံးပြုသော လှေကား။ ❺ သံခမောက်။ ❻ ခန်းဆီး၊ လိုက်ကာ၊ ကန့်လန့်ကာ။ ❼ နယ်ခြားမှတ်တိုင်။ တိုင်ပြည်နှစ်ခုကို ပိုင်းခြားထားသောမျဉ်း။ (ج)[مَجَانِبُ]။

[اَلْمُجَنَّبَةُ] တပ်ဦး။

[اَلْمُجَنِّبَةُ] (စစ်တပ်၏)လက်ယာတောင်ပံ၊ လက်ဝဲတောင်ပံ။

﴿بَعَثَ النَّبِيُّ يَوْمَ الْفَتْحِ خَالِدَ بْنَ الْوَلِيْدِ عَلَى الْمُجَنِّبَةِ الْيُمْنَى وَالزُّبَيْرَ عَلَى الْمُجَنِّبَةِ الْيُسْرَى﴾

တမန်တော်မြတ်(ﷺ)သည် မက္ကာဟ်မြို့ကို အောင်မြင်စွာ သိမ်းတော်မူသည့်နေ့၌ သာဝကကြီးခါလိဒ်ဘင်န်ဝလီးဒ်အားစစ်တပ်၏ယာတောင်ပံအဖြစ်လည်းကောင်း၊ သာဝကကြီးဇုဗိုင်းရ်အားဝဲတောင်ပံအဖြစ်လည်းကောင်း စေလွှတ်တော်မူသည်။

✿ [تَجَنَّثَ] ❶ အခြားလူမျိုးအဖြစ် ဟန်ဆောင်သည်။ မိမိ၏အမျိုးဇာတိကို ထိန်ချန်သည်။ ❷ [ـ الشَّيْءَ]တစ်စုံတစ်ရာကို လိပ်၍ ဝှက်ထားသည်။ ❸ [ـ عَلَيْهِ]အရှုံးအမူးစွဲလန်းသည်။ ❹ [ـ الطَّائِرُ]အတောင်ဖြန့်၍ ဆင်းသက်သည်။

[اَلْجِنْثُ] ❶ အမျိုးအစား၊ လူမျိုး။ ❷ စကားမပီမသဖြစ်ခြင်း။(ج)[أَجْنَاثٌ - جُنُوْثٌ]။

[اَلْجِنْثِيُّ] ❶ ပန်းပဲအလုပ်ဖြင့် အသက်မွေး

သူ။ ❷ ချုပ်ဝတ်တန်ဆာများကို ပြုလုပ်သူ။ ❸ ဓါး။ ❹ ချုပ်ဝတ်တန်ဆာ။ ❺ သံမဏိ။ (ج)[اَجنَاثٌ]။

[اَلْجَنْجَنُ] ရင်ညွှန့်ရိုး။ (ج)[جَنَاجِنُ]။

[اَلْجِنْجِنُ] ရင်ညွှန့်ရိုး။ (ج)[جَنَاجِنُ]။

[اَلْجَنْجَنَةُ] ရင်ညွှန့်ရိုး။ (ج)[جَنَاجِنُ]။

[اَلْجِنْجِنَةُ] ရင်ညွှန့်ရိုး။ (ج)[جَنَاجِنُ]။

[اَلْجُنْجُوْنُ] ရင်ညွှန့်ရိုး။ (ج)[جَنَاجِيْنُ]။

✿ [جَنَحَ ـَ] ❶ တိမ်းယိမ်းသည်။ ယိမ်းယိုင်သည်။ ❷ [ـ السَّفِيْنَةُ](သင်္ဘော)သောင်တင်သည်။ ❸ [ـ الطَّائِرُ]အတောင်ကို စုသိမ်း၍ ထိုးဆင်းသည်။ ❹ [ـ اللَّيْلُ](ည)ကုန်ဆုံးလု နီးပါးဖြစ်သည်။ (ည)ရောက်လုနီးပါးဖြစ်သည်။[جَنَحَ الظَّلَامُ]အမှောင်ထု ကျရောက်လာသည်။ ❺ [ـ الرَّجُلُ]အမိန့်နာခံသည်။ ❻ [فُلَانٌ عَلَى مِرْفَقَيْهِ ـ]မိမိ၏တတောင်ဆစ်နှစ်ခုကို မြေကြီး၊ သို့မဟုတ် မှိအုံးပေါ်၌ ထောက်လျက်မှီထားသည်။ ❼ [ـ الطَّائِرُ](ငှက်ကို)အတောင်ထိမှန်စေသည်။ အတောင်ကို ချိုးသည်။ ❽ [ـ عَلَى الشَّيْءِ]ကုန်း၍လုပ်သည်။

[جَنْحٌ - جُنُوْحٌ] ❶ တိမ်းယိမ်းခြင်း။ ယိမ်းယိုင်ခြင်း။ ❷ (သင်္ဘော)သောင်တင်ခြင်း။ ❸ အတောင်ကို စုသိမ်း၍ ထိုးဆင်းခြင်း။ ❹ (ည)ကုန်ဆုံးလု နီးပါးဖြစ်ခြင်း။ (ည)ရောက်လုနီးပါးဖြစ်ခြင်း။ ❺ အမိန့်နာခံခြင်း။ ❻ မိမိ၏တတောင်ဆစ်နှစ်ခုကို မြေကြီး၊ သို့မဟုတ် မှိအုံးပေါ်၌ ထောက်လျက်မှီထားခြင်း။ ❼ (ငှက်ကို)အတောင်ထိမှန်စေခြင်း။ အတောင်ကို ချိုးခြင်း။ ❽ ကုန်း၍လုပ်ခြင်း။

[جُنِحَ] ❶ (ငှက်)အတောင်ကျိုးသည်။ ❷ (လူ)နံရိုးကျိုးသည်။

[اَجْنَحَ] တိမ်းယိမ်းစေသည်။ ယိမ်းယိုင်စေသည်။

[جَنَّحَ] ❶ [ـ بِهِ]အတောင်တပ်ဆင်ပေးသည်။ ❷ [ـ الْجِنَايَةَ](ပြစ်မှုကို)ရက်သတ္တတစ်ပတ်ထက်ပို၍ ဖမ်းဆီးချုပ်နှောင်ထားနိုင်သော၊ သို့မဟုတ် အီဂျစ်ငွေတစ်ပေါင်ထက်ပို၍ ဒဏ်ငွေစီရင်နိုင်သောပြစ်မှုဟု မှတ်ယူသည်။

[اِجْتَنَحَ] ❶ [ـ الْاِنْسَانُ](လူ)နံရိုးကျိုးသည်။ ❷ [ـ السَّفِيْنَةُ](သင်္ဘော)သောင်တင်သည်။ ❸ [ـ عَلَى فُلَانٍ](တစ်ဦးတစ်ယောက်ကို)မှီထားသည်။

﴿مَرِضَ رَسُوْلُ اللهِ فَوَجَدَ خِفَّةً فَاجْتَنَحَ عَلَى اُسَامَةَ حَتَّى دَخَلَ الْمَسْجِدَ﴾

တမန်တော်မြတ်(ﷺ)သည် မမာမကျန်းဖြစ်နေတော်မူခဲ့ရာမှ အနည်းငယ်သက်သာမှုကို ခံစားရသောအခါ အုစာမဟ်ကို အမှီပြုလျက် ဗလီဝတ်ကျောင်းတော်အတွင်းသို့ ဝင်တော်မူခဲ့သည်။ ❹ [ـ فِى السُّجُوْدِ](ဦးချရာ၌)လက်မောင်းရင်းနှစ်ဘက်ကို ဘေးသို့ကား၍ ကြမ်းပြင်နှင့်ခွါထားသည်။ ❺ [ـ الشَّيْءَ]ယိမ်းယိုင်စေသည်။ ❻ [ـ الْحَيَوَانُ فِى سَيْرِهِ](တိရစ္ဆာန်)ကုန်းရုန်း၍သွားသည်။

[تَجَنَّحَ] ❶ အတောင် တပ်ဆင်ပြီးသားဖြစ်သည်။ ❷ [ـ فِى السُّجُوْدِ](ဦးချရာ၌)လက်မောင်းရင်းနှစ်ဘက်ကို ဘေးသို့ကား၍ ကြမ်း

ပြင်နှင့်ခွါထားသည်။ ❼ (ပြစ်မှု)ရက်သတ္တတစ်ပတ်ထက်ပို ၍ ဖမ်းဆီးချုပ်နှောင်ထားနိုင်သော၊ သို့မဟုတ် အီဂျစ်ငွေတစ်ပေါင်ထက်ပို ၍ ဒဏ်ငွေစီရင်နိုင်သောပြစ်မှုမြောက်သွားသည်။

[اِسْتَجْنَحَ] [_اللَّيْلُ](ည)ရောက်လာသည်။

[اَلْجَانِحَةُ] ရင်ညွှန့်၌ရှိသော အတိုဆုံးနံရိုး။(ج)[جَوَانِحُ]။

[اَلْجَنَاحُ] ❶ အတောင်။ တောင်ပံ။ ❷ လက်မောင်း။ ❸ လက်။ ❹ ချိုင်း။ ❺ နံဘေး။ ဘေး။[جَنَاحُ الْبَيْتِ]အိမ်ဘေး။ ❻ အုပ်စု၊ အစု။ ❼ အကူအညီ။ အစောင့်အရှောက်။ [اَنَافِى جَنَاحِ فُلَانٍ]ကျွန်တော်ဟာ သူ့ရဲ့ ကူညီစောင်မမှုအောက်မှာ နေရတယ်။(ج)[اَجْنُحٌ]

﴿اُولِى اَجْنِحَةٍ مَثْنٰى وَ ثُلَاثَ وَ رُبَاعَ﴾။[اَجْنِحَةٌ ـ တောင်ပံနှစ်ခုစီ၊ သုံးခုစီ၊ လေးခုစီရှိကြသော သူများအဖြစ်။[هُوَ مَقْصُوصُ الْجَنَاحِ]သူဟာ အသုံးမကျသူ ဖြစ်တယ်။

[رَكِبُوا اَجْنَاحِىَ الطَّائِرِ]သူတို့ မိမိတို့၏ တိုင်းပြည်မှ ထွက်ခွါသွားကြသည်။

[رَكِبَ جَنَاحَىِ النَّعَامَةِ]သူ အလုပ်ကို ကြိုးစား၍ မြန်မြန်ဆန်ဆန်လုပ်သည်။

[خَفَضَ لَهُ جَنَاحَهُ]ရိုကျိုးသည်။ အလွန်ရှိသေစွာ ဆက်ဆံသည်။

﴿وَ اخْفِضْ لَهُمَا جَنَاحَ الذُّلِّ مِنَ الرَّحْمَةِ﴾ငှင်းပြင်အသင်သည် ထိုမိဘနှစ်ပါး၏ရှေ့မှောက်တွင် ငှင်းတို့အပေါ်၌ ကရုဏာထားသောအားဖြင့် ကျိုးနွံစွာရှိပါလေ။

[اَلْجُنَاحُ] ❶ အပြစ်။ ပြစ်မှုမြောက်ခြင်း။ ❷ အပြစ်ကျူးလွန်ရန် အသင့်ဖြစ်ခြင်း၊ အပြစ်ဘက်သို့ ယိမ်းခြင်း။ ❸ ခံစားရသောပူပင်သောက၊ ဒုက္ခ။ ❹ အစု၊ အုပ်စု။ ❺ စွဲလန်းမှု။[اَنَا اِلَيْكَ بِجُنَاحٍ]ငါ မင်းကို စွဲလန်းနေတယ်။

[اَلْجَنَاحِيَّةُ] ရှီအဟ်အုပ်စုတစ်စု။(အဗ်ဒုလ္လာဟ် ဘင်န်မုအာဝိယဟ် ဘင်န်အဗ်ဒုလ္လာဟ် ဘင်န် ဂျအ်ဖရ်ဖုလ်ဂျနာဟိုင်န်၏ နောက်လိုက်များ။)

[اَلْجِنْحُ] ❶ ဘက်။ ဘေးဘက်။ ရှုထောင့်။ ထောင့်။ ❷ အစိတ်အပိုင်း။ [جِنْحُ اللَّيْلِ]ည၏အစိတ်အပိုင်း။ ည၏အမှောင်ထု။

[اَلْجُنْحُ] [جُنْحُ اللَّيْلِ]ည၏အစိတ်အပိုင်း။ ည၏အမှောင်ထု။

[اَلْجُنْحَةُ] ရက်သတ္တတစ် ပတ်ထက်ပို၍ ဖမ်းဆီးချုပ်နှောင်ထားနိုင်သော၊ သို့မဟုတ် အီဂျစ်ငွေတစ်ပေါင်ထက်ပို၍ ဒဏ်ငွေစီရင်နိုင်သောပြစ်မှု။

[اَلْمَجْنَحَةُ] စီးနင်းသူ လက်ထောက်၍မှီနိုင်ရန် ကုန်းနှီး၏ရှေ့၌ ပြုလုပ်ထားသော သားရေအပိုင်း။(ج)[مَجَانِحُ]။

✿ [جَنَّدَ] ❶ [_الْجُنُودَ](စစ်သားများကို)စုဆောင်းသည်။ ❷ [_فُلَانًا]စစ်သားလုပ်ခိုင်းသည်။

[تَجَنَّدَ] ❶ စစ်သားဖြစ်သွားသည်။ ❷ စစ်ထဲသို့ ဝင်သည်။

[اَلْجُنَادِىُّ] ❶ နံရံကို ဖုံးကာထားသော အဝတ်များ။ ❷ ခန်းဆီးအဝတ်။

﴿سَتَرْنَا الْبَيْتَ بِجُنَادِىٍّ اَخْضَرَ فَدَخَلَ اَبُو اَيُّوبَ فَلَمَّا رَاٰهُ خَرَجَ اِنْكَارًا لَّهُ﴾

ကျွန်ုပ်တို့သည် အိမ်ကို အစိမ်းရောင်ခန်းဆီး များကာရန်ထားသည်ကို အဘူအိုက်ယူးဗ်သည် အိမ်ထဲသို့ဝင်ရောက်တွေ့မြင်သွားခဲ့လေရာ ဤသည်ကို မနှစ်မြို့သဖြင့် ပြန်လည်ထွက်ခွါသွားခဲ့သည်။

[اَلْجُنْدُ] ❶ စစ်တပ်။ စစ်သားများ။ ❷ ကူညီသူများ။ [جُنْدٌ مُجَنَّدٌ] စစ်သားအင်အား အမြောက်အမြားဖြင့် ဖွဲ့စည်းထားသော စစ်တပ်။ (ج)[اَجْنَادٌ - جُنُوْدٌ]။

[اَلْجَنَدُ] ❶ ကြမ်းတမ်းသောမြေ။ ❷ ရွှံ့မြေနှင့်တူသောကျောက်။

[اَلْجُنْدِىُّ] စစ်သား။

[اَلْجُنْدِيَّةُ] စစ်စည်းကမ်း။ စစ်ဥပဒေ။

✿ [اَلْجُنْدُبُ] နှံကောင်တစ်မျိုး။(ခါးခုတ်ကောင်)။ (ج)[جَنَادِبُ]။[صَرَّ الْجُنْدُبُ]မစားနိုင်၊ မအိပ်နိုင်လောက်အောင် အကြပ်အတည်းဆိုက်ရောက်သည်။ [اُمُّ جُنْدُبٍ]ဘေးဆိုးကြီး။ သစ္စာဖေါက်လုပ်ကြံသတ်ဖြတ်မှု။ မတရားကျူးကျော်စော်ကားမှု။ [رَكِبَ اُمَّ جُنْدُبٍ] သစ္စာဖေါက်၍လုပ်ကြံသည်။ မတရားကျူးကျော်စော်ကားသည်။ [وَقَعُوا فِىْ اُمِّ جُنْدُبٍ]သစ္စာဖေါက်၍လုပ်ကြံသည်။ မတရားကျူးကျော်စော်ကားသည်။

[اَلْجُنْدُبُ] နှံကောင်တစ်မျိုး။(ခါးခုတ်ကောင်)။

✿ [جَنْدَرَ] ❶ [_الثَّوْبَ](အဝတ်ကို)ပြန်လည်သစ်လွင်လာအောင် ပြုလုပ်သည်။ ❷ (အဝတ်ကို)ရေညှိစ်၍ မီးပူတိုက်သည်။ (အဝတ်ကို)ပြန့်ကား၍ တွန့်ကျေခြင်းမရှိစေရန် တုံးဖြင့်ဖိသည်။ ❸ [_الْكِتَابَ](စာအုပ်ကို) ယင်းစာအုပ်ရှိ မိမိသိမှတ်လိုသော အကြောင်းအရာများကို ထင်ရှားစေရန် မျဉ်းတားသည်။

[اَلْجَنْدَرَةُ] အဝတ်တွန့်ကျေခြင်းမရှိစေရန် ရေညှစ်ပြီးဖိရသောတုံး။

✿ [جَنْدَفْلِى] ကနုကမာကောင်။ မုတ်ကောင်။ ကြည့်[ج م ح ل]။

✿ [جَنْدَلَ] မြေပေါ်သို့ တွန်းထိုးလှဲချသည်။ ပူး၍ ဖွတ်လှဲချသည်။

[اَلْجُنَادِلُ] ကြီးမားပြင်းထန်သော၊ အရှိန်အဟုန်ပြင်းသော(အရာ)။(ج)[جَنَادِلُ]။

[اَلْجَنْدَلُ] ❶ စမ်းချောင်းရှိ ရေစီးအလွန်ပြင်းထန်သော ကျောက်ခဲရှိသည့်နေရာ။ ❷ ကျောက်တုံး။ [جَنْدَلَتَانِ اِصْطَكَّتَا]ကျောက်တုံးနှစ်တုံး တိုက်ကြသည်။(အလွန်ရင်းနှီးသောမိတ်ဆွေနှစ်ဦး ခိုက်ရန်ဖြစ်ပွားသည်)။ (ج)[جَنَادِلُ]။

✿ [جَنَزَ _] ❶ [_الشَّيْءَ]ဖုံးအုပ်သည်။ ❷ စုဆောင်းသည်။ ❸ [_الْمَيِّتَ](သေသူကို) ထမ်းစင်၌ ထည့်သည်။

[جَنْزٌ] ❶ ဖုံးအုပ်ခြင်း။ ❷ စုဆောင်းခြင်း။ ❸ (သေသူကို)ထမ်းစင်၌ ထည့်ခြင်း။

[جَنَّزَ] [_الْمَيِّتَ](သေသူကို)ထမ်းစင်၌ ထည့်သည်။

[اَلْجِنَازَةُ] ❶ သေသူကို ထည့်၍ထမ်းပို့ရသောထမ်းစင်။ အလောင်းထည့်သောအခေါင်း။ ❷ လူသေအလောင်း။ ❸ အသုဘအခမ်းအနား။ ❹ ပူပင်သောကဖြစ်စေသောအရာ။(ج)[جَنَائِزُ]။

[اَلْجِنَائِزِىُّ] လူသေအလောင်း၏ရှေ့၌ မိမိတို့

၏ထုံးတမ်းစဉ်လာအရ ရွတ်ဖတ်ရသော ပုဂ္ဂိုလ်။

[اَلْجَنَّازُ] ခရစ်ယာန်တို့၏အယူအရ သေသူအတွက်ရွတ်ဖတ်ဆုတောင်းမှု။

✽ [اَلْجَنْزَبِيلُ] ချင်း၊ ချင်းပင်။ကြည့်[اَلزَّنْجَبِيلُ]။

✽ [جَنْزَرَ] ကြေးညှိတက်သည်။ကြည့်[زَنْجَرَ]။

[اَلْجَنْزَارُ] ကြေးညှိ။ကြည့်[اَلزِّنْجَارُ]။

[اَلْجَنْزِيرُ] အလျားအကွာအဝေးကို တိုင်းတာရာ၌အသုံးပြုသော ချိန်းကြိုး။(ج)[جَنَازِيرُ]။ ကြည့်[اَلزَّنْجِيرُ]။

✽ [جَنَسَ ـُ] ❶ အမျိုးအစား တစ်ခုတည်းဖြစ်သည်။ အမျိုးတူသည်။ ❷ [ـالرُّطَبَةُ](စွန်ပလွံသီးအရင့်)တစ်လုံးလုံး မှည့်သည်။

[جَنْسٌ] ❶ အမျိုးအစား တစ်ခုတည်းဖြစ်ခြင်း။ အမျိုးတူခြင်း။ ❷ (စွန်ပလွံသီးအရင့်) တစ်လုံးလုံး မှည့်ခြင်း။

[جَنِسَ ـَ] [ـالْمَاءُ](ရေ)ခဲသည်။

[جَنْسٌ] (ရေ)ခဲခြင်း။

[اَلْجَنَسُ] ရေခဲ။

[جَانَسَ] ❶ အမျိုးအစား တစ်ခုတည်းဖြစ်သည်။ အမျိုးတူသည်။ ❷ အသွင်တူသည်။

[جَنَّسَ] ❶ အမျိုးအစား တစ်ခုတည်းဖြစ်အောင်လုပ်သည်။ ❷ အသွင်တူစေသည်။

[تَجَنَّسَ] ❶ အမျိုးအစား တစ်ခုတည်းဖြစ်သွားသည်။ ❷ အသွင်တူသည်။

[تَجَانَسَ] ❶ တစ်ခုနှင့်တစ်ခု အမျိုးအစားတူသည်။ ❷ အသွင်တူသည်။

[اَلتَّجْنِيسُ] အပိုင်းကိန်းများကို အချိုးညီအောင်လုပ်ခြင်း။(ပိုင်းဝေကို မြှောက်သောကိန်းဖြင့် ပိုင်းခြေကို မြှောက်ခြင်း။ သို့မဟုတ် ပိုင်းဝေကို စားသောကိန်းဖြင့် ပိုင်းခြေကို စားခြင်း။)

[اَلْجِنَاسُ] စာပေဂုဏ်မြောက်စွာရေးဖွဲ့ခြင်းဆိုင်ရာပညာရပ်၏ဝေါဟာရ[عِلْمُ الْبَدِيعِ]အရ အသုံးပြုထားသောဝါကျရှိ ပုဒ်နှစ်ခု၏ အက္ခရာအားလုံးသော်လည်းကောင်း၊ အများစုသော်လည်းကောင်း တူညီသော်လည်း အဓိပ္ပါယ်မတူခြင်း။

[اَلْجِنْسُ] ❶ အမျိုးအစား။[اِسْمُ الْجِنْسِ] အမျိုးအစားတစ်ခုလုံးကို ရည်ညွှန်းသောနာမ်။ ❷ မူလဇစ်မြစ်။ ❸ မျိုးရိုးဇာတိ။ ❹ လိင်။ ❺ ဖိုမဆက်ဆံမှု။ ❻ အတန်းအစား။

[اَلْجِنْسِيُّ] ❶ လူမျိုးရေးဆိုင်ရာ။ ❷ ဖိုမဆိုင်ရာ။ ❸ နိုင်ငံသားဖြစ်သော။[هُوَ جِنْسِيُّ مِصْرَ] သူဟာ အီဂျစ်နိုင်ငံသားဖြစ်တယ်။

[اَلْجِنْسِيَّةُ] ❶ လူမျိုးရေးဆိုင်ရာ(အချက်အလက်)။ ❷ ဖိုမဆိုင်ရာ။ ❸ နိုင်ငံသားဖြစ်မှု။

[اَلْجِنِّيسُ] ငါးတစ်မျိုး။

[اَلْجَنِيسُ] မျိုးရိုးဇာတိမှန်ကန်သူ။ ဇာတိမြင့်မြတ်သန့်ရှင်းသူ။

✽ [جَنَشَ ـُ] ❶ ခုန်အုပ်သည်။ ❷ [ـإِلَيْهِ] ရောက်ရှိလာသည်။ ❸ [ـمِنْهُ]ကြောက်ရွံ့တုန်လှုပ်သည်။

[جَنْشٌ] ❶ ခုန်အုပ်ခြင်း။ ❷ ရောက်ရှိလာခြင်း။ ❸ ကြောက်ရွံ့ တုန်လှုပ်ခြင်း။

[جَنِشَ ـَ] [ـالْمَكَانُ]ခြောက်သွေ့သည်။ မိုးခေါင်သည်။

[جَنْش] ခြောက်သွေ့ခြင်း။ မိုးခေါင်ခြင်း။

✿ [جَنَّص] ❶ ကြောက်၍ပြေးသည်။ စိုးရိမ်ထိတ်လန့်ဖွယ်ရာမှ လွတ်မြောက်ရာသို့ ထွက်ပြေးတိမ်းရှောင်သည်။ ❷ [ـبَصَرَهٗ] စူးစူးရဲရဲကြည့်သည်။ ❸ [ـالطَّرِيْقُ بِالنَّاسِ] (လမ်း)ကျဉ်းသည်။

✿ [اَلْجَنْطِيَانُ] ဆေးပုလဲပင်။

✿ [جَنَفَ ـِ] ❶ ယိမ်းယိုင်သည်။ တိမ်းပါးသည်။ ❷ အမှန်တရားမှ သွေဖည်ဖေါက်ပြန်သည်။ ❸ [ـعَلَيْهِ]မတရားပြုမူဆုံးဖြတ်၊ လုပ်ကိုင်သည်။ ❹ [ـفِيْهِ]ကျူးကျော်စော်ကားသည်။ ❺ [ـعَنْهُ]လွဲချော်သည်။ ဘေးသို့ချော်ထွက်သည်။

[جُنُوْفٌ] ❶ ယိမ်းယိုင်ခြင်း။ တိမ်းပါးခြင်း။ ❷ အမှန်တရားမှ သွေဖည်ဖေါက်ပြန်ခြင်း။ ❸ မတရားပြုမူဆုံးဖြတ်၊ လုပ်ကိုင်ခြင်း။ ❹ ကျူးကျော်စော်ကားခြင်း။ ❺ လွဲချော်ခြင်း။ ဘေးသို့ ချော်ထွက်ခြင်း။

[جَنِفَ ـَ] ❶ ယိမ်းယိုင်သည်၊ တိမ်းပါးသည်။ ❷ အမှန်တရားမှ သွေဖည်ဖေါက်ပြန်သည်။ ❸ [ـعَلَيْهِ]မတရားပြုမူဆုံးဖြတ်၊ လုပ်ကိုင်သည်။ ❹ [ـفِيْهِ]ကျူးကျော်စော်ကားသည်။ ❺ [ـعَنْهُ]လွဲချော်သည်။ ဘေးသို့ချော်ထွက်သည်။ ❻ ခါးကိုင်းသည်။ ကျောကုန်းသည်။

[جَنَفٌ] ❶ ယိမ်းယိုင်ခြင်း။ တိမ်းပါးခြင်း။ ❷ အမှန်တရားမှ သွေဖည်ဖေါက်ပြန်ခြင်း။ ❸ မတရားပြုမူဆုံးဖြတ်၊ လုပ်ကိုင်ခြင်း။ ❹ ကျူးကျော်စော်ကားခြင်း။ ❺ လွဲချော်ခြင်း။ ဘေးသို့ ချော်ထွက်ခြင်း။ လွဲချော်များယွင်းခြင်း။ ﴿فَمَنْ خَافَ مِنْ مُّوْصٍ جَنَفًا اَوْ اِثْمًا﴾ သို့ဖြစ်ရာ အသင်တို့အနက် တစ်ဦးတစ်ယောက်သည် သေတမ်းစာမှာကြားသူထံမှ တစ်စုံတစ်ရာမှားယွင်းမှု၊ သို့မဟုတ် ပြစ်မှုတစ်စုံတစ်ရာကို စိုးရိမ်မကင်းဖြစ်ပါမူ။ ❻ ခါးကိုင်းခြင်း။ ကျောကုန်းခြင်း။

[جَنِيْفٌ] ❶ ယိမ်းယိုင်သော(သူ၊ အရာ)။ တိမ်းပါးသော(သူ၊ အရာ)။ ❷ အမှန်တရားမှ သွေဖည်ဖေါက်ပြန်သော(သူ၊ အရာ)။ ❸ မတရားပြုမူဆုံးဖြတ်၊ လုပ်ကိုင်သော(သူ၊ အရာ)။ ❹ ကျူးကျော်စော်ကားသော(သူ၊ အရာ)။ ❺ လွဲချော်သော(သူ၊ အရာ)။ ဘေးသို့ချော်ထွက်သော(သူ၊ အရာ)။

[اَجْنَفُ] ခါးကိုင်းသော(သူ)။ ကျောကုန်းသော(သူ)။(မ)[جَنْفَاءُ]။ (ဇ)[جُنْفٌ]။

[اَجْنَفَ] ❶ ယိမ်းယိုင်သည်၊ တိမ်းပါးသည်။ ❷ အမှန်တရားမှ သွေဖည်ဖေါက်ပြန်သည်။ ❸ [ـعَلَيْهِ]မတရားပြုမူဆုံးဖြတ်၊ လုပ်ကိုင်သည်။ ❹ [ـفِيْهِ]ကျူးကျော်စော်ကားသည်။ ❺ [ـعَنْهُ]လွဲချော်သည်၊ ဘေးသို့ချော်ထွက်သည်။ ❻ ခါးကိုင်းသည်။ ကျောကုန်းသည်။ ❼ [ـفُلَانًا]မတရားဘက်လိုက်ဆုံးဖြတ်သူအဖြစ် မြင်တွေ့ရသည်။

[جَانَفَ] [ـالْقَوْمُ](၄င်းတို့နှင့်)မဆက်ဆံဘဲ ကင်းကင်းရှင်းရှင်းနေသည်။[جَانَفَ اَهْلَهٗ]စိတ်ဆိုးသဖြင့် မိမိ၏မိသားစုထံမပြန်ဘဲ ပစ်ထားသည်။

[تَجَانَفَ] ❶ [ـلَهٗ اَوْ اِلَيْهِ]ယိမ်းယိုင်သည်၊ တိမ်းပါးသည်။ ❷ [ـفِيْ مِشْيَتِهٖ]လမ်းလျှောက်ရာ၌

မောက်မာဝင့်ကြွားစွာလျှောက်သည်။ ❸ [ـ عَنَهُ]လွဲချော်သည်။ ဘေးသို့ချော်ထွက်သည်။

[اَلْاَجْنَفُ] ထူထည်ကြီးမားသော(အရာ)။

[قَدَحٌ اَجْنَفُ][ကြီးမားသော ခွက်။

[اَلْجنافِىُّ] မောက်မာဝင့်ကြွားစွာ လျှောက်သူ။

[اَلْمِجْنَفُ] အမှန်တရားမှ တိမ်းပါးဖေါက်ပြန်သူ။

✿ [جَنَقَ ـِ] ကျောက်ခဲထည့်ပစ်ရသော လက်နက်ဖြင့် ပစ်ခတ်သည်။

[جَنْقٌ] ကျောက်ခဲထည့်ပစ်ရသော လက်နက်ဖြင့် ပစ်ခတ်ခြင်း။

[جَانِقٌ] ကျောက်ခဲထည့်ပစ်ရသော လက်နက်ဖြင့် ပစ်ခတ်သော(သူ)။

[جَنَّقَ] ကျောက်ခဲထည့်ပစ်ရသော လက်နက်ဖြင့် ပစ်ခတ်သည်။

[اَلْجُنُقُ] ကျောက်ခဲထည့်ပစ်ရသော လက်နက်ကို ကိုင်ဆောင်သူများ။ ယင်းလက်နက်ဖြင့် ပစ်ခတ်ရသော ကျောက်ခဲ။

[اَلْمِنْجَنِيْقُ] ကျောက်ခဲထည့်ပစ်ရသော လက်နက်ကို ကိုင်ဆောင်သူများ။ ယင်းလက်နက်ဖြင့် ပစ်ခတ်ရသော ကျောက်ခဲ။ကြည့် [اَلْمِنْجَلِيْقُ]။

✿ [اَلْجُنْكُ] လင်းကွင်း။(အလ်မွန်ဂျိဒ်)မယ်ဒလင်။(မုအ်ဂျမ်)။ကြည့် [اَلطُّنْبُوْرُ]။

✿ [جَنَّ ـِ] ပုံးကွယ်သည်။ ပျောက်ကွယ်သည်။ ဖုံးကွယ်သည်။

[جَنٌّ] ပုံးကွယ်ခြင်း။ ပျောက်ကွယ်ခြင်း။ ဖုံးကွယ်ခြင်း။

[جَنَّ ـُ] ❶ [ـ اللَّيْلُ](ည)မှောင်သည်။ ❷ [ـ الظَّلَامُ](အမှောင်ထု)နက်ရှိုင်းသည်။ ❸ [ـ الشَّيْءَ]ဖုံးအုပ်ထားသည်။ ဖုံးဖိထားသည်။ ဖုံးလွှမ်းသည်။﴿فَلَمَّا جَنَّ عَلَيْهِ اللَّيْلُ رَاٰى كَوْكَبًا﴾။သို့ဖြင့် ညသည် ၎င်းအားဖုံးလွှမ်းသွားသော အခါ သူသည် ဂြိုဟ်နက္ခတ်တစ်လုံးကို မြင်တွေ့ခဲ့ရလေသည်။ ❹ [ـ المَيِّتَ](သေသူကို)အဝတ်လွှမ်းခြုံ၊ စည်းနှောင်သည်။(ကဖန်ထုပ်သည်။) ❺ (သေသူကို)မြေမြှုပ်သင်္ဂြိုဟ်သည်။

[جَنٌّ . جُنُوْنٌ] ❶ (ည)မှောင်ခြင်း။ ❷ (အမှောင်ထု)နက်ရှိုင်းခြင်း။ ❸ ဖုံးအုပ်ထားခြင်း။ ဖုံးဖိထားခြင်း။ ဖုံးလွှမ်းခြင်း။ ❹ (သေသူကို)အဝတ်လွှမ်းခြုံ၊ စည်းနှောင်ခြင်း။(ကဖန်ထုပ်ခြင်း။) ❺ (သေသူကို)မြေမြှုပ်သင်္ဂြိုဟ်ခြင်း။

[جَنَّ] ❶ ရူးသွပ်သည်။[جَنَّ جُنُوْنُ]သွက်သွက်ခါအောင် ရူးသည်။ ❷ [ـ بِهِ وَمِنْهُ]ရူးသွားလုမတတ် အံ့သြသည်။ အရူးအမူးဖြစ်သည်။ ❸ [ـ النَّبْتُ](အပင်)ရှည်လျား၊ ရစ်ပတ်၊ ရှုပ်ထွေးသည်။ ❹ [ـتِ الْاَرْضُ](မြေ၌)အပင်များ ပွင့်လန်းသည်။ ❺ [ـ الذُّبَابُ](ယင်ကောင်)တဝီဝီအော်မြည်သည်။

[جَنٌّ . جُنُوْنٌ . جِنَّةٌ . مَجَنَّةٌ] ❶ ရူးသွပ်ခြင်း။ ❷ ရူးသွားလုမတတ် အံ့သြခြင်း။ အရူးအမူးဖြစ်ခြင်း။

[جَنٌّ . جُنُوْنٌ] ❶ (အပင်)ရှည်လျား၊ ရစ်ပတ်၊ ရှုပ်ထွေးခြင်း။ ❷ (မြေ၌)အပင်များ ပွင့်လန်းခြင်း။ ❸ (ယင်ကောင်)တဝီဝီအော်မြည်ခြင်း။

သွားသည်။

[اِسْتَجَنَّ] ❶ [_ الشَّيْءَ]ဖုံးကွယ်သည်။ ကွယ်ပျောက်သည်။ ❷ [_فُلَانًا]မယ်ဒလင်တီးရန်ခေါ်သည်။

[اَلتَّجْنِيْنُ] ဂျင်န်သတ္တဝါတို့၏စကား။ [هُوَ يَنْطِقُ بِالتَّجْنِيْنِ]သူ အထူးအဆန်းတွေ ပြောတယ်။

[اَلْجَانُّ] ❶ ဂျင်န်သတ္တဝါ။ ﴿لَمْ يَطْمِثْهُنَّ اِنْسٌ قَبْلَهُمْ وَلَا جَانٌّ﴾၎င်းတို့အလျှင် သူမတို့အား မည်သည့်လူသားတစ်ဦးတစ်ယောက်သည်လည်းကောင်း၊ မည်သည့် ဂျင်န် တစ်ဦးတစ်ယောက်မျှလည်းကောင်း ထိတွေ့ခဲ့သည်မရှိချေ။ ❷ မြွေသူတော်။ မြွေကြီး။ ﴿فَلَمَّا رَاٰهَا تَهْتَزُّ كَاَنَّهَا جَانٌّ وَّلّٰى مُدْبِرًا﴾။ ထို့နောက် သူသည် ယင်းတောင်ဝှေးကို မြွေကဲ့သို့ တွန့်လိမ်လျက်ရှိသည်ကို တွေ့မြင်ရသောအခါ ကျောခိုင်း၍ ထွက်ပြေးလေ၏။ (ج) [جِنَّانٌ - جَوَانٌّ]။

[اَلْجَنَانُ] ❶ အတွင်းပိုင်း။ ဝမ်းဗိုက်ပိုင်း။ ❷ နှလုံးသား။ [اِذَا قَرِحَ الْجَنَانُ بَكَتِ الْعَيْنَانِ]။ နှလုံးသားက နာကျင်လာရင် မျက်စိနှလုံးက ငိုကြွေးတယ်။ ❸ ဖုံးကွယ်နေသော(အရာ)။ ကွယ်ဝှက်နက်နဲသော(အမှုကိစ္စ)။ ❹ [جَنَانُ النَّاسِ]လူအုပ်ကြီး။ ❺ [جَنَانُ اللَّيْلِ] နက်ရှိုင်းသောညအမှောင်ထု။ (ج)[اَجْنَانٌ]။

[اَلْجِنُّ] ❶ ဂျင်န်သတ္တဝါ။ [جِنِّيٌّ]ဂျင်န်သတ္တဝါတစ်ဦး။ [بَاتَ فُلَانٌ ضَيْفَ جِنٍّ]သူ ဂျင်န်သတ္တဝါတို့၏ ဧည့်သည်အဖြစ် ညအိပ်ခဲ့ရသည်။(သူ လူသူကင်းမဲ့သောအရပ်၌ ညအိပ်

[اَجَنَّ] ❶ ရူးသွပ်သည်။ ❷ [_ الشَّيْءَ]ဖုံးအုပ်ထားသည်။ ကွယ်ဝှက်ထားသည်။ ❸ [_ الْمَرْاَةُ جَنِيْنًا](မိန်းမ)ကိုယ်ဝန်ရှိသည်။ ❹ [_ الشَّيْءَ عَنْهُ]ဖုံးကွယ်သည်။ တိမ်မြှုပ်သည်။ ❺ [_الْمَيِّتَ](သေသူကို)အဝတ်လွှမ်းခြုံ၊ စည်းနှောင်ပေးသည်။ ကဖန်ထုပ်သည်။ ﴿وَلِيَ دَفْنَ رَسُوْلِ اللّٰهِ وَاَجْنَانَهُ عَلِيٌّ وَعَبَّاسٌ﴾ တမန်တော်မြတ်(ﷺ)အား မြေချသင်္ဂြိုဟ်ရန်နှင့် ကဖန်လွှမ်းခြုံပေးရန် သာဝကကြီးအလီနှင့် အဗ်ဗားစ်တို့က တာဝန်ယူခဲ့ကြသည်။ ❻ (သေသူကို)မြေမြှုပ်သင်္ဂြိုဟ်သည်။ ❼ [_فُلَانًا]ရူးသွပ်စေသည်။ ❽ [_الشَّيْءَ صَدْرَهُ](တစ်စုံတစ်ရာကို ရင်ထဲ၌)မျိုသိပ်ထားသည်။

[جَنَّنَ] ❶ [_ الشَّيْءَ]ဖုံးအုပ်ထားသည်။ ကွယ်ဝှက်ထားသည်။ ❷ [_الْمَيِّتَ](သေသူကို)အဝတ်လွှမ်းခြုံ၊ စည်းနှောင်ပေးသည်။ ကဖန်ထုပ်သည်။ ❸ (သေသူကို)မြေမြှုပ်သင်္ဂြိုဟ်သည်။ ❹ [_فُلَانًا]ရူးသွပ်စေသည်။ ❺ [_الشَّيْءَ صَدْرَهُ](တစ်စုံတစ်ရာကို ရင်ထဲ၌)မျိုသိပ်ထားသည်။

[اِجْتَنَّ] [_ الشَّيْءَ]ဖုံးကွယ်သည်။ ပျောက်ကွယ်သည်။

[تَجَانَّ - تَجَانَنَ] ရူးချင်ယောင်ဆောင်သည်။ အရူးလို လုပ်ပြသည်။

[تَجَنَّنَ] ❶ [_ الشَّيْءُ]ဖုံးကွယ်သွားသည်။ ကွယ်ဝှက်သည်။ ❷ [_الْمَيِّتُ](သေသူ)အဝတ်လွှမ်းခြုံ၊ စည်းနှောင်ပြီးသားဖြစ်သွားသည်။ ကဖန်ထုပ်ပြီးသားဖြစ်သည်။ ❸ (သေသူကို)မြေမြှုပ်ထားသည်။ ❹ ရူးသွပ်

သည်။(သူ လူသူကင်းမဲ့သောအရပ်၌ ညအိပ်ခဲ့ရသည်။) ❷ [جِنُّ الشَّبَابِ]ပျိုရွယ်မှု၏ အဦးအစ၊ အမြူးကြွဆုံးဖြစ်သော ပျိုမြစ်နုနယ်သည့်အရွယ်။ ❸ [جِنُّ النَّبَاتِ]အပွင့်။ ❹ [جِنُّ اللَّيْلِ]ည၏နက်ရှိုင်းသောအမှောင်။ ❺ [جِنُّ النَّاسِ]လူအုပ်ကြီး။

[اَلْجَنَنُ] ❶ အဖုံး။ အကာ။ ❷ သင်္ချိုင်း။ ❸ သေသူကို ထုပ်ပိုးစည်းနှောင်ရသော အဝတ်။ ကဖန်ပိတ်။ ❹ ဖုံးအုပ်ထားသော(အရာ)။ ❺ လူသေကောင်။(ဇ)[اَجْنَانٌ]။

[اَلْجَنَّةُ] ❶ ဥယျာဉ်၊ ခြံမြေ။ ❷ နောင်တမလွန်၌ သူတော်ကောင်းတို့ စံမြန်းကြရမည့် သုခဘုံ။(ဇ)[جِنَانٌ]။

[اَلْجِنَّةُ] ❶ ရူးသွပ်မှု။ ❷ ဂျင်န်သတ္တဝါ။ ﴿مِنَ الْجِنَّةِ وَ النَّاسِ﴾ဂျင်န်သတ္တဝါများအနက်မှလည်းကောင်း၊ လူသားများအနက်မှလည်းကောင်း။

[اَلْجُنَّةُ] ❶ အကာအကွယ်၊ အကာအရံ၊ အတားအဆီး။ ❷ မျက်လုံးမှအပ ကျန်ဦးခေါင်းတစ်ခုလုံးကို ဖုံးအုပ်ရသည့် အမျိုးသမီးဝတ် ခေါင်းမြီးခြုံပုဝါ။ ❸ ဒိုင်း၊ လွှား။ (ဇ) [جُنَنٌ]။

[اَلْجُنُوْنُ] ရူးသွပ်မှု။

[اَلْجَنِيْنُ] ❶ သင်္ချိုင်း။ ❷ ဖုံးအုပ်ထားသော အရာ။ ❸ သန္ဓေသား၊ သားလောင်း။ ❹ အစေ့မှ ပြူထွက်လာသောအညှောင့်။ (ဇ) [اَجِنَّةٌ ۔ اَجْنُنٌ]။

[اَلْجُنَيْنَةُ] အမျိုးသမီးဝတ်ခြုံထည်။

[اَلْجُنَيْنَةُ] ဥယျာဉ်ငယ်။

[اَلْمِجَنُّ] ❶ သံခမောက်။[قَلَبَ فُلَانٌ مِجَنَّهُ] အရှက်မထားဘဲ လုပ်ချင်ရာလုပ်သည်။ [قَلَبَ لَهُ ظَهْرَ الْمِجَنِّ]ချစ်ခင်ပြီးနောက်မှ ဖေါက်ပြန် ရန်တွေ့သည်။ ❷ စလွယ်။(ဇ) [مَجَانٌّ]။

[اَلْمِجَنَّةُ] သံခမောက်။(ဇ) [مَجَانٌّ]။

[اَلْمَجَنَّةُ] ❶ ရူးသွပ်မှု။ ❷ ပုန်းကွယ်သည့်နေရာ။ ❸ ဂျင်န်သတ္တဝါများ ပေါများသည့်နေရာ။(ဇ) [مَجَانٌّ]။

[اَلْمَجْنُوْنُ] အရူး။ ဦးနှောက်ပျက်သူ။ စိတ္တဇဝေဒနာသည်။(ဇ)[مَجَانِيْنُ]။

✿ [جَنَى ۔] ❶ [ــ فُلَانًا]ပြစ်မှားကျူးလွန်သည်။ ထိခိုက်နာကျင်စေမှုကို ကျူးလွန်သည်။ [جَنَى عَلَى نَفْسِهِ]မိမိကိုယ်ကို သေကြောင်းကြံသည်။ ထိခိုက်နာကျင်စေသည်။ ❷ [ــ الذَّنْبَ عَلَى فُلَانٍ]တစ်ဦးတစ်ယောက်အပေါ်၌ အပြစ်ပုံချသည်။ ❸ [ــ الثَّمَرَةَ](အသီး ကို)ခူးဆွတ်သည်။ ❹ [ــ الذَّهَبَ](ရွှေကို) သတ္တုတွင်းမှ တူးဖေါ်စုဆောင်းသည်။

[جِنَايَةٌ] ❶ ပြစ်မှားကျူးလွန်ခြင်း။ ထိခိုက်နာကျင်စေမှုကို ကျူးလွန်ခြင်း။ ❷ တစ်ဦးတစ်ယောက်အပေါ်၌ အပြစ်ပုံချခြင်း။

[جَنًى ۔ جَنْيٌ] ❶ (အသီးကို)ခူးဆွတ်ခြင်း။ ❷ (ရွှေကို)သတ္တုတွင်းမှ တူးဖေါ်စုဆောင်းခြင်း။

[جَانٍ] ❶ ပြစ်မှားကျူးလွန်သော(သူ)။ ထိခိုက်နာကျင်စေမှုကို ကျူးလွန်သော(သူ)။ ❷ တစ်ဦးတစ်ယောက်အပေါ်၌ အပြစ်ပုံချသော(သူ)။ ❸ (အသီးကို)ခူးဆွတ်သော(သူ)။ ❹ (ရွှေကို)သတ္တုတွင်းမှ တူးဖေါ်စုဆောင်း

သော(သူ)။(ج)[جُنَاةٌ - جُنَاءٌ]။

[جَنَى - ] ရှုနာရှိက်ကုန်းဖြစ်သည်။ ကျောပြင် ကုန်းသည်။

[جَنًى] ရှုနာရှိက်ကုန်းဖြစ်ခြင်း။ ကျောပြင် ကုန်းခြင်း။

[اَجْنَى] ရှုနာရှိက်ကုန်းဖြစ်သော(သူ)။ ကျောပြင်ကုန်းသော(သူ)။(م)[جَنْوَاءُ]။

[اَجْنَى] ❶ [_الثَّمَرُ](အသီး)ခူးဆွတ်ရန် အချိန်တန်သည်။ ❷ [_الْاَرْضُ](မြေ)အသီး ထွက်နှုန်းကောင်းသည်။ ❸ [_اللهُ الْمَاشِيَةَ] (အလ္လာဟ်အရှင်မြတ်က တိရိစ္ဆာန်များအတွက်)မြက်များကို ပေါက်ရောက်စေတော်မူသည်။ ❹ [_فُلَانًا الثَّمَرَ](တစ်ဦးတစ်ယောက်ကို အသီး)ခူးစားခွင့်ပြုသည်။

[جَانَى] [_عَلَيْهِ](သူ့အပေါ်)သူ မကျူးလွန်ရဘဲ ကျူးလွန်သည်ဟု စွပ်စွဲသည်။

[اِجْتَنَى] ❶ [_الثَّمَرَةَ](အသီးကို)ခူးဆွတ်သည်။ ❷ [_الْعَسَلَ](ပျားရည်ကို)လိုက်လံရှာဖွေစုဆောင်းသည်။ ❸ [_مَاءَ الْمَطَرِ](မိုးရေကို)သောက်သည်။

[تَجَنَّى] ❶ [_عَلَيْهِ](သူ့အပေါ်)သူမကျူးလွန်ရဘဲ ကျူးလွန်သည်ဟု စွပ်စွဲသည်။ ❷ [_الثَّمَرَةَ](အသီးကို)ခူးဆွတ်သည်။

[اَلْجَانِيُ] ❶ စွန်ပလွံပင်ကို ဝတ်မှုံကူးပေးသူ။ ❷ ရှာဖွေဆည်းပူးသူ။ ကျူးလွန်သူ။

[اَلْجَنَى] ❶ အပင်မှ ခူးဆွတ်ထားသော အသီးအနှံ။ ❷ မြှုပင်၊ မြက်ပင်။ ❸ စပျစ်သီး။ ❹ စွန်ပလွံသီးအရင့်။ ❺ ပျားရည်။ ❻ ရွှေ။ ❼ ခရုခွံ။(ج)[اَجْنَاءُ - اَجْنٍ]။

[اَلْجِنَايَةُ] ပြစ်မှု။(ج)[جَنَايَا]။

[اَلْجَنِيُّ] ခူးဆွတ်ရန်အချိန်တန်သဖြင့် ခူးဆွတ်ထားသော အသီးအနှံ။

[اَلْجَاهِبُ] အထင်အရှား၊ လူသိရှင်ကြားဖြစ်သော(သူ၊ အရာ)။ [اَتَاهُ جَاهِبًا]သူ့ထံ အကြောင်းကြား၍ ရောက်ရှိလာခဲ့သည်။

[اَلْجَهْبُ] ရှုပ်ပုပ်ထားသောမျက်နှာ။ အလွန်ရုပ်ဆိုးသောမျက်နှာ။

[اَلْمَجْهَبُ] အရှက်အကြောက်မရှိသူ။ မျက်နှာပြောင်သူ။(ج)[مَجَاهِبُ]။

✿ [اَلْجِهْبَاذُ] ထိုးထွင်းကြံဆညာဏ်ကောင်းသူ။ ညာဏ်ထက်၍နားလည်လွယ်သူ။ (ج)[جَهَابِذَةٌ]။

[اَلْجِهْبِذُ] ထိုးထွင်းကြံဆညာဏ်ကောင်းသူ။ ညာဏ်ထက်၍နားလည်လွယ်သူ။ (ج)[جَهَابِذَةٌ]။

✿ [اَلْجَهْبَلُ] ❶ ဦးခေါင်းကြီးသောသူ။ ❷ အသက်ကြီးသူ။ ❸ ကြီးမားသောတောင်ဆိတ်။(ج)[جَهَابِلُ]။

[اَلْجَهْبَلَةُ] အရုပ်ဖျက်အလွန်ရုပ်ဆိုးသောမိန်းမ။

✿ [جَهَثَ - ] (စိုးရိမ်စိတ်၊ ဒေါသစိတ်စသည်) ပြေပျောက်သည်။

[جَهَثٌ] (စိုးရိမ်စိတ်၊ ဒေါသစိတ်စသည်) ပြေပျောက်ခြင်း။

[جَاهِثٌ - جَهْثَانُ](စိုးရိမ်စိတ်၊ ဒေါသစိတ်စသည်)ပြေပျောက်သွားသော(သူ)။

✿ [جَهْجَهَ] ❶ [_الْاَبْطَالُ](သူရဲကောင်းများ)တိုက်ပွဲ၌ ညာသံပေး ဟစ်အော်ကြသည်။

ခြောက်လှန့်သည်။ (၃) [الرَّجُلَ]ပြန်လှည့်သွားစေသည်။ မောင်းထုတ်သည်။ [تَجَهْجَهَ] [_الأَبْطَالَ](သူရဲကောင်းများ)တိုက်ပွဲ၌ ညာသံပေး ဟစ်အော်ကြသည်။

❁ [جَهَدَ _] (၁)(အစွမ်းကုန်)ကြိုးစားအားထုတ်သည်။ (၂) လိုရာပန်းတိုင်ရောက်သည် အထိ ကြိုးစားရှာဖွေသည်။ (၃) [_بِفُلَانٍ](တစ်ဦးတစ်ယောက်ကို)စမ်းသပ်သည်။ စုံစမ်း စစ်ဆေးသည်။ (၄) [_فُلَانًا](တစ်ဦးတစ်ယောက်ကို)အခက်တွေ့စေသည်။ အကြပ်အတည်းဆိုက်ရောက်စေသည်။ (၅) အဖန်တလဲလဲတောင်းဆိုသည်။ ခဏခဏမေးမြန်းသည်။ မေးပြီးရင်းမေးသည်။ (၆) [_الدَّابَّةَ](အစီးအနင်းပေါ်၌)မနိုင်ဝန်ကို တင်ဆောင်သည်။ စွမ်းနိုင်သည်ထက် ပို၍ဝန်တင်ထားသည်။ (၇) [_الْمَرَضُ فُلَانًا](ရောဂါက တစ်ဦးတစ်ယောက်ကို)ပိန်ခြိုးစေသည်။ (၈) [_اللَّبَنَ](နို့ကို)ရေဖြင့်ရောစပ်သည်။ (၉) (နို့မှ)မလိုင်ကို အကုန်အစင်ထုတ်ယူသည်။ (၁၀) [_الْمَالَ](ဥစ္စာပစ္စည်းကို)တကွဲတပြားဖြစ်စေသည်။ ကစဥ့်ကလျားဖြစ်စေသည်။ (၁၁) [_الطَّعَامَ](အစားအစာကို)စားချင်စိတ်ဖြစ်ပေါ်သည်။ အလွန်အကျူးစားသည်။ [_الْمَاشِيَةُ الْمَرْعَى](တိရစ္ဆာန် စားကျက်ကို)အတိုင်းထက်အလွန်စားသည်။

[جَهْدٌ] (၁) အစွမ်းကုန်ကြိုးစား အားထုတ်ခြင်း။ ﴿وَأَقْسَمُوا بِاللَّهِ جَهْدَ أَيْمَانِهِمْ﴾ ၄င်းပြင်ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်အား အစွမ်းကုန် တိုင်တည်ခဲ့ကြကုန်၏။ (၂) လိုရာပန်းတိုင်ရောက်သည်အထိ ကြိုးစားရှာဖွေခြင်း။ (၃) (တစ်ဦးတစ်ယောက်ကို)စမ်းသပ်ခြင်း။ စုံစမ်းစစ်ဆေးခြင်း။ (၄) (တစ်ဦးတစ်ယောက်ကို)အခက်တွေ့စေခြင်း။ အကြပ်အတည်းဆိုက်ရောက်စေခြင်း။ (၅) အဖန်တလဲလဲတောင်းဆိုခြင်း။ ခဏခဏမေးမြန်းခြင်း။ မေးပြီးရင်းမေးခြင်း။ (၆) (အစီးအနင်းပေါ်၌)မနိုင်ဝန်ကို တင်ဆောင်ခြင်း။ (၇) (ရောဂါက တစ်ဦးတစ်ယောက်ကို)ပိန်ခြိုးစေခြင်း။ (၈) (နို့ကို)ရေဖြင့်ရောစပ်ခြင်း။ (၉) (နို့မှ)မလိုင်ကို အကုန်အစင်ထုတ်ယူခြင်း။ (၁၀) (ဥစ္စာပစ္စည်းကို)တကွဲတပြားဖြစ်စေခြင်း။ ကစဥ့်ကလျားဖြစ်စေခြင်း။ (၁၁) (အစားအစာကို)စားချင်စိတ်ဖြစ်ပေါ်ခြင်း။ အလွန်အကျူးစားခြင်း။

[جَاهِدٌ] (၁) အစွမ်းကုန် ကြိုးစားအားထုတ်သော(သူ)။ (၂) လိုရာပန်းတိုင်ရောက်သည်အထိ ကြိုးစားရှာဖွေသော(သူ)။ (၃) (တစ်ဦးတစ်ယောက်ကို)စမ်းသပ်သော(သူ)။ စုံစမ်းစစ်ဆေးသော(သူ)။ (၄) (တစ်ဦးတစ်ယောက်ကို)အခက်တွေ့စေသော(သူ)။ အကြပ်အတည်းဆိုက်ရောက်စေသော(သူ)။ (၅) အဖန်တလဲလဲတောင်းဆိုသော(သူ)။ ခဏခဏ မေးမြန်းသော(သူ)။ မေးပြီးရင်းမေးသော(သူ)။ (၆) (အစီးအနင်းပေါ်၌)မနိုင်ဝန်ကို တင်ဆောင်သော(သူ)။ (၇) ပိန်ခြိုးစေသော(ရောဂါ)။ (၈) (နို့ကို)ရေဖြင့်ရောစပ်သော(သူ)။ (၉) (နို့မှ)မလိုင်ကို အကုန်အစင်ထုတ်ယူသော(သူ)။ (၁၀) (ဥစ္စာပစ္စည်းကို)တကွဲတပြား ဖြစ်စေသော(သူ)။ ကစဥ့်ကလျားဖြစ်စေသော(သူ)။

၁၁ (အစားအစာကို)စားချင်စိတ်ဖြစ်ပေါ်သော(သူ)။ အလွန်အကျူးစားသော(သူ)။

[مَجْهُوْدٌ - جَهِيْدٌ] ၁ အစွမ်းကုန် ကြိုးစားအားထုတ်၍ပြုလုပ်ထားသော(အရာ)။ ၂ ကြိုးစားရှာဖွေအပ်သော(ပန်းတိုင်)။ ၃ စမ်းသပ်ခြင်းခံရသော(သူ)။ စုံစမ်းစစ်ဆေးခြင်းခံရသော(သူ)။ ၄ အခက်တွေ့စေသော(သူ)။ အကြပ်အတည်း ဆိုက်ရောက်သော(သူ)။ ၅ အဖန်တလဲလဲတောင်းဆိုခြင်းခံရသော(သူ)။ ခဏခဏ မေးမြန်းခြင်းခံရသော(သူ)။ မေးပြီးရင်းမေးခြင်းခံရသော(သူ)။ ၆ မနိုင်ဝန်ကို တင်ဆောင်ထားသော(အစီးအနင်း)။ ၇ (ရောဂါ၏ဖိစီးမှုကြောင့်)ပိန်ခြိုးသော(သူ)။ ၈ ရေဖြင့်ရောစပ်ထားသော(နို့)။ ၉ မလိုင်ကို အကုန်အစင်ထုတ်ယူထားသော(နို့)။ ၁၀ တကွဲတပြားဖြစ်သော(ဥစ္စာပစ္စည်း)။ ကစဉ့်ကလျားဖြစ်သော(ဥစ္စာပစ္စည်း)။ ၁၁ စားချင်ဖွယ်ဖြစ်သော(အစားအစာ)။

[جُهِدَ] [ـالنَّاسُ](လူများ)မိုးခေါင်ရေရှားအငတ်ဘေးကြုံသဖြင့် အကြပ်အတည်းတွေ့သည်။

[جَهِدَ -] [ـالعَيْشُ](ဘဝအခြေအနေ)ကြပ်တည်း ခက်ခဲသည်။

[جَهْدٌ] (ဘဝအခြေအနေ)ကြပ်တည်းခက်ခဲခြင်း။

[جَهِدٌ] (ဘဝအခြေအနေ)ကြပ်တည်းခက်ခဲသော(သူ)။

[اَجْهَدَ] ၁ အကြပ်အတည်းဆိုက်ရောက်သည်။ အခက်အခဲတွေ့သည်။ ၂ အစားအနှင်း မောပမ်းချိနဲ့မှုနှင့် ကြုံတွေ့ရသည်။ ၃ [ـالاَرْضُ](မြေကြီး)ထင်ရှားပေါ်လွင်သည်။ ၄ [ـلَهُ الطَّرِيْقُ](လမ်း)ရှင်းလင်းထင်ရှားသည်။ ၅ [ـهُ عَلٰى اَنْ يَفْعَلَ كَذَا](တစ်စုံတစ်ရာပြု လုပ်ရန်)အတင်းအကြပ်ခိုင်းစေသည်။ ၆ [ـالشَّيْبُ فِيْهِ](အိုးမင်းရင့်ရော်မှု)မြန်ဆန်သည်။ ၇ [ـالْعَدُوُّ عَلَيْهِ](ရန်သူ)အသည်းအသန် ရန်လုပ်သည်။ ၈ [ـفُلَانٌ فِى الاَمْرِ](တစ်စုံတစ်ရာကို)သတိကြီးစွာဖြင့် ဆောင်ရွက်သည်။ ၉ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)အခက်တွေ့စေသည်။ အကြပ်အတည်းဆိုက်ရောက်စေသည်။ ၁၀ [ـالدَّابَّةَ](အစီးအနင်းပေါ်၌)မနိုင်ဝန်ကို တင်ဆောင်သည်။ စွမ်းနိုင်သည်ထက် ပို၍ဝန်တင်ထားသည်။ ၁၁ [ـمَالَهُ](ဥစ္စာပစ္စည်းကို)ကစဉ့်ကလျားပျက် စီးစေသည်။ ဖြုန်းသည်။ ၁၂ [ـالطَّعَامَ](အစားအစာကို)စားချင်စိတ်ဖြစ်ပေါ်သည်။ အလွန်အကျူးစားသည်။

[جَاهَدَ] ၁ [ـالْعَدُوَّ](ရန်သူကို)အစွမ်းကုန်တိုက်ခိုက်သည်။ ၂ [ـنَفْسَهُ](မကောင်းသည့် စိတ်ဓါတ်ကို)ကောင်းမွန်မြင့်မြတ်လာအောင် လေ့ကျင့်ပျိုးထောင်သည်။

[اِجْتَهَدَ] ၁ အစွမ်းကုန် ကြိုးပမ်းဆောင်ရွက်သည်။ ၂ အစွမ်းကုန် တွေးခေါ်ကြံဆသည်။

[تَجَاهَدَ] အစွမ်းကုန် ကြိုးပမ်းဆောင်ရွက်သည်။

[اَلْاِجْتِهَادُ] ကုရ်အာန်ကျမ်းတော်မြတ်နှင့် တမန်တော်မြတ်၏သြဝါဒတော်များအား ကိုး

ကားလျက် မှန်ကန်စနစ်ကျသောဥပဒေသများဖြင့် အစွလာမ့်ဓမ္မသတ်ဆိုင်ရာကိစ္စများကို စဉ်းစားတွေးခေါ်အဖြေထုတ်ခြင်း။

[اَلْجَهَادُ] ❶ မြေပြန့်၊ လွင်ပြင်။ ❷ ကန္တာရ။ ❸ မာပြင်းသောမြေနေရာ။ [نَزَلَ بِأَرْضٍ جَهَادٍ] မာပြင်းသောမြေ၌ စခန်းချနားခိုသည်။ ❹ ဆူးဖြူပင်တစ်မျိုး၏အသီး။ (ج) [جُهُدٌ]။

[اَلْجِهَادُ] အစ္စလာမ်သာသနာနှင့် မွတ်စ်လင်မ်တို့၏အသက်၊ အိုးအိမ်၊ စည်းစိမ်ကို ကာကွယ်ရန်နှင့် လုံခြုံမှုရှိစေရန် တိုက်ခိုက်ခြင်း။ စစ်ဆင်နွှဲခြင်း။

[اَلْجُهَادَى] အဆုံးအစွန်။ ဂိတ်ဆုံး။ အတတ်နိုင်ဆုံး။ [جُهَادَاكَ اَنْ تَفْعَلَ كَذَا] မင်းဒီလိုလုပ်တာ မင်းအတွက် ဂိတ်ဆုံးဘဲ။

[اَلْجَهْدُ] ❶ ဒုက္ခ၊ အခက်အခဲ။ ❷ အဆုံး၊ ပန်းတိုင်။ ❸ အင်အား၊ အစွမ်းအစ။ [جَهْدٌ جَاهِدٌ] အင်တိုက်အားတိုက်၊ အစွမ်းကုန်။ [جَهْدُ الْبَلَاءِ] အလွန်ဆင်းရဲကြပ်တည်းမှု။

[اَلْجُهْدُ] ❶ အလွန်နည်းပါးသောပစ္စည်း။ ဘဝရပ်တည်မှုအတွက် လုံလောက်ရုံ အလွန်နည်းပါးသော စားနပ်ရိက္ခာ။ ❷ အင်အား၊ အစွမ်းအစ။ ﴿اَلَّذِيْنَ لَا يَجِدُوْنَ اِلَّا جُهْدَهُمْ﴾ မိမိတို့၏အားအင်စိုက်ထုတ်မှုမှတစ်ပါး အခြားမည်သည့်အရာကိုမျှ မရရှိကြသောသူတို့အားလည်းကောင်း။

[اَلْجَهْدَانُ] ဒုက္ခပေါင်းစုံနှင့်ကြုံတွေ့ရင်ဆိုင်နေရသူ။

[اَلْجُهَيْدَى] ❶ ဒုက္ခ၊ အခက်အခဲ။ ❷ အဆုံး၊ ပန်းတိုင်။ ❸ အင်အား၊ အစွမ်းအစ။

[اَلْمُجْتَهِدُ] ကုရ်အာန်ကျမ်းတော်မြတ်နှင့် တမန်တော်မြတ်၏ဩဝါဒတော်များအား ကိုးကားလျက် မှန်ကန်စနစ်ကျသောဥပဒေသများဖြင့် အစ္စလာမ့်ဓမ္မသတ်ဆိုင်ရာကိစ္စများကို စဉ်းစားတွေးခေါ်အဖြေထုတ်သောသူ။

[اَلْمَجْهُوْدُ] အင်အား၊ အစွမ်းအစ။

✪ [جَهَرَ -] ❶ [- الشَّيْءَ] ထင်ရှားသည်။ ပေါ်လွင်သည်။ လူသိရှင်ကြားဖြစ်သည်။ ထင်သာမြင်သာသည်။ ❷ [- بِالْكَلَامِ] (စကားကို) ကျယ်လောင်စွာပြောသည်။ ကြားသိစေသည်။ ﴿وَاِنْ تَجْهَرْ بِالْقَوْلِ فَاِنَّهٗ يَعْلَمُ السِّرَّ وَاَخْفٰى﴾ အကယ်၍ အသင်သည် အသံကျယ်လောင်စွာ စကားပြောဆိုသောအခါ အလ္လာဟ်အရှင်မြတ်သည် သင်၏စိတ်ထဲ၌ လျှို့ဝှက်ပြောဆိုသောစကားကိုလည်းကောင်း၊ ထိုထက်ပိုမိုထိန်ဝှက်ထားသောစကားကိုလည်းကောင်း သိရှိတော်မူသည်။ ❸ [- الشَّيْءَ] အတားအဆီးမရှိဘဲ ကွက်ကွက်ကွင်းကွင်းမြင်ရသည်။ ❹ မျက်မှန်းဖြင့် တိုင်းတာသတ်မှတ်သည်။ ❺ [- الشَّمْسُ فُلَانًا] (နေရောင်) သူ့မျက်စိကို ကျိန်းစပ်စေပြီး အမြင်မှုံဝါးစေသည်။ ❻ [- الْاَرْضَ] ရမ်းသမ်းသွားလာသည်။ ❼ [- الْجَيْشَ] မျက်စိအမြင်၌ စစ်သည်အင်အားအမြောက်အများဖြစ်သည်။ ❽ [- الشَّيْءُ فُلَانًا] အမြင်၌ ကြီးကျယ်၊ လှပ၊ ခန့်ငြားသည်။ ကြည့်ညိုလေးစားဖွယ်ကောင်းသည်။ ﴿لَمْ يَكُنْ قَصِيْرًا وَلَا طَوِيْلًا وَهُوَ اِلَى الطُّوْلِ اَقْرَبُ مَنْ رَاٰهُ جَهَرَهٗ﴾

တမန်တော်မြတ်(ﷺ)သည် အရပ်ပုလွန်းသူ မဟုတ်၊ အရပ်ရှည်လွန်းသူလည်းမဟုတ်၊ အတန်ငယ်အရပ်ရှည်သူဖြစ်တော်မူပြီး ကိုယ်တော်အား အလွန်လှပခန့်ငြား၍ကြည်ညို့လေးဖွယ်မြင်တွေ့ရ၏။ ၉ [الْبِئْرَ-](ရေတွင်းကို)ရွှံ့နွံများ ဆယ်ထုတ်သည်။ ရေတွင်းဖေါ်သည်။ ရေတွင်းရှိရေများကို ငင်ထုတ်သည်။ ၁၀ ရေတွင်းကို ရေထွက်သည်အထိ တူးသည်။ ၁၁ [اللَّبَنَ-](နို့ကို)မွှေနှောက်၍ ထောပတ်ထုတ်ယူသည်။ ၁၂ [الْقَوْمَ-](ငှင်းတို့ကို)အိပ်ချင်မူးတူးပုံစံဖြင့် နံနက်ခင်း၌ နိုးထစေသည်။

[جَهْر] ၁ ထင်ရှားခြင်း။ ပေါ်လွင်ခြင်း။ လူသိရှင်ကြားဖြစ်ခြင်း။ ထင်သာမြင်သာခြင်း။ ၂ (စကားကို)ကျယ်လောင်စွာပြောခြင်း။ကြားသိစေခြင်း။ ၃ အတားအဆီးမရှိဘဲ ကွက်ကွက်ကွင်းကွင်းမြင်ရခြင်း။ ၄ မျက်မှန်းဖြင့် တိုင်းတာသတ်မှတ်ခြင်း။ ၅ (နေရောင်)သည် မျက်စိကို ကျိန်းစပ်စေပြီး အမြင်မှုံဝါးစေခြင်း။ ၆ ရမ်းသမ်းသွားလာခြင်း။ ၇ မျက်စိအမြင်၌ စစ်သည်အင်အား အမြောက်အများဖြစ်ခြင်း။ ၈ အမြင်၌ ကြီးကျယ်၊ လှပ၊ ခန့်ငြားခြင်း။ ကြည်ညို့လေးစားဖွယ်ကောင်းခြင်း။ ၉ (ရေတွင်းကို)ရွှံ့နွံများ ဆယ်ထုတ်ခြင်း။ ရေတွင်းဖေါ်ခြင်း။ ရေတွင်းရှိရေများကို ငင်ထုတ်ခြင်း။ ၁၀ ရေတွင်းကို ရေထွက်သည်အထိ တူးခြင်း။ ၁၁ (နို့ကို)မွှေနှောက်၍ ထောပတ်ထုတ်ယူခြင်း။ ၁၂ (ငှင်းတို့ကို)အိပ်ချင်မူးတူးပုံစံဖြင့် နံနက်ခင်း၌ နိုးထစေခြင်း။

[جَهِرَ -] ၁ [الْإِنْسَانُ-](လူ)နေရောင်ကြောင့် မျက်စိကျိန်းစပ်သည်။ အလင်းရောင်ကို ကြည့်မိသဖြင့် မျက်စိပြာ၍ အမြင်ဝါးသည်။ ၂ [فُلاَنٌ-]မျက်စိပြူးကျယ်သည်။ မျက်ဆန်ပြူးထွက်သည်။ ၃ [تْ عَيْنُهُ-](မျက်စိ)စွေသည်။ ပယ်သည်။ ၄ [الْفَرَسُ-](မြင်း)၏ ထိပ်ကွက် မျက်နှာတစ်ခုလုံးကို လွှမ်းခြုံထားသည်။ ၅ [فُلاَنٌ-]ကြည့်မြင်ရသူ၏အမြင်၌ ခန္ဓာကိုယ်အချိုးအစားပြည့်စုံ၍ ရုပ်သွင်မှုရာခန့်ငြားလှပသည်။

[جَهَر] ၁ (လူ)နေရောင်ကြောင့် မျက်စိကျိန်းစပ်ခြင်း။ အလင်းရောင်ကို ကြည့်မိသဖြင့် မျက်စိပြာ၍ အမြင်ဝါးခြင်း။ ၂ မျက်စိပြူးကျယ်ခြင်း။ မျက်ဆန် ပြူးထွက်ခြင်း။ ၃ (မျက်စိ)စွေခြင်း။ ပယ်ခြင်း။ ၄ (မြင်း)၏ ထိပ်ကွက် မျက်နှာတစ်ခုလုံးကို လွှမ်းခြုံထားခြင်း။

[جُهُورَة - جَهَارَة] ကြည့်မြင်ရသူ၏အမြင်၌ ခန္ဓာကိုယ်အချိုးအစားပြည့်စုံ၍ ရုပ်သွင်မှုယာခန့်ငြားလှပ

[جَهِير] ၁ နေရောင်ကြောင့် မျက်စိကျိန်းစပ်သော(သူ)။ အလင်းရောင်ကို ကြည့်မိသဖြင့် မျက်စိပြာ၍ အမြင်ဝါးသော(သူ)။ ၂ မျက်စိပြူးကျယ်သော(သူ)။ မျက်ဆန် ပြူးထွက်သော(သူ)။ ၃ (မျက်စိ)စွေသော(သူ)။ မျက်စိပယ်သော(သူ)။ ၄ ထိပ်ကွက် မျက်နှာတစ်ခုလုံးကို လွှမ်းခြုံထားသော(မြင်း)။ ၅ ကြည့်မြင်ရသူ၏အမြင်၌ ခန္ဓာကိုယ်အချိုးအစားပြည့်စုံ၍ ရုပ်သွင်မှုရာခန့်ငြားလှပသော

[اَلْجَهْرُ] ❶ ခေတ်ကာလ၏အချိန်တစ်ချိန်။ ❷ နှစ်အပြည့်၊ တစ်နှစ်လုံး။ ❸ အထင်အရှား၊ မျက်ဝါးထင်ထင်။ ❹ ကုန်းမြေ။

[اَلْجُهْرُ] [جُهْرُ الرَّجُلِ](လူတစ်ယောက်၏)အသွင်အပြင်၊ ပုံပန်းသဏ္ဍာန်။ [مَا اَحْسَنَ جُهْرَهُ]သူ့ရဲ့ပုံပန်းသဏ္ဍာန် သိပ်လှတာပဲ။

[اَلْجَهْرَاءُ] ❶ ပြန့်ပြူးသောမြေပြင်၊ ကွင်းပြင်။ ❷ ပြန့်ပြူးသော ကုန်းမြင့်။ ❸ အုပ်စု။ ❹ မြင့်မြတ်ထင်ရှားသော ပုဂ္ဂိုလ်များ။

[اَلْجَهْرَةُ] အထင်အရှားဖြစ်သော(အရာ)။ မျက်ဝါးထင်ထင် မြင်တွေ့ရသော(အရာ)။ ﴿لَنْ نُّؤْمِنَ لَكَ حَتّٰى نَرَى اللّٰهَ جَهْرَةً﴾ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား မျက်ဝါးထင်ထင်မမြင်ရမချင်း အသင့်ကို ယုံကြည်လက်ခံကြမည်မဟုတ်။

[اَلْجَهْوَرُ] အတင့်ရဲသော၊ လက်ရဲဇက်ရဲဖြစ်သော(သူ)။

[اَلْجَهِيْرُ] ❶ လှပသော(အရာ)။[وَجْهٌ جَهِيْرٌ] လှပသောမျက်နှာ။ ❷ ရေမရောသောနို့။ (ج) [جُهَرَاءُ]။

[اَلْجَهِيْرَةُ] ထင်ရှားသည့် သွင်ပြင်လက္ခဏာ။ (ج) [جَهَائِرُ]။

[اَلْجَوْهَرُ] ကြည့်[جوهر]။

[اَلْمِجْهَارُ] ❶ စကားကို ကျယ်လောင်စွာ ပြောဆိုတတ်သူ။(ج) [مَجَاهِيْرُ]။ ❷ အသံချဲ့စက်။ မိုက်ကရိုဖုန်း။

[اَلْمِجْهَرُ] မိုက်ကရိုစကုတ်၊ မှန်ဘီလူး။(ج) [مَجَاهِرُ]။

(သူ)။

[اَجْهَرَ] ❶ ထင်ရှားပေါ်လွင်စေသည်။ကြေငြာသည်။ ❷ [ـبِالْكَلَامِ](စကားကို)ကျယ်လောင်စွာ ပြောဆိုသည်။ ❸ [ـفُلَانٌ]အသံကျယ်သူဟု သမုတ်ခံရသည်။ ❹ လှပခန့်ငြားသော သားများကို ခေါ်ဆောင်လာသည်။

[جَاهَرَ] ❶ [ـبِالْعَدَاوَةِ]ရန်ပြုသည်။ စတင်ရန်လုပ်သည်။ ❷ [ـبِالْاَمْرِ](ကိစ္စတစ်စုံတစ်ရာကို)လူသိရှင်ကြားဖြစ်စေသည်။ ❸ [ـفُلَانًا]အနိုင်ယူသည်။

[تَجَاهَرَ] ❶ မျက်စိကျိန်းစပ်၍ အမြင်မကြည်လင်သည့်အမူအရာကိုပြသည်။ ❷ [ـبِالْاَمْرِ]ပေါ်လွင်ထင်ရှားစေသည်။

[اِجْتَهَرَ] ❶ [ـالشَّيْءَ]ကွက်ကွက်ကွင်းကွင်းမြင်သည်။ ❷ [ـالْجَيْشَ]မက်စိအမြင်၌ စစ်သည်အင်အားအမြောက်အမြား မြင်တွေ့ရသည်။ ❸ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)လှပခန့်ငြား၍ကြည်ညိုဖွယ် တွေ့မြင်ရသည်။ ❹ [ـالشَّيْءَ]အမြင်၌ လှပသည်။ ရှုချင်စဖွယ်ဖြစ်သည်။ ❺ [ـالْبِئْرَ](ရေတွင်းကို)ရွှံ့နွံများမှ သန့်ရှင်းအောင်လုပ်သည်။ ရေတွင်းဖော်သည်။ ❻ (ရေတွင်းမှ)ရေငင်ထုတ်သည်။ ရေတွင်းဆည်သည်။

[اَلْجِهَارُ] ကွက်ကွက်ကွင်းမြင်ရသော(အရာ)။ မျက်မြင်ထင်ရှားဖြစ်သော(အရာ)။ [لَقِيْتُهُ نَهَارًا جِهَارًا]ကျွန်တော် သူ့ကို နေ့ခင်းကြောင်တောင် မျက်ဝါးထင်ထင် မြင်တွေ့ခဲ့ရတယ်။

✿ [جَهَزَ -] [ــعَلَى الْجَرِيْحِ](ဒဏ်ရာရထား သူကို)အသေသတ်သည်။ မသေမရှင်ဖြစ် နေသူကို လုံးဝသေသွားအောင် သတ်သည်။

[جَهْزٌ] (ဒဏ်ရာရထားသူကို)အသေသတ် ခြင်း။ မသေမရှင်ဖြစ်နေသူကို လုံးဝသေသွား အောင် သတ်ခြင်း။

[اَجْهَزَ] [ــعَلَى الْجَرِيْحِ](ဒဏ်ရာရထား သူကို)အသေသတ်သည်။ မသေမရှင်ဖြစ် နေသူကို လုံးဝသေသွားအောင် သတ်သည်။

﴿اِنَّهُ اَتَى اِلَى اَبِى جَهْلٍ وَهُوَ صَرِيْعٌ فَاَجْهَزَ عَلَيْهِ﴾ သူသည် ဒဏ်ရာဖြင့် လဲနေသော အဘူဂျ ဟလ်ထံရောက်ရှိလာခဲ့ပြီး အသေသတ်လိုက် သည်။

[جَهَّزَ] [ــهُ](သူ့အတွက်)ဝန်စည်၊ စလွယ် အသုံးအဆောင်ပစ္စည်းများကို အသင့်ပြင် ဆင်ထားသည်။ ﴿فَلَمَّا جَهَّزَهُمْ بِجَهَازِهِمْ﴾ သူသည် ၎င်းတို့အဖို့ အသုံးအဆောင်ပစ္စည်း များကို စီမံဆောင်ရွက်ပေးပြီးသောအခါ။

[تَجَهَّزَ] [ــلِلْاَمْرِ](တစ်စုံတစ်ရာကိစ္စအ တွက်)အသင့်ပြင်ထားသည်။ အသင့်စီမံထား သည်။

[اَلْجَهَازُ] အသင့်စီမံထားသော(အရာ)။ အ သင့်ပြင်ဆင်ထားသော ဝန်စည်စလွယ်၊ အ သုံးအဆောင်ပစ္စည်း။

[اَلْجِهَازُ] ❶ ကိရိယာ၊ တန်ဆာပလာ၊ အ သုံးအဆောင်ပစ္စည်း။[جِهَازُ الْعَرُوْسِ]သတို့ သမီးအသုံးအဆောင်ပစ္စည်း။[جِهَازُ الْبَيْتِ] အိမ်အသုံးအဆောင်ပစ္စည်း။[جِهَازُ الْمُسَافِرِ] ခရီးအသုံးအဆောင်ပစ္စည်း။ ❷ အင်္ဂါအဖွဲ့အ စည်း။[جِهَازُ التَّنَفُّسِ]အသက်ရှူအင်္ဂါအဖွဲ့အ စည်း။[جِهَازُ الْهَضْمِ]အစာချေအင်္ဂါအဖွဲ့အ စည်း။[اَلْجِهَازُ الْعَصَبِىُّ]အာရုံခံအင်္ဂါအဖွဲ့အ စည်း။ ❸ စက်ကိရိယာ။[جِهَازُ الْاِسْتِقْبَالِ] အသံဖမ်းကိရိယာ။[جِهَازُ الْاِرْسَالِ]အသံလွှင့် ကိရိယာ။[اَلْجِهَازُ الْعَصَبِىُّ]အာရုံခံအင်္ဂါ အဖွဲ့အစည်း။

[اَلْجَهِيْزُ] မြန်ဆန်သွက်လက်သော(သူ၊ အ ရာ)။[صَوْتٌ جَهِيْزٌ]အလွန်မြန်သောအသံ။ [فَرَسٌ جَهِيْزٌ]ပေါ့ပါးသွက်လက်သောမြင်း။ [فَرَسٌ جَهِيْزُ الشَّدِّ]အလွန် အပြေးမြန်သော မြင်း။

[اَلْجَهِيْزَةُ] ❶ ဝံပုလွေအမ။ ❷ ဝက်ဝံအမ။ ❸ ဝက်ဝံပေါက်စ။ ❹ ပွဲဖျက်သောမိန်းမ။ (အရေးပါသောအမှုကိစ္စတစ်စုံတစ်ရာကို ပြု လုပ်စီမံနေမှုကို ပျက်စီးစေသောမိန်းမ)။

✿ [جَهَشَ -] ❶ [ــنَفْسُهُ]စိတ်လှုပ်ရှား၍ ငိုမဲ့မဲ့ ဖြစ်သည်။ ❷ [ــالصَّبِىُّ اِلَى اُمِّهِ](ကလေး ငယ် မိမိ၏မိခင်ထံ၌)ငိုသံဖြင့် ချွဲနွဲ့သည်။ ❸ [ــفُلَانٌ اِلَى فُلَانٍ]ပူဆာသည်။ နားပူနား ဆာလုပ်သည်။

﴿اَنَّ النَّبِىَّ بِالْحُدَيْبِيَّةِ فَاَصَابَ اَصْحَابَهُ عَطَشٌ قَالُوْا فَجَهَشْنَا اِلَى رَسُوْلِ اللهِ﴾

တမန်တော်မြတ်(ﷺ)သည် ဟုဒိုင်ဗီယဟ် အရပ်၌ ရှိနေတော်မူစဉ် ကိုယ်တော်မြတ်၏ သာဝကများသည် ရေငတ်မွတ်မှုကို ခံစား ကြရ၏။ သို့ဖြင့်ကျွန်ုပ်တို့သည် တမန်တော် မြတ်ထံ ရေရရှိရန် ပူဆာခဲ့ကြသည်။ ❹ [ــلِلْبُكَاءِ]ငိုတော့မလိုဖြစ်သည်။ ငိုချင်သည်။

❺ [ـاِلَى الْقَوْمِ](၄င်းတို့ထံ)ရောက်ရှိလာသည်။ ❻ [ـفُلَانٌ مِنْ مَكَانٍ اِلَى مَكَانٍ]တစ်နေရာမှ တစ်နေရာသို့ အမြန်ထွက်ခွါသွားသည်။ ❼ [ـمِنَ الشَّيْءِ]ထွက်ပြေးသည်။ လွတ်ရာကျွတ်ရာသို့ သွားသည်။ ❽ [ـاِلَيْهِ نَفْسُهٗ]ပြို့အန်ချင်စိတ်ပေါက်သည်။ အန်ထွက်လုမတတ်ဖြစ်သည်။

[جَهْشٌ ـ جَهَشَانٌ] ❶ စိတ်လှုပ်ရှား၍ ငိုမဲ့မဲ့ဖြစ်ခြင်း။ ❷ (ကလေးငယ် မိမိ၏မိခင်ထံ၌)ငိုသံဖြင့် ချွဲနွဲ့ခြင်း။ ❸ ပူဆာခြင်း။ နားပူနားဆာလုပ်ခြင်း။ ❹ ငိုတော့မလိုဖြစ်ခြင်း။ ငိုချင်ခြင်း။ ❺ ရောက်ရှိလာခြင်း။ ❻ တစ်နေရာမှ တစ်နေရာသို့ အမြန်ထွက်ခွါသွားခြင်း။ ❼ ထွက်ပြေးခြင်း။ လွတ်ရာကျွတ်ရာသို့ သွားခြင်း။ ❽ ပြို့အန်ချင်စိတ်ပေါက်ခြင်း။ အန်ထွက်လုမတတ်ဖြစ်ခြင်း။

[جَهُوْشٌ] ❶ စိတ်လှုပ်ရှား၍ ငိုမဲ့မဲ့ဖြစ်သော(သူ)။ ❷ ငိုသံဖြင့် ချွဲနွဲ့သော(ကလေးငယ်)။ ❸ ပူဆာသော(သူ)။ နားပူနားဆာလုပ်သော(သူ)။ ❹ ငိုတော့မလိုဖြစ်သော(သူ)။ ငိုချင်သော(သူ)။ ❺ ရောက်ရှိလာသော(သူ)။ ❻ တစ်နေရာမှ တစ်နေရာသို့ အမြန်ထွက်ခွါသွားသော(သူ)။ ❼ ထွက်ပြေးသော(သူ)။ လွတ်ရာကျွတ်ရာသို့ သွားသော(သူ)။ ❽ ပြို့အန်ချင်စိတ်ပေါက်သော(သူ)။ အန်ထွက်လုမတတ်ဖြစ်သော(သူ)။

[جَهِشَ ـ] [ـالصَّبِيُّ اِلَى اُمِّهٖ](ကလေးငယ် မိမိ၏မိခင်ထံ၌)ငိုသံဖြင့် ချွဲနွဲ့သည်။

[جَهْشٌ جَهَشَانٌ جُهُوْشٌ](ကလေးငယ် မိမိ၏မိခင်ထံ၌)ငိုသံဖြင့် ချွဲနွဲ့ခြင်း။

[اَجْهَشَ] ❶ [ـبِالْبُكَاءِ]ငိုမဲ့မဲ့ဖြစ်သည်။ ငိုရန်အသင့်ဖြစ်သည်။ ❷ [ـاِلَيْهِ نَفْسُهٗ]ပြို့အန်ချင်သည်။ ❸ [ـفُلَانًا عَلَى الْاَمْرِ]လောဆော်သည်။ အမြန်လုပ်နိုင်းသည်။

[اَلْجَهْشَةُ] ❶ လူအုပ်စု။ ❷ မျက်ရည်စ။

✿ [جَهَضَ ـ] [ـفُلَانًا]အောင်နိုင်သည်။ လွှမ်းမိုးသည်။ အနိုင်ရသည်။

[جَهْضٌ] အောင်နိုင်ခြင်း။ ၊ လွှမ်းမိုးခြင်း။ အနိုင်ရသည်။

[اَجْهَضَ] ❶ [ـتِ الْحَامِلُ](ကိုယ်ဝန်ဆောင်အမျိုးသမီး)သားလျှောသည်။ ကိုယ်ဝန်ပျက်ကျသည်။ ❷ [ـفُلَانًا عَنْ شَيْءٍ](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ခု)ဝေးကွာစေသည်။ မပေးဘဲထားသည်။ ❸ [ـعَنْ مَكَانِهٖ](နေရာမှ)ဖယ်ရှားသည်။ နေရာရွှေ့နိုင်းသည်။ ❹ [ـفُلَانًا عَنِ الْاَمْرِ]လောဆော်သည်။ အမြန်လုပ်နိုင်းသည်။

[جَاهَضَ] [ـهٗ]တားဆီးထားသည်။ ကာဆီးထားသည်။

﴿قَصَدْتُ يَوْمَ اُحُدٍ رَجُلًا فَجَاهَضَنِيْ عَنْهُ اَبُوْ سُفْيَانَ﴾ အုဟုဒ်တိုက်ပွဲဖြစ်ပွားသောနေ့၌ ကျွန်ုပ်သည် လူတစ်ယောက်ထံရည်ရွယ်ဦးတည်၍ သွားလေရာ အဘူစုဖ်ယာန်က ကာဆီးထားလေသည်။

[اَلْاِجْهَاضُ] ကိုယ်ဝန် လေးလမပြည့်မီ ပျက်ကျခြင်း။ သားလျှောခြင်း။

[اَلْجَاهِضُ] ❶ (ဘို့ကဲ့သို့)မြင့်မား၊ မို့မောက်သောအပိုင်း။ ❷ စိတ်ဓါတ်ကြံ့ခိုင်သူ။

[اَلْجَاهِضَةُ] တစ်နှစ်သား မြည်းပေါက်စ(အမ)။

(ج) [جَوَاهِض]။

[اَلْجَهَاضُ] ဆူးဖြူပင်တစ်မျိုး၏အသီး။

[اَلْجَهَاضَةُ] စိတ်ဓါတ်ကြံ့ခိုင်မှု။

[اَلْجَهْضُ] ပျက်ကျသောကလေး။

[اَلْجَهَّاضَةُ] အသက်ကြီးရင့်အိုမင်းသော ကုလားအုတ်မ။

[اَلْجُهُوضَةُ] စိတ်ဓါတ်ကြံ့ခိုင်မှု။

[اَلْجَهِيْضُ] ပျက်ကျသောကလေး။

[اَلْمِجْهَاضُ] ကိုယ်ဝန်ပျက်ကျလေ့ရှိသော (မိန်းမ၊ တိရစ္ဆာန်အမ)

✿ [تَجَهْضَمَ] ❶ ဆိုးသွမ်းမောက်မာသည်။ မာန်မာနဖြင့် အမှန်တရားမှ သွေဖည်သည်။ ❷ (တိရစ္ဆာန်အထီး)အခြားတိရစ္ဆာန်အပေါ်သို့ နောက်မှ တက်သည်။ မိတ်လိုက်သကဲ့သို့ ပြုမူသည်။

[اَلْجَهْضَمُ] ဦးခေါင်းကြီး၍ မျက်နှာဝိုင်းစက်သူ။

✿ [جَهِلَ ـَ] ❶ [ـتِ الْقِدْرُ](အိုး)ပွက်ပွက်ဆူသည်။ ❷ [ـفُلَانٌ عَلَى غَيْرِهِ](တစ်ဦးတစ်ယောက်ကို)မိုက်ရိုင်းစွာ ပြုမူဆက်ဆံသည်။ ❸ [ـالشَّيْءَ اَوْبِهِ]အသိမဲ့သည်။ အသိဉာဏ် ကင်းမဲ့သည်။ သတိတရားမဲ့သည်။ ပညာမဲ့သည်။ ❹ [ـالْحَقَّ](အမှန်တရားကို)ဖျက်ဆီးနှောင့်ယှက်သည်။

[جَهْلٌ](အိုး)ပွက်ပွက်ဆူခြင်း။

[جَهْلٌ۔ جَهَالَةٌ] ❶ (တစ်ဦးတစ်ယောက်ကို)မိုက်ရိုင်းစွာ ပြုမူဆက်ဆံခြင်း။ ❷ အသိမဲ့ခြင်း။ အသိဉာဏ် ကင်းမဲ့ခြင်း။ သတိတရားမဲ့ခြင်း။ ပညာမဲ့ခြင်း။

﴿يَاَيُّهَاالَّذِيْنَ اٰمَنُوْٓا اِنْ جَاءَكُمْ فَاسِقٌۢ بِنَبَاٍ فَتَبَيَّنُوْٓا اَنْ تُصِيْبُوْا قَوْمًاۢ بِجَهَالَةٍ﴾

အိုယုံကြည်သူအပေါင်းတို့ အကယ်၍ သူယုတ်တစ်ဦးသည် အသင်တို့ထံ တစ်စုံတစ်ရာသတင်းကို ယူဆောင်လာခဲ့ပါလျှင် အသင်တို့သည် သတိတရားမဲ့စွာဖြင့် လူမျိုးတစ်မျိုးကို ထိခိုက်နစ်နာစေခြင်းမရှိကြစေရန် ထိုသတင်းကို မှန်မမှန်စိစစ်ကြကုန်။ ❸ (အမှန်တရားကို)ဖျက်ဆီးနှောင့်ယှက်ခြင်း။

[جَاهِلٌ] ❶ ပွက်ပွက်ဆူသော(အိုး)။ ❷ (တစ်ဦးတစ်ယောက်ကို)မိုက်ရိုင်းစွာ ပြုမူဆက်ဆံသော(သူ)။

﴿اَعُوْذُ بِاللّٰهِ اَنْ اَكُوْنَ مِنَ الْجٰهِلِيْنَ﴾ကျွန်ုပ်သည် လူမိုက်များအနက်မှ တစ်ဦးအပါအဝင်ဖြစ်ရခြင်းမှ ကင်းရန် အလ္လာဟ်အရှင်မြတ်ထံတော်၌ ခိုလှုံပါ၏။ ❸ အသိမဲ့သော(သူ)။ အသိဉာဏ် ကင်းမဲ့သော(သူ)။ သတိတရားမဲ့သော(သူ)။ ပညာမဲ့သော(သူ)။ ❹ (အမှန်တရားကို)ဖျက်ဆီးနှောင့်ယှက်သော(သူ)။

(ج) [جُهَّالٌ۔ جَهَلَةٌ۔ جُهَّلٌ۔ جُهَلَاءُ]။

[جَهُوْلٌ] ❶ ပွက်ပွက်ဆူသော(အိုး)။ ❷ (တစ်ဦးတစ်ယောက်ကို)မိုက်ရိုင်းစွာ ပြုမူဆက်ဆံသော(သူ)။ ❸ အသိမဲ့သော(သူ)။ အသိဉာဏ် ကင်းမဲ့သော(သူ)။ သတိတရားမဲ့သော(သူ)။ ပညာမဲ့သော(သူ)။ ❹ (အမှန်တရားကို)ဖျက်ဆီးနှောင့်ယှက်သော(သူ)။

(ج) [جُهُلٌ]။

[مَجْهُوْلٌ] ❶ မသိရသော(အရာ)။ ❷ နားမ

လည်နိုင်သော(အရာ)။

[أَجْهَلَ] ❶ အသိတရား ကင်းမဲ့စေသည်။ အသိဉာဏ်ခေါင်းပါးစေသည်။ ပညာမဲ့စေသည်။ ❷ မိုက်ရိုင်းစေသည်။ ❸ အသိတရား ခေါင်းပါးသူအဖြစ် မြင်တွေ့ရသည်။ ❹ လူမိုက်တစ်ဦးအဖြစ် တွေ့မြင်ရသည်။

[جَهَّلَ] ❶ အသိတရားကင်းမဲ့သူ ဟုစွပ်စွဲသည်။ အသိဉာဏ်ခေါင်းပါးသူဟု စွပ်စွဲသည်။ ပညာမဲ့သူဟုစွပ်စွဲသည်။ ❷ မိုက်ရိုင်းသူဟုစွပ်စွဲသည်။ ❸ အသိတရား ခေါင်းပါးသူဟုစွပ်စွဲသည်။ ❹ လူမိုက်တစ်ဦးဟုစွပ်စွဲသည်။ ❺ ပညာမဲ့ရာရောက်စေသည်။

[جَهَّلَهُ الْحِرْصُ]လောဘက သူ့ကို ပညာမဲ့အဖြစ်ကို ရောက်ရှိသွားစေသည်။

[جَاهَلَ] မိုက်မိုက်ကန်းကန်း ဆက်ဆံသည်။ လူမိုက်တစ်ဦးပမာ ပြုမူဆက်ဆံသည်။

[اِجْتَهَلَ] [ـهُ الْغَضَبُ](ဒေါသက သူ့ကို)လူမိုက်တစ်ဦးဖြစ်စေသည်။ ပညာမဲ့ဖြစ်စေသည်။[اِجْتَهَلَتْهُ الْحَمِيَّةُ]မကောင်းသည့် အစွဲအလန်းက သူ့ကို မိုက်ရိုင်းစေသည်။

[تَجَاهَلَ] မသိကျိုးကျွံပြုလျက်နေသည်။ သိလျက်နှင့် မသိချင်ဟန်ဆောင်သည်။ မသိနားမလည်သလို နေသည်။

[اِسْتَجْهَلَ] ❶ [ـهُ](သူ့ကို)လူမိုက်တစ်ဦးအဖြစ် သတ်မှတ်သည်။ ပညာမဲ့သူအဖြစ် မှတ်ယူသည်။ ❷ [ـهُ](သူ့ကို)လူမိုက်တစ်ဦးအဖြစ် မြင်တွေ့ရသည်။ ပညာမဲ့သူအဖြစ် မြင်တွေ့ရသည်။ ❸ [ـهُ](သူ့ကို)လူမိုက်တစ်ဦး ဖြစ်စေသည်။ ပညာမဲ့သူ ဖြစ်စေသည်။ ﴿مَنِ اسْتَجْهَلَ مُؤْمِنًا فَعَلَيْهِ إِثْمُهُ﴾မည်သူမဆို ယုံကြည်သူတစ်ဦးကို ပညာမတတ်အောင်လုပ်ထားလျှင် ထိုသူပြုသမျှမကောင်းမှု၏ဒဏ်ကို ထိုသူခံရမည်။ ❹ ပေါ့ပေါ့တန်တန်သဘောထားသည်။ အလေးမမူ၊ ကရုမစိုက်ဘဲနေသည်။ ❺ [ـالرِّيحُ الْغُصْنَ](လေက သစ်ကိုင်းကို)ယိမ်းထိုးလှုပ်ရှားစေသည်။

[اَلْجَاهِلُ] ခြင်္သေ့။

[اَلْجَاهِلِيَّةُ] ❶ တမန်တော်မြတ်﴿ﷺ﴾ မုဟမ္မဒ် အစ္စလာမ့်တရားတော်ကို တင်ပြဟောကြားခြင်းမပြုမီ ယခင်ကရှိခဲ့သော မိုက်ရိုင်းဆိုးသွမ်းသည့် အရပ်တို့၏အခြေအနေ၊ အမိုက်ခေတ်။ ယင်းအမိုက်ခေတ်၏အစဉ်အလာဆိုး၊ ဓလေ့ဆိုး။

﴿وَلَا تَبَرَّجْنَ تَبَرُّجَ الْجَاهِلِيَّةِ الْأُولَى﴾ထို့ပြင် အသင်မတို့သည် အမိုက်ခေတ်၌ မိမိတို့ကိုယ်ကို ပြသသကဲ့သို့ မိမိတို့ကိုယ်ကို မပြသကြကုန်နှင့်။ ❷ အစ္စလာမ့်တရားတော်နှင့် မညီညွတ်သောအယူဝါဒ။ ❸ တမန်တော်တစ်ပါးနှင့်တစ်ပါးအကြားရှိ ခေတ်ကာလ။

[اَلْجَهْلُ] လွဲမှားစွာခံယူ၊ ယုံကြည်၊ ကျင့်သုံးမှု။[اَلْجَهْلُ الْبَسِيطُ]ရိုးရိုးသားသား မသိနားမလည်မှု။ [اَلْجَهْلُ الْمُرَكَّبُ]အရှိတရားနှင့် ဆန့်ကျင်လျက်လွဲမှားစွာ ခံယူ၊ ယုံကြည်၊ ကျင့်သုံးမှု။ မရိုးမသား မသိနားမလည်မှု။ (ج) [مَجَاهِلُ]။

[اَلْجَيْهَلُ] ❶ မီးခဲကို ထိုးဆွရသောသစ်ချောင်း။ ❷ ကျောက်တုံးကြီး။

[اَلْجَيْهَلَةُ] မီးခဲကို ထိုးဆွရသောသစ်ချောင်း။

[اَلْجَيْهَلَةُ] မီးခဲကို ထိုးဆွရသောသစ်ချောင်း။
[اَلْمِجْهَلُ] မီးခဲကို ထိုးဆွရသောသစ်ချောင်း။
[اَلْمِجْهَلَةُ] မီးခဲကို ထိုးဆွရသောသစ်ချောင်း။
[اَلْمِجْهَالُ] ပေါ့ပါးစွာ သွားလာသောကုလား အုတ်။
[اَلْمَجْهَلُ] လမ်းညွှန်၊ အမှတ်အသားမရှိသော ကွင်းပြင်။ မျက်စိလည်လမ်းမှားစေတတ်သော ကွင်းပြင်။(ဇ) [مَجَاهِلُ]။
[اَلْمِجْهَلُ] မီးခဲကို ထိုးဆွရသောသစ်ချောင်း။
[اَلْمَجْهَلَةُ] မသိမိုက်မဲမှုကို ဖြစ်စေသောအကြောင်း။[اَلْوَلَدُمَبْخَلَةٌمَجْبَنَةٌمَجْهَلَةٌ]ကလေးသည် တွန့်တိုမှုကိုဖြစ်စေသောအကြောင်း၊ သတ္တိကြောင်မှုကို ဖြစ်စေသောအကြောင်း၊ မသိမိုက်မဲမှုကို ဖြစ်စေသောအကြောင်းဖြစ်သည်။
[اَلْمِجْهَلَةُ] မီးခဲကို ထိုးဆွရသောသစ်ချောင်း။
[اَلْمَجْهُوْلُ] ပြုသူကို မသိရသော၊ ပြုသူကို ဖေါ်ပြထားခြင်းမရှိသောကြိယာပုံစံ။ သာဓက-[ضُرِبَ]သူတစ်ယောက် အရိုက်ခံခဲ့ရသည်။ ဤကြိယာပုံစံ၌ အရိုက်ခံရသော'သူ'ကိုသာ သိရပြီး ရိုက်သူကို ဖေါ်ပြထားခြင်းမရှိပေ။
[اَلْمَجْهُوْلَةُ] ❶ ဇီးကပ်ခြင်းမရှိသော ကုလားအုတ်မ။ ❷ လမ်းညွှန်၊ အမှတ်အသားမရှိသော ကွင်းပြင်။ မျက်စိလည်လမ်းမှားစေတတ်သော ကွင်းပြင်။
✿ [جَهَمَ ـُ] ❶ [ـهُ](သူ့ကို)ဆူပုပ်ထားသောမျက်နှာဖြင့် လက်ခံတွေ့ဆုံသည်။ သုန်မှုန်သော မျက်နှာဖြင့် တွေ့ဆုံသည်။ ❷ ကြမ်းတမ်းသောစကားဖြင့် ပြောဆိုဆက်ဆံသည်။
[جَهَمَنِي بِمَا اَكْرَهُ]ကျွန်တော် မကြိုက်သောပုံစံဖြင့် ကျွန်တော့်ကို ကြမ်းကြမ်းတမ်းတမ်းဆက်ဆံသည်။
[جَهْمٌ] ❶ (သူ့ကို)စူပုပ်ထားသော မျက်နှာဖြင့် လက်ခံတွေ့ဆုံခြင်း။ သုန်မှုန်သော မျက်နှာဖြင့် တွေ့ဆုံခြင်း။ ❷ ကြမ်းတမ်းသောစကားဖြင့် ပြောဆိုဆက်ဆံခြင်း။
[جَهُمَ ـُ] မျက်နှာစူပုပ်ထားသည်။ မျက်မှောင်ကြုတ်သည်။
[جَهَامَةٌ ـ جُهُوْمَةٌ]မျက်နှာစူပုပ်ထားခြင်း။ မျက်မှောင်ကြုတ်ခြင်း။
[جَهْمٌ ـ جَهِيْمٌ] မျက်နှာစူပုပ်ထားသော(သူ)။ မျက်မှောင်ကြုတ်သော(သူ)။
[اَجْهَمَ] [ـتِ السَّمَاءُ](ကောင်းကင်၌)မိုးမရွာသောတိမ်တိုက်များ ဖြစ်ထွန်းသည်။
[اِجْتَهَمَ] ❶ ညဉ့်၏နောက်ဆုံးပိုင်း မှောင်ချိန်ရောက်ရှိသည်။ ❷ ညဉ့်၏နောက်ဆုံးပိုင်းမှောင်ချိန်၌ ခရီးသွားသည်။
[تَجَهَّمَ] ❶ [ـبِهِ اَوْ لَهُ](သူ့ကို)စူပုပ်ထားသောမျက်နှာဖြင့် လက်ခံတွေ့ဆုံသည်။ သုန်မှုန်သောမျက်နှာဖြင့် တွေ့ဆုံသည်။
﴿اِلَى مَنْ تَكِلُنِي اِلَى عَدُوٍّ يَتَجَهَّمُنِي﴾ကျွန်ုပ်အားမည်သူထံ လွှဲအပ်မည်နည်း။ ကျွန်ုပ်အား စူပုပ်ထားသောမျက်နှာဖြင့် ကြည့်မည့်သူထံ လွှဲအပ်မည်လော။ ❷ [ـالْاَمَلُ فُلَانًا](မျှော်လင့်ထားသောအရာ)လွဲချော်သည်။ မျှော်လင့်ထားသည်နှင့် တခြားစီဖြစ်လာသည်။
[اَلْجَهَامُ] မိုးရွာသွန်းခြင်းမရှိသောမိုးတိမ်။

ကျိုးမရှိ၊ အသုံးမဝင်တဲ့ ကိစ္စတစ်ခု ရောက်ရှိလာတယ်။

[اَلْجَهْمَةُ] အိုးကြီး။

[اَلْجُهْمَةُ] ညဉ့်၏နောက်ပိုင်းရှိအမှောင်ထု။

[اَلْجَهْمِيَّةُ] ဂျဟ်မုဗ်နုဆွဖ်ဝါန်၏ နောက်လိုက်ခါရိဂျီအုပ်စုတစ်စု။

[اَلْجَهْوَمُ] အစွမ်းအစမရှိသူ။ ဆန်ကုန်မြေလေး။

[اَلْجَيْهُمَانُ] ကိုကုမံ၊ နံ့သာ။

❁ [جَهَنَ ـ] ချဉ်းကပ်လာသည်။ နီးကပ်လာသည်။

[جُهُوْنٌ] ချဉ်းကပ်လာသည်။ နီးကပ်လာသည်။

[اَلْجُهَانَةُ] အပျိုဖြန်း။ မြီးကောင်ပေါက်အရွယ်မိန်းမပျို။

[اَلْجَهَنُ] မျက်နှာကြမ်းသော၊ ရုပ်ကြမ်းသောသူ။

[اَلْجُهْنَةُ] ညဉ့်၏နောက်ပိုင်းရှိအမှောင်ထု။

❁ [اَلْجِهِنَّامُ] ❶ အလွန်ဇောက်နက်သော(အရာ)။ ❷ အလွန်နက်ရှိုင်းသောရေတွင်း။

[جَهَنَّمُ] ❶ သူယုတ်တို့ခံစားကြရမည့် ငရဲဘုံ၏အမည်တစ်ခု။ ❷ အလွန်နက်ရှိုင်းသောတွင်း၊ အသူတစ်ရာနက်သောချောက်။

[جَهَنَّمِيَّةٌ] ရွက်လှပန်းပင်တစ်မျိုး။

❁ [جَهِيَ ـ] ❶ [ـتِ السَّمَاءُ](ကောင်းကင်)မိုးသားကင်းစင်သည်။ ပွင့်လင်းလာသည်။ ❷ [ـالْبَيْتُ](အိမ်)ဟောင်းနွမ်းပျက်စီးသည်။ ❸ [ـفُلَانٌ]ထိပ်ပြောင်သည်။

[جَهًى] ❶ (ကောင်းကင်၌)မိုးသားကင်းစင်ခြင်း။ ပွင့်လင်းလာခြင်း။ ❷ (အိမ်)ဟောင်းနွမ်းပျက်စီးခြင်း။ ❸ ထိပ်ပြောင်ခြင်း။

[جَاهٍ - أَجْهَى] ❶ မိုးသားကင်းစင်သော (ကောင်းကင်)။ ပွင့်လင်းလာသော(ကောင်းကင်)။ ❷ ဟောင်းနွမ်းပျက်စီးသော(အိမ်)။ ❸ ထိပ်ပြောင်သော(သူ)။

[أَجْهَى] ❶ [ـتِ السَّمَاءُ](ကောင်းကင်)မိုးသားကင်းစင်သည်။ ပွင့်လင်းလာသည်။ ❷ [ـالْقَوْمُ](၎င်းတို့နေရာ၌)မိုးသားတိမ်လိပ်ကင်းရှင်းသည်။ ❸ [ـالطَّرِيْقُ](လမ်း)ထင်ရှားသည်။[أَجْهَى لَهُ الأَمْرُ]ဒီကိစ္စ သူ့အတွက်ရှင်းလင်းထင်ရှားသည်။ ❹ [ـالْخِبَاءُ](တိမ်မြှုတ်ဖုံးကွယ်နေသောအရာ)ပေါ်လွင်ထင်ရှားလာသည်။ ❺ [ـفُلَانٌ عَلَيْهِ]တွန့်တိုသည်။ ❻ [ـالْمَرْأَةُ عَلَى زَوْجِهَا](မိန်းမ မိမိ၏လင်သားအပေါ်)ဆွဲဆောင်မှု ကင်းမဲ့သည်။ ❼ [ـالطَّرِيْقَ](လမ်းကို)ထင်ရှားစေသည်။ ❽ [ـالْبَيْتَ](အိမ်ကို)ဖွင့်ပြသည်။

[جَاهَى] (တစ်ဦးကိုတစ်ဦး)မောက်မာစွာဆက်ဆံသည်။ အပြိုင်မာနထားသည်။

[جَهَّى] [ـالشَّجَّةَ](ဦးခေါင်းရှိ ကွဲရှနာကို)ကျယ်အောင်ချဲ့သည်။ အက်ကွဲသောနေရာကို ချဲ့သည်။

[اَلْجَاهِي] အထင်အရှားဖြစ်သော(အရာ)။ လူသိရှင်ကြားဖြစ်သော(အရာ)။[أَتَاهُ جَاهِيًا] သူ့ထံ အထင်အရှားရောက်ရှိလာခဲ့သည်။

[اَلْجَهْوَةُ] ထင်ရှားမြင်သာသောကုန်းမြင့်။ တောင်ပူစာ။ တောင်ဘို့။

❁ [جَابَ ـ] ❶ [ـالطَّيْرُ](ငှက်)ဆင်းသက်နား

သည်။ ထိုးဆင်းသည်။ တစ်စုံတစ်ရာကိုသုတ်ယူရန် ဆင်းသည်။ (၂) [ـفُلَانٌ الشَّيْءَ]ဖြတ်တောက်သည်။ အလည်တည့်တည့်ကို ပိုင်းဖြတ်သည်။ (၃) ပေါက်ပြဲစေသည်။ ဆုပ်ဖြဲသည်။ ခွဲဖြတ်သည်။ (၄) [ـالصَّخْرَةَ](ကျောက်ကို)ထွင်းဖေါက်သည်။

﴿وَثَمُودَ الَّذِينَ جَابُوا الصَّخْرَ بِالْوَادِ﴾ဝါဒီလ်ကျရာအရပ်၌ ကျောက်များကို ထွင်းဖေါက်ခဲ့ကြသောသမူဒ်အမျိုးသားတို့အား။ (၅) [ـالأَرْضَ] ဖြတ်သန်းသွားသည်။ (၆) [ـالْخَبَرُ الْبِلَادَ] (သတင်း)မြို့ရွာအနှံ့ ပြန့်နှံ့သွားသည်။ (၇) [ـالظَّلَامَ](အမှောင်ထု)ပျောက်ကွယ်သည်။

[جَوْبٌ] (၁) (ငှက်)ဆင်းသက်နားခိုခြင်း။ ထိုးဆင်းခြင်း။ တစ်စုံတစ်ရာကို သုတ်ယူရန် ဆင်းခြင်း။ (၂) ဖြတ်တောက်ခြင်း။ အလည်တည့်တည့်ကို ပိုင်းဖြတ်ခြင်း။ (၃) ပေါက်ပြဲစေခြင်း။ ဆုပ်ဖြဲခြင်း။ ခွဲဖြတ်ခြင်း။ (၄) (ကျောက်ကို)ထွင်းဖေါက်ခြင်း။ (၅) ဖြတ်သန်းသွားခြင်း။ (၆) (သတင်း)မြို့ရွာအနှံ့ ပြန့်နှံ့သွားခြင်း။ (၇) (အမှောင်ထု)ပျောက်ကွယ်ခြင်း။

✿ [أَجَابَ] (၁) [ـتِ الأَرْضُ](မြေနေရာ၌)အပင် ပေါက်ရောက်သည်။ (၂) [ـفُلَانٌ فُلَانًا]အဖြေပေးသည်။ (၃) [ـطَلَبَهُ](သူ၏တောင်းဆိုလျှောက်ထားချက်ကို)သဘောတူလက်ခံသည်။ ﴿فَإِنِّي قَرِيبٌ أُجِيبُ دَعْوَةَ الدَّاعِ إِذَا دَعَانِ﴾ငါအရှင်မြတ်သည် နီးကပ်စွာတည်ရှိနေတော်မူပြီး ငါအရှင်မြတ်ထံ တစ်ဦးတစ်ယောက်က တောင်းဆိုသောအခါ ထိုတောင်းဆိုသူ၏တောင်းဆိုမှုကို ငါအရှင်မြတ် လက်ခံသဘောတူတော်မူသည်။

[جَاوَبَ] တစ်ဦးကိုတစ်ဦး အပြန်အလှန်ဖြေကြားသည်။

[جَوَّبَ] (၁) [ـالْقَمَرُ](လ)ထိန်ထိန်သာသည်။ (၂) [ـعَلَى فُلَانٍ بِتُرْسٍ](သံခမောက်ဖြင့်)အကာအကွယ်လုပ်ပေးသည်။ (၃) [ـالشَّيْءَ] (တစ်စုံတစ်ရာကို)အတွင်း၌ ပေါင်းလောင်းပေါက် ဖြစ်စေသည်။ ဝမ်းဖေါက်သည်။ (၄) အလည်တည့်တည့်ကို ဖေါက်သည်။

﴿أَخَذَتْ إِهَابًا مَعْطُونًا فَجَوَّبَتْ وَسْطَهُ وَأَدْخَلَتْ فِي عُنُقِي﴾

ကျွန်ုပ်သည် သားရေနယ်ပြုလုပ်ထားသောသားရေကိုယူ၍ အလည်၌အပေါက်ဖေါက်ကာ ကျွန်ုပ်၏ဦးခေါင်း၌ စွပ်ခဲ့သည်။ (၅) [ـالْمَطَرُ الأَرْضَ](မိုးရေ)ကွက်ကျားရွာသည်။

[اِجْتَابَ] (၁) [ـالشَّيْءَ]ပေါက်ပြဲစေသည်။ စုပ်ဖြဲသည်။ ဖေါက်ခွဲသည်။ (၂) [ـالْبِئْرَ](ရေတွင်း)တူးသည်။ (၃) [ـالأَرْضَ]ဖြတ်သန်းသွားသည်။ (၄) [ـالْقَمِيصَ](အင်္ကျီကို)ဝတ်ဆင်သည်။ ﴿أَتَاهُ قَوْمٌ مُجْتَابِي النِّمَارِ﴾ကျားသားရေကို ဝတ်ဆင်ထားကြသူတို့သည် သူ့ထံ ရောက်ရှိလာခဲ့ကြသည်။ (၅) [ـالظَّلَامَ](အမှောင်ထုအတွင်း)ဝင်ရောက်သည်။

[اِنْجَابَ] (၁) ပေါက်ပြဲသည်။ စုပ်ပြတ်သည်။ ကွဲပြတ်သည်။ (၂) [ـالسَّحَابُ](မိုးတိမ်)ပွင့်၍ မိုးသားကို မြင်ရသည်။

﴿فَانْجَابَ السَّحَابُ عَنِ الْمَدِينَةِ حَتَّى صَارَ كَالْإِكْلِيلِ﴾ မိုးတိမ်သည် မဒီနဟ်မြို့မှ ကင်းစင်သွားပြီး သရဖူသဏ္ဍာန်ဖြစ်သွားသည်။ (၃) [ـالظَّلَامُ]

သရဖူသဏ္ဍာန်ဖြစ်သွားသည်။ ❸ [_الظَّلامُ] (အမှောင်ထု)ကင်းစင်သွားသည်။ မှေးမှိန်ကွယ်ပျောက်သည်။ ❹ [_النَّاقَةُ](ကုလားအုတ်မ)လည်ဆန့်သည်။

[تَجاوَبَ] တစ်ဦးကိုတစ်ဦး အပြန်အလှန်ဖြေကြားသည်။

[اِسْتَجابَ] ❶ [_لَهُ]အဖြေပေးသည်။ ❷ အမိန့်ကို လက်ခံနာယူသည်။﴿فَلْيَسْتَجِيبُوا لِي﴾ သို့ဖြစ်ရာ ၎င်းတို့သည် ငါအရှင်မြတ်၏ အမိန့်တော်များကို လက်ခံနာယူကြရမည်။ ❸ လက်ခံသဘောယူသည်။

[اِسْتَوْجَبَ] ❶ အဖြေတောင်းသည်။ ❷ လက်ခံသဘောတူသည်။

[اَلْجابَةُ] အဖြေ၊ ဖြေကြားချက်။

[اَساءَ سَمْعًا فَاَساءَ جابَةً]ကောင်းကောင်းနားမထောင်ဘူး၊ ပြီးတော့ပေါက်ကရဖြေတယ်။

[اَلْجَوابُ] ❶ အဖြေ။ ဖြေကြားချက်။ ❷ လက်ခံသဘောတူမှု။ ❸ ပြန်ကြားလွှာ။(ج) [اَجْوِبَةٌ]။ ❹ ငှက်ဆင်းသက်လာသည့်အသံ။

﴿فَسَمِعْنَا جَوابًا مِنَ السَّمَاءِ فَاِذَا بِطَائِرٍ اَعْظَمَ مِنَ النَّسْرِ﴾

ကျွန်ုပ်တို့သည် ကောင်းကင်မှ ငှက်ဆင်းသက်လာသည့်အသံကို ကြားကြရသဖြင့် ကြည့်လိုက်ရာ ရုတ်တရက် သိမ်းငှက်ထက်ကြီးသောငှက်တစ်ကောင်ကို တွေ့ကြရသည်။ ❺ ဂီတသံစဉ်တစ်မျိုး။(ရှစ်သံ)။

[اَلْجَوْبُ] ❶ အမျိုးသမီးဝတ် အင်္ကျီတစ်မျိုး။ ❷ သံခမောက်။ ❸ ရေပုံးအကြီးစား။ ❹ မီးဖို။ (ج) [اَجْوابٌ]။ ❺ အမျိုးအစား။ အချင်းလက္ခဏာ။

[اَلْجَوْبَةُ] ❶ မိုးသားတိမ်လိပ်ရှိ ကောင်းကင်ကို မြင်ရသောအပေါက်။ ❷ အဆောက်အဦးကင်းမဲ့သော မြေလွတ်။ ❸ တွက်ကျယ်ကြီး။ ❹ နယ်မြေနှစ်ခုအကြားရှိလွင်ပြင်။ ❺ အိမ်များအကြားရှိ မြေကွက်လပ်။ ❻ သစ်ပင်နည်းပါးသော မြေနိမ့်ပိုင်း။ ❼ သံခမောက်။ (ج) [جُوَبٌ]။

[اَلْجَوَّابُ] ဒေသအနှံ့အပြားသို့ လှည့်လည်သွားလာနေတတ်သူ။

[اَلْمِجْوابُ] ❶ ဖေါက်စူး။ ❷ ငှက်လှောင်အိမ်ပြုလုပ်သူတို့ အသုံးပြုသော ဝါးသို့မဟုတ် စွန်ပလွံကိုင်းကို အပေါက်ဖေါက်သော ကိရိယာ။

[اَلْمِجْوَبُ] ❶ ဖြတ်တောက်ရာ၌အသုံးပြုရသော သံပြားစ။ ❷ သံခမောက်။ ❸ အမျိုးသမီးဝတ်အင်္ကျီတစ်မျိုး။

[اَلْمَجُوبَةُ] ❶ အဖြေ။ ဖြေကြားချက်။ ❷ လက်ခံသဘောတူမှု။ ❸ ပြန်ကြားလွှာ။

✿ [جَوِثَ _] ❶ ဗိုက်ဆူထွက်သည်။ ❷ ဗိုက်တွဲကျသည်။

[جَوَثٌ] ❶ ဗိုက်ဆူထွက်ခြင်း။ ❷ ဗိုက်တွဲကျခြင်း။

[اَجْوَثُ] ❶ ဗိုက်ဆူထွက်သော(သူ)။ ❷ ဗိုက်တွဲကျသော(သူ)။(م) [جَوْثاءُ]။ (ج) [جُوثٌ]။

✿ [جاحَ _] ❶ [_فُلانٌ]သားချင်းတို့၏ ဥစ္စာပစ္စည်းများ ပျက်စီးဆုံးရှုံးသည်။ ❷ လမ်း

[الجائحة المال](ဘေးဒုက္ခ၊ ကပ်)ဥစ္စာပစ္စည်းများကို တစ်စမကျန် အလုံးစုံပျက်သုဥ်းစေသည်။

[جَوْح] ❶ သားချင်းတို့၏ ဥစ္စာပစ္စည်းများ ပျက်စီးဆုံးရှုံးခြင်း။ ❷ လမ်းချော်ခြင်း။ လမ်းမှ တိမ်းပါးခြင်း။ ❸ (ဘေးဒုက္ခ၊ ကပ်) ဥစ္စာပစ္စည်းများကို တစ်စမကျန် အလုံးစုံပျက်သုဥ်းစေခြင်း။﴿أَعَاذَكُمُ اللّٰهُ مِنْ جَوْحِ الدَّهْرِ﴾ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ခေတ်ကာလဆိုး၏ လုံးဝဥဿုံပျက်စီးခြင်းဘေးမှ ကင်းဝေးစေတော်မူသည်ဖြစ်ပါစေ။

[أَجَاحَ] [ـالجائحة المال](ဘေးဒုက္ခ၊ ကပ်) ဥစ္စာပစ္စည်းများကို တစ်စမကျန် အလုံးစုံပျက်သုဥ်းစေသည်။

[جَوَّحَ] [ـرِجْلَه](သူ၏ခြေထောက်ကို) ဖိနပ်၊ ခြေစွပ်စသည်မှ ကင်းစေသည်။ ဖိနပ်ချွတ်သည်။

[اِجْتَاحَ] ❶ [ـالجائحة المال](ဘေးဒုက္ခ၊ ကပ်)ဥစ္စာပစ္စည်းများကို တစ်စမကျန် အလုံးစုံပျက် သုဥ်းစေသည်။ ❷ [ـالقَوْمَ](လူမျိုး၊ အုပ်စုကို)တစ်ယောက်မကျန် သတ်ဖြတ်သည်။

[اَلأَجْوَحُ] ကျယ်ဝန်းသော၊ ချောင်သော(အရာ)။(م)[جَوْحَاءُ]။(ج)[جُوْحٌ]။

[اَلجَائِحَةُ] ❶ ဥစ္စာပစ္စည်းများကို အလုံးစုံ ပျက်သုဥ်းစေသော ဘေးဆိုး၊ ကပ်ဆိုးကြီး။ ❷ ကောက်ပဲသီးနှံများကို ပျက်စီးစေသည့် ရာသီဥတုဖေါက်ပြန်မှု။(ج)[جَوَائِحُ]။

[اَلجَوْحُ] ဆီးရီးယားနိုင်ငံထွက် ဖရဲသီး။

[اَلجَوْحَةُ] ❶ ဥစ္စာပစ္စည်းများကို အလုံးစုံ ပျက်သုဥ်းစေသော ဘေးဆိုး၊ ကပ်ဆိုးကြီး။ ❷ ကောက်ပဲသီးနှံများကို ပျက်စီးစေသည့် ရာသီဥတုဖေါက်ပြန်မှု။(ج)[جَوَائِحُ]။

[اَلمَجْوَحُ] အရာဟူသမျှကို ပျက်စီးစေသော (အရာ)။(ج)[مَجَاوِحُ]။

✿ [جَاخَ ـ] [ـالسَّيْلُ الوَادِيَ](ရေစီးက လျှိုကမ်းပါးများကို)တိုက်စားသွားသည်။

[جَوْخٌ] (ရေစီးက လျှိုကမ်းပါးများကို) တိုက်စားသွားခြင်း။

[جَوَّخَ] ❶ [ـالسَّيْلُ الوَادِيَ](ရေစီးက လျှိုကမ်းပါးများကို)တိုက်စားသွားသည်။ ❷ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)တွန်းထိုးလှဲချသည်။ သတ်ပုတ်၍ လဲကျစေသည်။ ဒဏ်ရာဖြင့် လဲကျစေသည်။

[تَجَوَّخَ] ❶ [ـالبِئْرُ](ရေတွင်း)ပြိုကျသည်။ ❷ [ـالقَرْحَةُ](ပြီတည်နာ)သွေးပုပ်၊ ပြည်ပုပ် ပေါက်ထွက်သည်။ ❸ [ـفُلَانٌ]ပြိုလဲကျသည်။ ဒဏ်ရာဖြင့် မြေပေါ်သို့ လဲကျသည်။

[اَلجُوْخُ] သားမွေးထည်။(ج)[أَجْوَاخٌ]။

[اَلجُوْخَةُ] တွင်း။

✿ [جَادَ ـ] ❶ [ـالشَّيْءُ]ကောင်းမွန်သည်။ ❷ [ـالمَتَاعُ](ကုန်ပစ္စည်း)အရည်အသွေးကောင်းမွန်သည်။ ❸ [ـالعَمَلُ](အလုပ်)သပ်ယပ်ကောင်းမွန်သည်။ ❹ [ـالرَّجُلُ]အပြော၊ အလုပ်စသည်ကို ကောင်းမွန်အောင်ပြောဆိုပြုမူသည်။ ❺ [ـالفَرَسُ](မြင်း)မျိုးကောင်း၍ လျှင်မြန်သွက်လက် အပြေးသန်သည်။ ❻ [ـفُلَانٌ]ရက်ရောသည်။ ပေးကမ်းသုံးစွဲရာ၌ တွန့်တိုမှုကင်းသည်။ ❼ [ـبِنَفْسِهِ عِنْدَ المَوْتِ]

သေလုမျှောပါးဖြစ်သည်။ ❺ [ـالْمَطَرُ](မိုး ရေ)သည်းထန်သည်။ မိုးများသည်။ နေရာ အနှံ့မိုးရွာသည်။﴿تَرَكْتُ اَهْلَ مَكَّةَ وَقَدْ جِيْدُوْا﴾ ကျွန်ုပ်သည် မက္ကာဟ်သားတို့အား ၎င်းတို့ မိုးကောင်းချိန်၌ စွန့်လွှတ်ထားခဲ့သည်။ ❻ [ـالْعَيْنُ](မျက်စိ)မျက်ရည်ရွှင်သည်။ ❼ ❽ [ـالْهَوٰى فُلَانًا](စိတ်ရိုင်း)ဖိစီးလွှမ်းမိုးသည်။ [جَادَهُ النُّعَاسُ]ငိုက်မြည်းခြင်းက သူ့ကို ဖိစီးခဲ့ သည်။ ❾ ❿ [ـفُلَانًا]ရက်ရောရာ၌ သူထက် ပိုသည်။

[جُوْدَةٌ] ❶ ကောင်းမွန်ခြင်း။ ❷ (ကုန် ပစ္စည်း)အရည်အသွေး ကောင်းမွန်ခြင်း။ ❸ (အလုပ်)သပ်ယပ်ကောင်းမွန်ခြင်း။ ❹ အ ပြော၊ အလုပ်စသည်ကို ကောင်းမွန်အောင် ပြောဆို၊ ပြုမူခြင်း။ ❺ (မြင်း)မျိုးကောင်း၍ လျှင်မြန်သွက်လက် အပြေးသန်ခြင်း။

[جُوْدٌ] ရက်ရောခြင်း။ ပေးကမ်းသုံးစွဲရာ၌ တွန့်တိုမှုကင်းခြင်း။

[جَوْدٌ ـ جُئُوْدٌ] ❶ သေလုမျှောပါးဖြစ်ခြင်း။ ❷ (မိုး ရေ)သည်းထန်ခြင်း။ မိုးများခြင်း။ နေရာအနှံ့ မိုးရွာခြင်း။ ❸ (မျက်စိ)မျက်ရည်ရွှင်ခြင်း။ ❹ (စိတ်ရိုင်း)ဖိစီးလွှမ်းမိုးခြင်း။ ❺ ❻ ရက်ရောရာ ၌ သူထက်ပိုခြင်း။

[جَيِّدٌ] ❶ ကောင်းမွန်သော(အရာ)။ ❷ အရည်အသွေး ကောင်းမွန်သော(အရာ)။ ❸ သပ်ယပ်ကောင်းမွန်သော(အလုပ်)။ (ဉ) [جِيَادٌ]။

[جَوَادٌ] မျိုးကောင်း၍ လျှင်မြန်သွက်လက် အပြေးသန်သော(မြင်း)။[اِنَّ الْجَوَادَ قَدْ يَعْثُرُ] မြင်းကောင်းခွါလိပ်။(ဉ) [جِيَادٌ]။

[جَائِدٌ] ❶ ရက်ရောသော(သူ)။ ပေးကမ်း သုံးစွဲရာ၌ တွန့်တိုမှုကင်းသော(သူ)။ ❷ သေ လုမျှောပါးဖြစ်သော(သူ)။ ❸ သည်းထန် သော(မိုး)။ နေရာအနှံ့ရွာသော(မိုး)။ ❹ မျက်ရည်ရွှင်သော(မျက်စိ)။ ❺ ဖိစီးလွှမ်းမိုး သော(အရာ)။(ဉ) [جَوْدٌ]။

[جَوَادٌ] သူမတူအောင် ရက်ရောသော (သူ)။(ဉ) [اَجْوَادٌ ـ جُوْدَةٌ ـ جُوَدَاءُ ـ اَجَاوِدُ]။(မ) [جَوَادٌ]။(ဉ) [جُوْدٌ]။[جُوْدٌ]

[جِيْدَ] ❶ [ـفُلَانٌ]ရေငတ်သည်။ ❷ သေကျေပျက်စီးလုမတတ်ဖြစ်သည်။ [اِنِّي لَاُجَادُ اِلٰى لِقَائِهٖ]သူ့ကို ငါအသည်းအသန် တွေ့ချင်နေတယ်။(သူ့ကို မတွေ့ရရင် ငါသေ သွားနိုင်တယ်။)

[جُوَادٌ] ❶ ရေငတ်ခြင်း။ ❷ သေကျေပျက် စီးလုမတတ်ဖြစ်ခြင်း။

[مَجُوْدٌ] ❶ ရေငတ်သော(သူ)။ ❷ သေ ကျေပျက်စီးလုမတတ်ဖြစ်သော(သူ)။

[اَجَادَ] ❶ [ـالشَّيْءَ]အကောင်းစားဖြစ် အောင်လုပ်သည်။ ❷ [ـالْمَتَاعَ](ကုန်ပစ္စည်း ကို)အရည်အသွေးကောင်းမွန်စေသည်။ ❸ [ـالْعَمَلَ](အလုပ်ကို)သပ်ယပ်ကောင်းမွန်စွာ လုပ်သည်။ ❹ [ـالرَّجُلُ]အပြော၊ အလုပ်စ သည်ကို ကောင်းမွန်အောင်ပြောဆို၊ ပြုမူ သည်။ ❺ [ـفُلَانٌ]မျိုးကောင်း၍အပြေးသန် သောမြင်းကို ပိုင်ဆိုင်သည်။ ❻ [ـفُلَانَةُ]အ ပြောအဆို အမူအယာပြေပြစ်ကောင်းမွန်သော ကလေးကို မွေးထားသည်။ ❼ [ـفُلَانًا](တစ်

ဦးတစ်ယောက်ကို)ရက်ရောသူအဖြစ် တွေ့မြင်ရသည်။ (၈) [ـفُلاَنًا الثِّيَابَ](တစ်ဦးတစ်ယောက်ကို အဝတ်)အကောင်းစား ပေးသည်။ (၉) [ـالْجَوْدُ الأَرْضَ](အလွန်သည်းထန်သည့်မိုးရေ မြေ၌)သက်ရောက်သည်။ (၁၀) [ـفُلاَنًا](တစ်ဦးတစ်ယောက်ကို)သတ်ဖြတ်သည်။

[أَجْوَدَ] (၁) [ـالشَّيْءَ]အကောင်းစားဖြစ်အောင်လုပ်သည်။ (၂) [ـالْمَتَاعَ](ကုန်ပစ္စည်းကို)အရည်အသွေးကောင်းမွန်စေသည်။ (၃) [ـالْعَمَلَ](အလုပ်ကို)သပ်ယပ်ကောင်းမွန်စွာလုပ်သည်။ (၄) [ـالرَّجُلُ]အပြော၊ အလုပ်စသည်ကို ကောင်းမွန်အောင်ပြောဆို၊ ပြုမူသည်။ (၅) [ـفُلاَنٌ]မျိုးကောင်း၍အပြေးသန်သောမြင်းကို ပိုင်ဆိုင်သည်။

[جَاوَدَ] [ـفُلاَنًا]ရက်ရောမှု၌ သူ့ထက်သာအောင် အပြိုင်အဆိုင်ပြုလုပ်သည်။

[جَوَّدَ] (၁) [ـالْفَرَسُ فِي عَدْوِهِ](မြင်း ပြေးရာ၌)အလွန်လျင်မြန်သည်။ (၂) [ـالشَّيْءَ]အကောင်းစားဖြစ် အောင်လုပ်သည်။

[تَجَاوَدَ] တစ်ဦးနှင့်တစ်ဦး အကောင်းပြိုင်သည်။ မည်သူအကောင်းဆုံး၊ အသာဆုံးဖြစ်သည်ကို ပြိုင်ဆိုင်သည်။[تَجَاوَدُوا فِي الْحَدِيثِ] စကားအရာ၌ မည်သူအကောင်းဆုံးပြောနိုင်သူဖြစ်သည်ကို ပြိုင်ဆိုင်ကြသည်။

[تَجَوَّدَ] (၁) [ـفِي الْعَمَلِ](အလုပ်လုပ်ရာ၌)စနစ်တကျ၊ အသေအချာ စဉ်းစားသုံးသပ်၍ အကောင်းဆုံးဖြစ်အောင်လုပ်သည်။ (၂) [ـالشَّيْءَ](တစ်စုံတစ်ရာကို)ရွေးချယ်၍ အကောင်းစားဖြစ်အောင်လုပ်နိုင်သည်။

[اِسْتَجَادَ] (၁) [ـه]အကောင်းစားဟု မှတ်ယူသည်။ (၂) [ـالشَّيْءَ](တစ်စုံတစ်ရာကို)ရွေးချယ်၍ အကောင်းစားဖြစ်အောင်လုပ်နိုင်သည်။ (၃) [ـالْفَرَسَ](မြင်း)အကောင်းစားကို တောင်းသည်။ (၄) [ـفُلاَنًا](တစ်စုံတစ်ဦးကို) ရက်ရောရန် တိုက်တွန်းသည်။

[اَلتَّجَاوِيدُ] အလွန်သည်းထန်စွာ ရွာသွန်းသော မိုးများ။

[اَلْجَادِيُّ] ကုံကုမံ။

[اَلْجَوَادُ] မြင်းကောင်း။ မျိုးကောင်းမြင်း။ (ج) [جِيَادٌ]။

﴿إِذْ عُرِضَ عَلَيْهِ بِالْعَشِيِّ الصَّافِنَاتُ الْجِيَادُ﴾ အခါတစ်ပါး၌ လျင်မြန်ပေါ့ပါးသော မျိုးကောင်းမြင်းများသည် သူ၏ရှေ့ဝယ် ညနေခင်းအချိန်၌ တင်ပြခြင်းကို ခံရလေ၏။

[اَلْجُوَادُ] ငိုက်မြည်းခြင်း။

[اَلْجَوْدُ] အလွန်သည်းထန်သောမိုးရေ။ မိုးစက်မိုးပေါက်များ ကြီးမားများပြားစွာ ရွာသွန်းမှု။﴿لَمْ يَأْتِ أَحَدٌ مِنْ نَاحِيَةٍ إِلاَّ حَدَّثَ بِالْجَوْدِ﴾ အနယ်နယ်အရပ်ရပ်မှ ရောက်ရှိလာသူတိုင်းသည် သည်းထန်စွာမိုးရွာသွန်းမည့်အကြောင်းကိုသာလျှင် ပြောဆိုခဲ့ကြကုန်၏။

[اَلْجُوْدُ] ရက်ရောမှု။ ကောင်းမြတ်သောကိစ္စအတွက် တုန့်ပြန်အကျိုးသက်ရောက်မှုကို မျှော်လင့်ချက်မထားဘဲ မိမိ၏ဥစ္စာပစ္စည်းကို သုံးစွဲခြင်း။

[اَلْجَوْدَةُ] ရေငတ်မွတ်မှု။

✿ [جَارَ ـُ] (၁) အကူအညီရရှိရန် တောင်းဆို

သည်။ ❷ [_الطَّرِيْقُ](လမ်း)ပျောက်သည်။ လမ်းကွေ့ကောက်သည်။ ❸ [_تِ الْأَرْضُ](မြေ) ရှည်လျားမြင့်မားသောအပင်များပေါက်သည်။ ❹ [_عَنِ الطَّرِيْقِ](လမ်းမှ)သွေဖည်သွားသည်။ လမ်းလွဲသည်။ ❺ [_فِيْ حُكْمِهِ](ဆုံးဖြတ်ရာ၌) ဘက်လိုက်၍ မတရားဆုံးဖြတ်သည်။ ❻ [_عَلَيْهِ](သူ့အပေါ်)မတရားပြုမူ စော်ကားသည်။ ကျူးကျော်သည်။

[جَوْرٌ] ❶ အကူအညီရရှိရန် တောင်းဆိုခြင်း။ ❷ (လမ်း)ပျောက်ခြင်း။ လမ်းကွေ့ကောက်ခြင်း။ ❸ (မြေ)ရှည်လျားမြင့်မားသောအပင်များပေါက်ခြင်း။ ❹ (လမ်းမှ)သွေဖည်သွားခြင်း။ လမ်းလွဲခြင်း။ ❺ (ဆုံးဖြတ်ရာ၌)ဘက်လိုက်၍ မတရားဆုံးဖြတ်ခြင်း။ ❻ (သူ့အပေါ်)မတရားပြုမူစော်ကားခြင်း။ ကျူးကျော်ခြင်း။

[جَائِرٌ۔جَوْرٌ] ❶ အကူအညီရရှိရန် တောင်းဆိုသော(သူ)။ ❷ ပျောက်သော(လမ်း)။ ကွေ့ကောက်သော(လမ်း)။

﴿وَعَلَى اللّٰهِ قَصْدُ السَّبِيْلِ وَمِنْهَا جَائِرٌ﴾ဖြောင့်မတ်သောလမ်းကို ပြသရန်မှာ အလ္လာဟ်အရှင်မြတ်၌သာတည်၏။ စင်စစ်ယင်းလမ်းများအနက် ကောက်ကွေ့သောလမ်းသည်လည်းရှိ၏။ ❸ ရှည်လျားမြင့်မားသောအပင်များပေါက်ရောက်သော(မြေ)။ ❹ (လမ်းမှ)သွေဖည်သွားသော(သူ)။ လမ်းလွဲသော(သူ)။ ❺ (ဆုံးဖြတ်ရာ၌)ဘက်လိုက်၍ မတရားဆုံးဖြတ်သော(သူ)။ ❻ မတရားပြုမူစော်ကားသော(သူ)။ ကျူးကျော်သော(သူ)။(ج)[جَوَرَةٌ۔جَارَةٌ]။

[أَجَارَ] ❶ [ه_]အကူအညီပေးသည်။ ❷ ကာကွယ်စောင့်ရှောက်သည်။ ❸ ကယ်တင်သည်။ ﴿وَهُوَ يُجِيْرُ وَلَا يُجَارُ عَلَيْهِ﴾ ထိုအရှင်မြတ်သည် ကာကွယ်စောင့်ရှောက်တော်မူ၏။ သို့ရာတွင် ထိုအရှင်မြတ်နှင့်ဆန့်ကျင်၍ မည်သူမျှ ကာကွယ်စောင့်ရှောက်နိုင်သူမရှိ။ [أَجَارَهُ اللّٰهُ مِنْ عَذَابِهِ] အလ္လာဟ်အရှင်မြတ်က ၎င်းအား မိမိ၏ပြစ်ဒဏ်မှ ချွတ်ကယ်တော်မူသည်။ ❹ [_الْمَتَاعَ](ဥစ္စာပစ္စည်းကို)ထိန်းသိမ်းစောင့်ရှောက်သည်။ ❺ [_فُلَانًا عَنِ الطَّرِيْقِ] (တစ်ဦးတစ်ယောက်ကို လမ်းမှ)သွေဖည်သွားစေသည်။ လမ်းမှားစေသည်။

[جَاوَرَ] ❶ [ه_](သူ)နှင့်အတူ အနီးအပါး၌ ကပ်နေသည်။ ❷ အိမ်နီးချင်းအဖြစ်နေထိုင်သည်။ ❸ တစ်ဦးနှင့်တစ်ဦး အပြန်အလှန် ကူညီရန် ကတိပြုသည်။ ❹ [_الْمَسْجِدَ](ဗလီဝတ်ကျောင်းတော်၌)နေထိုင်၍ တရားအားထုတ်သည်။'အိအ်တိကားဖ်' ထိုင်သည်။ [جَاوَرَ الْمَدِيْنَةَ]မဒီနဟ်မြို့သို့သွား၍ တရားအားထုတ်နေထိုင်သည်။ ❺ [_الْقَوْمَ](၎င်းတို့၏)အကူအညီကို ရယူသည်။ ၎င်းတို့၏ကာကွယ်စောင့်ရှောက်မှုကို ခံယူသည်။

[جَوَّرَ] ❶ [ه_](သူ့ကို)လမ်းမှားသူ၊ မတရားစော်ကားသူဟု စွပ်စွဲသည်။ ❷ [_الْبِنَاءَ] (အဆောက်အဦးကို)ဖြိုချဖျက်ဆီးသည်။ ❸ [_فُلَانًا](တစ်ဦးတစ်ယောက်ကို)တွန်းထိုးလှဲချသည်။ လုံးထွေးသတ်ပုတ်၍ လဲကျစေသည်။

[اِجْتَوَرَ] ❶ [_الْقَوْمُ]အချင်းချင်းတစ်ဦးနှင့်တစ်ဦး အိမ်နီးချင်းများအဖြစ် နေထိုင်ကြ

သည်။ ❷ အချင်းချင်းတစ်ဦးနှင့်တစ်ဦး အပြန်အလှန် ကူညီသည်။

[تَجَوَّرَ] ❶ [ـالرَّجُلُ]လဲကျသည်။ ဒဏ်ရာရပြီး လဲသည်။ ❷ [ـعَلَى الْفِرَاشِ](အိပ်ယာပေါ်)လဲလျောင်းသည်။ ❸ [ـالْبِنَاءُ](အဆောက်အဦး)ပြိုကျသည်။ ❹ [ـخِبَاءُ اللَّيْلِ](ညဥ့် ဖုံးကွယ်နေသောအရာ)ပေါ်လွင်ထင်ရှားလာသည်။

[اِسْتَجَارَ] ❶ [ـبِفُلَانٍ](တစ်ဦးတစ်ယောက်အား)အကူအညီတောင်း၍ ခိုလှုံသည်။ ❷ [ـفُلَانًا](တစ်ဦးတစ်ယောက်အား)အကာအကွယ်ပေးရန် တောင်းဆိုသည်။

﴿وَإِنْ أَحَدٌ مِنَ الْمُشْرِكِينَ اسْتَجَارَكَ فَأَجِرْهُ﴾ ၄င်းပြင် အကယ်၍ 'မုရှိရိက်'တို့အနက်မှ တစ်ဦးတစ်ယောက်သည် အသင့်ထံမှ အကာအကွယ်ရရန် တောင်းဆိုအသနားခံလာပါလျှင် အသင်သည် ထိုသူအား ကာကွယ်ပါလေ။

[اَلْجَارُ] ❶ အိမ်နီးချင်း။ ❷ အရောင်းအဝယ်၌ ဖက်စပ်ပါဝင်သူ။ ❸ လုပ်ဖော်ကိုင်ဘက်။ ❹ ကာကွယ်စောင့်ရှောက်သူ၊ ကယ်တင်သူ။ ကူညီစောင်မသူ။ ❺ အကူအညီတောင်းခံသူ။ ခိုလှုံခွင့်တောင်းသူ။ ❻ ကာကွယ်စောင့်ရှောက်ခြင်းခံရသူ။ ❼ လင်ယောက်ျား။ ❽ ဇနီးမယား။ ❾ တစ်ဦးကိုတစ်ဦးကူညီရန် ကတိပြုထားသူ။(ج) [أَجْوَارٌ . جِيرَةٌ . جِيرَانٌ]။

[اَلْجِوَارُ] ❶ အလွန်နက်ရှိုင်းများပြားသောရေထု။ ❷ အိမ်ဘေးပတ်လည်။

[اَلْجِوَارُ] ❶ ကတိဝန်ခံချက်။ ❷ လွတ်ငြိမ်းခွင့်။ ဘေးကင်းလုံခြုံမှု။

[مُعَاهَدَةُ حُسْنِ الْجِوَارِ]အိမ်နီးချင်းနိုင်ငံများအကြား အိမ်နီးချင်းကောင်းပီသသော အပြန်အလှန်ဆက်ဆံရေး။

[اَلْجَوْرُ] ❶ အကူအညီရရှိရန် တောင်းဆိုသော(သူ)။ ❷ ပျောက်သော(လမ်း)။ ကွေ့ကောက်သော(လမ်း)။ ❸ ရှည်လျားမြင့်မားသောအပင်များ ပေါက်ရောက်သော(မြေ)။ ❹ (လမ်းမှ)သွေဖည်သွားသော(သူ)။ လမ်းလွဲသော(သူ)။ ❺ (ဆုံးဖြတ်ရာ၌)ဘက်လိုက်၍ မတရားဆုံးဖြတ်သော(သူ)။ ❻ မတရားပြုမူစော်ကားသော(သူ)။ ကျူးကျော်သော(သူ)။ ❼ အလွန်များပြားသော(အရာ)။

[عِنْدَهُ مِنَ الْمَالِ الْجَوْرُ]သူ့ဆီမှာ ဥစ္စာပစ္စည်းအမြောက်အများရှိတယ်။(ج)[جَوَرَةٌ . جُوَرَةٌ]။

[اَلْجَوُّرُ] ❶ အလွန်မာပြင်းသော(အရာ)။ ❷ [بَعِيرٌ جَوُّرٌ]အလွန်ထွားကြိုင်းသန်မာသော ကုလားအုတ်။ ❸ [سَيْلٌ جَوُّرٌ]အလွန်အရှိန်ပြင်းစွာစီးသောရေစီး။ ❹ [غَيْثٌ جَوُّرٌ]မိုးခြိမ်းသံပြင်းထန်၍ သည်းထန်စွာရွာသောမိုးတိမ်။ ❺ [مَالٌ جَوُّرٌ]အလွန်ပေါကြွယ်ဝသော ဥစ္စာပစ္စည်း။

[اَلْجَوَّارُ] ❶ လယ်ယာထွန်ယက်သူ။ ❷ မြေဆွပေါင်းတူးအလုပ်သမား၊ ခြံလုပ်သား။

✽ [جَوْرَبَ] [ـهُ]ခြေစွပ် ဝတ်ဆင်ပေးသည်။

[تَجَوْرَبَ] ခြေစွပ် ဝတ်ဆင်ထားသည်။

[اَلْجَوْرَبُ] ခြေစွပ်။(ج)[جَوَارِبُ . جَوَارِبَةٌ]။

✽ [جَازَ ـ] ❶ [ـالْقَوْلُ](စကား)ပေါက်ရောက်

ဆောင်ခေါ်သွားသည်။ (၆) [ـالعَقْدَ](ကတိဝန်ခံချက်ကို)အကောင်အထည်ဖော်သည်။ (၇) [ـالرَّأيَ](အတွေးအခေါ်ကို)လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်သည်။ (၈) [ـلِفُلَانٍ]လုပ်ပိုင်ခွင့်ပေးသည်။ ခွင့်ပြုသည်။ (၉) [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)ခရီးစခန်းနှစ်ခုအကြား သောက်သုံးရန်လုံလောက်သောရေကို ပေးသည်။ (၁၀) ဆုပေးသည်။ ဆုချသည်။ (၁၁) [ـتِلْمِيذَهُ](မိမိ၏တပည့်ကို)မိမိထံမှ ဆင့်ပြန်ပြောကြားခွင့်ပြုသည်။ (၁၂) [ـالحَبْلَ](ကြိုးကို)အခိုင်အမာ မကျစ်သဖြင့် ကြိုးလွန်းများ တစ်ခုပေါ်တစ်ခုထပ်၍ တွန့်လိမ်သည်။

[جَاوَزَ] (၁) [ـعَنْ ذَنْبِهِ](သူ့အပြစ်ကို)အရေးမယူဘဲ ခွင့်လွှတ်သည်။ (၂) [ـالطَّرِيقَ](လမ်းကို)ဖြတ်လျှောက်သွားသည်။ (၃) [ـالمَكَانَ](နေရာကို)ဖြတ်ကျော်လွန်မြောက်သည်။

[مُجَاوَزَةٌ - جِوَازٌ] (၁)(သူ့အပြစ်ကို) အရေးမယူဘဲ ခွင့်လွှတ်ခြင်း။ (၂)(လမ်းကို)ဖြတ်လျှောက်သွားခြင်း။ (၃)(နေရာကို)ဖြတ်ကျော်လွန်မြောက်ခြင်း။

[جَوَّزَ] (၁) [ـلَهُمْ دَوَابَّهُمْ](၄င်းတို့၏တိရစ္ဆာန်များကို)တစ်ကောင်စီ ဆွဲခေါ်၍ ဖြတ်ကျော်သည်။ (၂) [ـالدَّرَاهِمَ](ငွေဒင်္ဂါးများကို)လက်ရှိအရည်အသွေးအတိုင်း လက်ခံသည်။ (၃) [ـالرَّأيَ](အတွေးအခေါ်ကို)လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်သည်။ (၄) [ـلِفُلَانٍ مَا صَنَعَ](တစ်ဦးတစ်ယောက် ပြုလုပ်ထားသည့်အရာကို)လက်ခံသည်။ ခွင့်ပြုသည်။ ပြောသည့်အတိုင်းဖြစ်သည်။ (၂) [ـالعَقْدُ](သဘောတူညီမှု၊ ကတိဝန်ခံချက်) မှန်မှန်ကန်ကန် ဖြစ်မြောက်သည်။ အထမြောက်သည်။ အကောင်အထည်ပေါ်သည်။ (၃) [ـالدَّرَاهِمُ](ငွေဒင်္ဂါး)လက်ရှိအရည်အသွေးအတိုင်း လက်ခံခြင်းခံရသည်။ အပယ်ခံရခြင်းမှ ကင်းလွတ်သည်။ (၄) [ـالمَكَانَ](နေရာကို)ဖြတ်ကျော်လွန်မြောက်သည်။

[جَوْزٌ - جَوَازٌ - مَجَازٌ] (၁)(စကား)ပေါက်ရောက်ခြင်း။ ပြောသည့်အတိုင်းဖြစ်ခြင်း။ (၂)(သဘောတူညီမှု၊ ကတိဝန်ခံချက်)မှန်မှန်ကန်ကန် ဖြစ်မြောက်ခြင်း။ အထမြောက်ခြင်း။ အကောင်အထည်ပေါ်ခြင်း။ (၃)(ငွေဒင်္ဂါး)လက်ရှိအရည်အသွေးအတိုင်း လက်ခံခြင်းခံရခြင်း။ အပယ်ခံရခြင်းမှ ကင်းလွတ်ခြင်း။ (၄)(နေရာကို)ဖြတ်ကျော်လွန်မြောက်ခြင်း။

[أَجَازَ] (၁) [ـعَلَى اِسْمِهِ](သူ့အမည်ကို)အမှတ်အသားပြုလုပ်သည်။ အမည်အရှေ့၌ကြက်ခြေခတ်အမှတ်အသားပြုလုပ်သည်။ (၂) [ـالشَّاعِرُ](ကဗျာဆရာ)ကဗျာလင်္ကာ စပ်ဆိုရာ၌ လင်္ကာအပိုဒ်၏နောက်ဆုံးစာလုံးနှင့်ကပ်လျက်ရှိသောအက္ခရာ၌ မတူညီသောသရကို သုံးသည်။ အခြားသူရေးစပ်ထားသောကဗျာကို ထပ်မံဖြည့်စွက်၍ပြည့်စုံအောင် စပ်ဆိုသည်။ (၃) [ـالشَّيْءَ](တစ်စုံတစ်ရာကို)ဆုအဖြစ်သတ်မှတ်သည်။ (၄) [ـالمَكَانَ](နေရာကို)ဖြတ်ကျော်လွန်မြောက်သည်။ (၅) [ـفُلَانًا المَكَانَ](တစ်ဦးတစ်ယောက်အား နေရာကို)ဖြတ်ကျော်လွန်မြောက်သည်အထိ ဦး

သည်။[هٰذا مِمَّالَايَجُوزُهُ الْعَقْلُ]ဒါဟာ ဆင်ခြင်တုံတရားက လက်မခံနိုင်တဲ့ကိစ္စဖြစ်တယ်။ ❾ [ـ لَهُمُ الدَّوَابَ](၎င်းတို့၏တိရစ္ဆာန်များကို) ရေတိုက်သည်။

[اِجْتَازَ] ဖြတ်လျှောက်သွားသည်။

[تَجَاوَزَ] ❶ [ـ عَنِ الشَّيْءِ](တစ်စုံတစ်ရာမှ) မျက်နှာလွှဲသည်။ မကြည့်ဘဲနေသည်။ ဥပေက္ခာပြုထားသည်။ ❷ [ـ عَنِ الرَّجُلِ]ခွင့်လွှတ်သည်။ ❸ [ـ عَنِ الذَّنْبِ]အပြစ်မယူ အရေးမယူဘဲနေသည်။ ❹ [ـ فِي الشَّيْءِ](တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍)အလွန်အကျူးဖြစ်သည်။ အလွန်အကျွံ ပြုမူဆောင်ရွက်သည်။ ❺ [ـ الْمَكَانَ](နေရာကို)ဖြတ်ကျော်လွန်မြောက်သည်။

[تَجَوَّزَ] ❶ [ـ فِي الْأَمْرِ](တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍)ကြိတ်မှိတ်သည်းခံသည်။ ❷ [ـ عَنِ الرَّجُلِ]ခွင့်လွှတ်သည်။ ❸ [ـ فِي الصَّلَاةِ](ဆွလာတ်ဝတ်ပြုမှုကို)အကျဉ်းချုံး၍ ဝတ်ပြုသည်။ ❹ [ـ فِي الْكَلَامِ](စကားပြောရာ၌)စကားလုံးကို မူလအဓိပ္ပါယ်မယူဘဲ အခြားအဓိပ္ပါယ်ယူ၍ပြောသည်။ သွယ်ဝိုက်ပြောသည်။ ❺ [ـ الدَّرَاهِمَ](ငွေဒင်္ဂါးများကို)လက်ရှိအရည်အသွေးအတိုင်း လက်ခံသည်။

[اِسْتَجَازَ] ❶ လုပ်ပိုင်ခွင့်တောင်းသည်။ ❷ [ـ الْمُسَافِرُ فُلَانًا](ခရီးသည် တစ်ဦးတစ်ယောက်ထံမှ)ခရီးစခန်းနှစ်ခုအကြား သောက်သုံးရန်လိုလောက်သောရေကို တောင်းသည်၊ ❸ မိမိ၏စိုက်ခင်းအတွက်၊ သို့မဟုတ် တိရစ္ဆာန်အတွက် ရေတောင်းသည်။ ❹ [ـ فُلَانًا](တစ်ဦးတစ်ယောက်ထံမှ)ဆင့်ပြန်ပြောကြားနိုင်ခွင့်ကို တောင်းခံသည်။

[اَلْجَائِزُ] ❶ ရေတော်မှတ်သောအဖြစ်နှင့် လူတစ်စုထံ ရောက်ရှိလာသူ။ ❷ ထုပ်တန်း။ ။[أَجْوِزَةٌ - جِيزَانٌ - جُوزَانٌ - جَوَائِزُ](ဇ)

[اَلْجَائِزَةُ] ❶ ခရီးစခန်းတစ်ခုနှင့်တစ်ခုအကြား သောက်သုံးရန်ဆောင်ယူသည့်ရေ။ ❷ ရေတစ်မော့၊ ရေတစ်မှုတ်။ ❸ ဆု၊ ပေးကမ်းချီးမြှင့်မှု။[جَوَائِزُ](ဇ)။[جَوَائِزُ الْأَمْثَالِ]လူမျိုးတစ်မျိုးမှတစ်မျိုးသို့ လက်ဆင့်ကမ်းပြန့်ပွားသွားသော ဆိုရိုးစကား၊ သို့မဟုတ်ကဗျာလင်္ကာ။

[اَلْجَوَازُ] ❶ စိုက်ခင်း၊ သို့မဟုတ်တိရစ္ဆာန်ကိုတိုက်ကျွေးသည့်ရေ။ ❷ လမ်းခရီး၌ သောက်သုံးရန် ဆောင်ယူရသောရေ။ ❸ [جَوَازُ السَّفَرِ]နိုင်ငံကူးလက်မှတ်။(ဇ)[أَجْوِزَةٌ]။

[اَلْجَوْزُ] ❶ သစ်ကြားသီး။ ❷ အလယ်ဗဟို။[إِنَّهُ قَامَ فِي جَوْزِ اللَّيْلِ يُصَلِّي]သူသည် ညလယ်ယံ၌ ထ၍ ဆွလာတ်ဝတ်ပြုသည်။ ❸ အဓိကအစိတ်အပိုင်း၊ အများပိုင်း။ ❹ အိမ်ထောင်ပရိဘောဂများပြုလုပ်ရာ၌ အသုံးများသည့် လှပသောသစ်တစ်မျိုး။ ❺ [جَوْزُ الْهِنْدِ]အုန်းသီး။ ❻ [جَوْزُ الْقَيْءِ]ခပေါင်းပင်။ ❼ [جَوْزُ الطِّيبِ]ဇာတိပ္ဖိုလ်သီး။ ❽ [جَوْزُ الْقَزِّ]ပိုးအိမ်။(ဇ)[أَجْوَازٌ]။

[اَلْجَوْزَاءُ] မေထုံရာသီ။

[اَلْجَوْزَةُ] ❶ သစ်ကြားသီး။ ❷ ရေတစ်မော့၊ ရေတစ်မှုတ်။ ❸ ခရီးစခန်းတစ်ခုနှင့်တစ်ခုအကြား သောက်သုံးရန်ဆောင်ယူသည့်ရေ။

(၆) အဝါရောင်စပျစ်သီးတစ်မျိုး။

[اَلْجِيْزُ] (၁) လူအုပ်စုတစ်စု နေထိုင်သည့်နေရာ။[نَزَلْنَا جِيْزَ بَنِى فُلَانٍ]ကျွန်ုပ်တို့သည် အနီးပုဂ္ဂိုလ်၏သားမြေးများနေထိုင်ရာအရပ်၌ စခန်းချခဲ့ကြသည်။ (၂) လျှိုကမ်းပါး။

[اَلْجِيْزَةُ] (၁) ခရီးစရိတ်။ (၂) ထောင့်၊ ရှုထောင့်၊ ဘက်။ (၃) လျှိုကမ်းပါး။(ج)[جِيَزٌ]-[جِيْزٌ]။

[اَلْمَجَازُ] (၁) ဖြတ်ကူးသည့်နေရာ။ (၂) စကားလုံး၏ မူလအဓိပ္ပါယ်ကိုမယူဘဲ အခြားအဓိပ္ပါယ်တစ်ခုကို ယူ၍ပြောသောစကား။

[اَلْمَجَازَةُ] (၁) [مَجَازَةُ النَّهْرِ]မြစ်ကူးတံတား။ (၂) [اَرْضٌ مَجَازَةٌ]သစ်ကြားပင်ပေါ်များသောဒေသ။ (၃) ဖြတ်ကူးသည့်နေရာ။

[اَلْمُجِيْزُ] တစ်ဦးတစ်ယောက်၏ကိစ္စအဝဝကို တာဝန်ယူရသူ။

✿ [جَاسَ ـُ] (၁) ဝင်လိုက်ထွက်လိုက်လုပ်သည်။ ရှေ့တိုးနောက်ဆုတ် လုပ်သည်။ အကြိမ်ကြိမ်လုပ်သည်။ (၂) [ـ خِلَالَ الدِّيَارِ](အိမ်များသို့)ဝင်ရောက်၍ ဖျက်ဆီးမွှေနှောက်သည်။ ﴿فَجَاسُوْا خِلَالَ الدِّيَارِ﴾သို့ဖြစ်ရာ ၎င်းတို့သည် အိမ်များသို့ ဝင်ရောက်ကြ၍ ဖျက်ဆီးမွှေနှောက်ခဲ့ကြသည်။ (၃) [ـ الْحَارِسُ](အစောင့်)ည၌ အိမ်များအကြား လှည့်ပတ်ကြည့်ရှုသည်။ (၄) [ـ الشَّيْءَ](တစ်စုံတစ်ရာကို)အသည်းအသန် မွှေနှောက်ရှာဖွေသည်။ (၅) ခြေဖြင့် နင်းနယ်သည်။ (၆) ခွကျော်သွားသည်။[جَاءَ يَجُوْسُ النَّاسَ]သူ ရောက်လာပြီး လူတွေကို ကျော်ခွသွားတယ်။

[جَوْسٌ - جَوْسَانٌ]
(၁) ဝင်လိုက်ထွက်လိုက်လုပ်ခြင်း။ ရှေ့တိုးနောက်ဆုတ်လုပ်ခြင်း။ အကြိမ်ကြိမ်လုပ်ခြင်း။ (၂) (အိမ်များသို့)ဝင်ရောက်၍ ဖျက်ဆီးမွှေနှောက်ခြင်း။ (၃) (အစောင့်)ည၌ အိမ်များအကြား လှည့်ပတ်ကြည့်ရှုခြင်း။ (၄) (တစ်စုံတစ်ရာကို)အသည်းအသန် မွှေနှောက်ရှာဖွေခြင်း။ (၅) ခြေဖြင့် နင်းနယ်ခြင်း။ (၆) ခွကျော်သွားခြင်း။

[اِجْتَاسَ] (၁) ဝင်လိုက်ထွက်လိုက်လုပ်သည်။ ရှေ့တိုးနောက်ဆုတ် လုပ်သည်။ အကြိမ်ကြိမ်လုပ်သည်။ (၂) (တစ်စုံတစ်ရာကို)အသည်းအသန် မွှေနှောက်ရှာဖွေသည်။

[جَاسَى] ရန်ပြုသည်။ ရန်လုပ်သည်။

[اَلْجَوَّاسُ] (၁) လူအများထံ ဝင်ရောက်နှောင့်ယှက်သူ။ ဝင်ရောက်ဖျက်ဆီးသူ။ (၂) ခြင်္သေ့။

[اَلْجَوْسَةُ] [جَوْسَةُ النَّاظِرِ]စူးရဲသောအကြည့်။

✿ [اَلْجَوْسَقُ] (၁) နန်းတော်။ (၂) ခံတပ်။ (ج) [جَوَاسِقُ - جَوَاسِيْقُ]။

✿ [جَاشَ ـُ] ည၌ တစ်ညလုံး ခရီးသွားသည်။

[جَوْشٌ] ည၌ တစ်ညလုံး ခရီးသွားခြင်း။

[تَجَوَّشَ] (၁) [ـ اللَّيْلُ](ည၏)အချိန်တစ်ချိန်ကုန် ဆုံးသွားသည်။ (၂) [ـ فُلَانٌ]အနည်းငယ်ပိန် ခြိုးလာသည်။ (၃) [ـ فِى الْاَرْضِ]နယ်မြေသို့ ဝင်ရောက်လာသည်။

[اَلْجُوْشُ] (၁) ရင်ဘတ်။ (၂) ခါး။ ခါးလယ်ပိုင်း။ (၃) ည၏အချိန်တစ်ချိန်။

✿ [اَلْجَوْشَنُ] ရင်ဘတ်။

[اَلْجُوْشَنُ] (၁) ရင်ဘတ်။ (၂) သံချပ်အင်္ကျီ။(ج)

[جَوَاشِنُ]။

✿ [جَاظَ ـُ] မောက်မာဝင့်ကြွားစွာ လမ်းလျှောက်သည်။

[جَوْظٌ۔جَوَظَانٌ] မောက်မာဝင့်ကြွားစွာ လမ်းလျှောက်ခြင်း။

[اَلْجَوَّاظُ] မောက်မာသူ။ ဝင့်ကြွားသူ။ ဘဝင်မြင့်သူ။

[اَلْجَوَّاظَةُ] အလွန်မောက်မာသူ။ အလွန်ဝင့်ကြွားသူ။ အလွန်ဘဝင်မြင့်သူ။

[جَوَّظَ] ❶ ကြိုးပမ်းအားထုတ်သည်။ ❷ ပြေးသည်။ ❸ စိတ်ဆတ်သည်။ ဒေါသဖြစ်လွယ်သည်။

[اَلْجَوَاظُ] စိတ်ဆတ်သောသူ။

[اَلْجَوَّاظُ] ❶ စိတ်ဓါတ်ခက်ထန်ကြမ်းကြုတ်သူ။ ❷ အစားကျူးသူ။ အစားကြီးသူ။

✿ [جَاعَ ـُ] ❶ ဆာလောင်ငတ်မွတ်သည်။ ❷ [ـ اَلْحَيُّ](လူနေရပ်ကွက်)လူသူကင်းမဲ့၍ အစာရေစာခေါင်းပါးသည့်နေရာ ဖြစ်သွားသည်။ ❸ [ـ اِلَيْهِ]စွဲလန်းတတ်မက်သည်။

[جَوْعٌ ۔ جَوْعَةٌ ۔ مَجَاعَةٌ] ❶ ဆာလောင်ငတ်မွတ်ခြင်း။ ❷ (လူနေရပ်ကွက်)လူသူကင်းမဲ့၍ အစာရေစာခေါင်းပါးသည့်နေရာ ဖြစ်သွားခြင်း။ ❸ စွဲလန်းတတ်မက်ခြင်း။

[جَائِعٌ] ❶ ဆာလောင်ငတ်မွတ်သော(သူ)။ [بَطْنُهُ جَائِعٌ وَوَجْهُهُ مُدْهُوْنٌ]သူ့ဗိုက်က ဆာလောင်နေတယ်။ သူ့မျက်နှာမှာတော့ ဆီစွတ်ထားတယ်။(မိမိ၌မရှိသော အရည်အချင်းကို ရှိသယောင် ပြုမူပြောဆိုတတ်သူအား ရည်ညွှန်းပြောဆိုရသောစကား။ ❷ လူသူကင်းမဲ့၍ အစာရေစာခေါင်းပါးသည့် နေရာ။ ❸ စွဲလန်းတတ်မက်သော(သူ)။(ج)[جُيَّعٌ ۔ جُوَّعٌ ۔ جِيَاعٌ]။[جَائِعَةٌ](م)။[جَوَائِعُ](ج)။

[جَوْعَانُ] ဆာလောင်ငတ်မွတ်သော(သူ)။ (ج) [جِيَاعٌ ۔ جَيَاعَى]။

[اَجَاعَ] အငတ်ထားသည်။ အစာရေစာဖြတ်ထားသည်။[اَجَاعَ قِدْرَهُ]သူ့အိုးကို အငတ်ထားသည်။(သူ့ကို အငတ်ထားသည်။)

[جَوَّعَ] အငတ်ထားသည်။ အစာရေစာဖြတ်ထားသည်။[جَوِّعْ كَلْبَكَ يَتْبَعْكَ]မင်းရဲ့ ခွေးကို အငတ်ထားပါ၊ ဒါမှ မင်းနောက်ကို တကောက်ကောက်လိုက်လိမ့်မယ်။(လိုတာရှိမှ မိမိနှင့်ဆက်ဆံသောသူအား လိုအပ်ချက်ကို ဖြည့်ဆည်းမပေးဘဲ ထားရန် ပြောဆိုရသောဆိုရိုးစကား။)

[تَجَوَّعَ] အစာအငတ်ခံသည်။ ဗိုက်အပြည့်မစားဘဲနေသည်။ အနည်းအကျဉ်းသာစား၍ ဆာလောင်သည်။

• [اِسْتَجَاعَ] အချိန်တိုင်း တစ်ခုပြီးတစ်ခုစားသည်။ ခဏခဏ စားသည်။

[اَلْجُوْعُ] ဆာလောင်ငတ်မွတ်မှု။ ﴿اَطْعَمَهُمْ مِنْ جُوْعٍ﴾ထိုအရှင်မြတ်သည် ၎င်းတို့အား ဆာလောင်ငတ်မွတ်မှုမှ ကင်းဝေးရန် ကျွေးမွေးတော်မူ၏။

[اَلْمَجَاعُ] ဗိုက်တစ်ဆာခရီးအကွာအဝေး။ (ဗိုက်ပြည့်နေသူတစ်ဦး ဗိုက်ဆာသည့်အချိန်၌ ရောက်ရှိသော ခရီးအကွာအဝေး။)

[اَلْمَجَاعَةُ] အငတ်ဘေး။ ငတ်မွတ်ခေါင်းပါးမှု။(ج) [مَجَائِعُ]။

[اَلْمَجْوَعَةُ] အငတ်ဘေး။ ငတ်မွတ်ခေါင်းပါးမှု။(ဇ)[مَجَائِعُ]။

[اَلْمُجَوَّعَةُ] အငတ်ဘေး။ ငတ်မွတ်ခေါင်းပါးမှု။(ဇ)[مَجَائِعُ]။

✿ [جَافَ ـُ] ❶ ဝမ်းဗိုက်ကို ထိမှန်သည်။ အလယ်တည့်တည့်ကို ထိမှန်သည်။ ❷ [ـالصَّيْدَ](သားကောင်ကို)မြားဖြင့် ဝမ်းဗိုက်ကို ထိမှန်စေသည်။[جَافَ فُلَانًا بِطَعْنَةٍ]သူ့ဗိုက်ကို လှံဖြင့် ထိုးသည်။[جَافَتِ الطَّعْنَةُ فُلَانًا]ထိုးချက်က သူ့ဗိုက်ကို ထိမှန်သည်။ ❸ [ـالدَّوَاءُ فُلَانًا](ဆေး)ဗိုက်ထဲသို့ ဝင်သွားသည်။

[جَوْفٌ] ❶ ဝမ်းဗိုက်ကို ထိမှန်ခြင်း။ အလယ်တည့်တည့်ကို ထိမှန်ခြင်း။ ❷ (သားကောင်၏)ဝမ်းဗိုက်ကို မြားဖြင့်ထိမှန်စေခြင်း။ ❸ (ဆေး)ဗိုက်ထဲသို့ ဝင်သွားခြင်း။

[جَائِفٌ] ❶ ဝမ်းဗိုက်ကို ထိမှန်သော(သူ၊ ဒဏ်ရာဒဏ်ချက်)။ အလယ်တည့်တည့်ကို ထိမှန်သော(အရာ)။ ❷ (သားကောင်၏)ဝမ်းဗိုက်ကို မြားဖြင့်ထိမှန်စေသော(သူ)။ ❸ ဗိုက်ထဲသို့ ဝင်သွားသော(ဆေး)။(မ)[جَائِفَةٌ]။ ﴿فِى الْجَائِفَةِ ثُلُثُ الدِّيَةِ﴾ဝမ်းဗိုက် ထိခိုက်နာကျင်စေမှု၌ အသက်လျှော်ကြေး၏ သုံးပုံတစ်ပုံကို ပေးဆောင်စေ။

[جَوِفَ ـَ] ❶ ဝမ်းတွင်းပိုင်းဖြစ်သည်။ အခေါင်းပေါက်ဖြစ်သည်။ ❷ ဟောင်းလောင်းဖြစ်သည်။ ❸ အလယ်တည့်တည့်ကို ထိမှန်သည်။ ❹ ဝမ်းတွင်းပိုင်းကျယ်သည်။ အတွင်းဘက် အဝန်းအဝိုင်းကျယ်သည်။

[جَوَفٌ] ❶ ဝမ်းတွင်းပိုင်းဖြစ်ခြင်း။ အခေါင်းပေါက်ဖြစ်ခြင်း။ ❷ ဟောင်းလောင်း ဖြစ်ခြင်း။ ❸ အလယ်တည့်တည့်ကို ထိမှန်ခြင်း။ ❹ ဝမ်းတွင်းပိုင်းကျယ်ခြင်း။ အတွင်းဘက် အဝန်းအဝိုင်းကျယ်သည်။

[اَجْوَفُ] ❶ ဝမ်းတွင်းပိုင်းဖြစ်သော(အရာ)။ အခေါင်းပေါက်ဖြစ်သော(အရာ)။ ❷ ဟောင်းလောင်းသော(အရာ)။ ❸ အလယ်တည့်တည့်ကို ထိမှန်သော(အရာ)။ ❹ ဝမ်းတွင်းပိုင်းကျယ်သော(သူ၊ အရာ)။ အတွင်းဘက် အဝန်းအဝိုင်းကျယ်သော(အရာ)။(ဇ)[جُوْفٌ]။

[اَجَافَ] ❶ ဝမ်းဗိုက်ကို တစ်စုံတစ်ရာဖြင့် ထိုးသည်။ ❷ [ـالْبَابَ](တံခါးကို)ဖွင့်ပြီးပြန်ပိတ်သည်။[اِنَّهُ دَخَلَ الْبَيْتَ وَ اَجَافَ الْبَابَ]သူ အိမ်ထဲသို့ဝင်၍ တံခါးကို ပြန်ပိတ်ခဲ့သည်။

[جَوَّفَ] ❶ [ـالشَّيْءَ]ဝမ်းတွင်းပိုင်း ပြုလုပ်သည်။ အတွင်း၌ ဟောင်းလောင်းပေါက် ဖေါက်သည်။ ❷ [ـالصَّيْدَ](သားကောင်ကို) မြားဖြင့် ဝမ်းဗိုက်ကို ထိမှန်စေသည်။

[اِجْتَافَ] ဝမ်းဗိုက်အတွင်းသို့ ဝင်သွားသည်။

[تَجَوَّفَ] ❶ [ـالشَّيْءُ]ဝမ်းတွင်းပိုင်းဖြစ်သည်။ အတွင်း၌ ဟောင်းလောင်းပေါက် ဖြစ်သွားသည်။ ❷ [ـالصَّيْدُ](သားကောင်) မြားဖြင့် ဝမ်းဗိုက်ကို ထိမှန်သည်။ ❸ ဝမ်းဗိုက်အတွင်းသို့ ဝင်သွားသည်။

[تَجَوَّفَ] ❶ [ـالشَّيْءُ]ဝမ်းတွင်းပိုင်းကျယ်သည်။ အတွင်း၌ရှိသော ဟောင်းလောင်းပေါက် ကျယ်သည်။[وِعَاءٌ مُسْتَجَافٌ]ကျယ်ဝန်းသောအိပ်။ ❷ (တစ်စုံတစ်ရာ၊ သို့မဟုတ်

❶ (မျက်နှာ)ရွဲ့စောင်းသော(သူ)၊ ရွဲ့စောင်းသော (မျက်နှာ)။

[جَوَّقَ] ❶ [ـ القَوْمَ عَلَيْهِ](သူ့ထံ)တစ်အော်စုရုံး ရောက်ရှိလာကြသည်။ ❷ [ـ القَوْمَ](လူအုပ်ကို)စုရုံးသည်၊ လူစုသည်။

[تَجَوَّقَ] ❶ လူစုမိသည်။ လူစုလူဝေးဖြစ်ရှိသွားသည်။ ❷ လူအုပ်စုတစ်စုကို စုရုံးသည်။

[اَلْجَوْقُ] လူအုပ်စု၊ လူစုလူဝေး၊ လူထုအစည်းအဝေး။(ج)[اَجْوَاقٌ]။

[اَلْجَوْقَةُ] လူအုပ်စု၊ လူစုလူဝေး၊ လူထုအစည်းအဝေး။(ج)[اَجْوَاقٌ]။

[اَلْمُجَوَّقُ] ပါးစောင်နှစ်ဘက် ရွဲ့စောင်းသူ။

✿ [جَالَ ـُ] ❶ [ـ التُّرَابُ](ဖုံ၊ မြေကြီး)လေတိုက်သဖြင့် လွင့်စင်ထကြွသည်။ ဖုံထသည်။ ❷ [ـ النِّطَاقُ](ခါးကြိုး)ချောင်သဖြင့် လှုပ်ရမ်း၍ တဝဲလိုက်ကျလိုက်ဖြစ်သည်။ ❸ [ـ فِى البِلَادِ](မြို့ရွာအနှံ့)လှည့်လည်သွားလာသည်။ ခြေဦးတည့်ရာသွားလာသည်။ ❹ [ـ القَوْمُ فِى الحَرْبِ] (တိုက်ပွဲ၌)ဆုတ်ခွါပြီးနောက် ပြန်လည်ရှေ့တိုးတိုက်ခိုက်သည်။ ❺ [ـ بِسَيْفِهِ](ဓါးဖြင့်)ဝှေ့ရမ်းကစားသည်။ ဓါးရေးပြသည်။ ❻ [ـ الاَمْرُ فِى نَفْسِهِ](စိတ်ထဲ၌ ကိစ္စတစ်စုံတစ်ရာ)ဇဝေဇဝါဖြစ်သည်။ နဝေတိမ်တောင်ဖြစ်သည်။ သို့လောသို့လော ဖြစ်သည်။ ရှေ့တိုးရကောင်းနိုး၊ နောက်ဆုတ်ရကောင်းနိုးဖြစ်သည်။ ❼ [ـ الشَّىْءَ مِنْ غَيْرِهِ](တစ်စုံတစ်ရာကို)ရွေးထုတ်ယူသည်။ ရွေးကောက်သည်။

[جَوْلٌ ـ جَوْلَةٌ ـ جَوَلَانٌ ـ جُئُوْلٌ] ❶ (ဖုံ၊ မြေကြီး)လေတိုက်သဖြင့် လွင့်စင်ထကြွခြင်း။ ဖုံထခြင်း။

တစ်ဦးတစ်ယောက်ကို)အဝန်းအဝိုင်းကြီးသောအရာ၊ ခေါင်းပေါက်ဖြစ်နေသောအရာ၊ ဝမ်းဗိုက်ကြီးသောသူအဖြစ် တွေ့ရသည်။

[اَلْاَجْوَفَانِ] ဝမ်းဗိုက်နှင့်အရှက်အင်္ဂါ။

[اَلتَّجْوِيْفُ] အတွင်း၌ ဟောင်းလောင်းဖြစ်နေခြင်း။ ဝမ်းတွင်းခေါင်း။(ج)[تَجَاوِيْفُ]။

[اَلْجَائِفُ] လက်မောင်းရင်းရှိအကြော။(ج)[جَوَائِفُ]။

[اَلْجَائِفَةُ] အလွန်ကြီးမားသော ချို့ယွင်းချက်၊ အပြစ်အနာအဆာ။

[اَلْجُوَافُ] ဝမ်းလျှောခြင်း၊ ဝမ်းပျက်ခြင်းဝေဒနာ။

[اَلْجَوَافَةُ] ❶ ငါးတစ်မျိုး။(ج)[جُوَافٌ]။ ❷ မလကာသီး။

[اَلْجَوْفُ] ❶ ဝမ်းဗိုက်။ ❷ အတွင်းပိုင်း၊ ဟောင်းလောင်းပေါက်။ ❸ အတွင်းရှိ အဝန်းအဝိုင်း။ ❹ [جَوْفُ اللَّيْلِ]ညဉ့်၏နောက်ပိုင်းသုံးပုံတစ်ပုံအချိန်။ ❺ [جَوْفُ الاَرْضِ]ချိုင့်ဝှမ်း။ ❻ လျှိုမြောင်။(ج)[اَجْوَافٌ]။

[اَلْمُجْوَفُ] ❶ ဝမ်းတွင်းခေါင်း ကျယ်သောသူ။ ❷ အတွင်းပိုင်း၊ ဟောင်းလောင်းပေါက်ကျယ်သောအရာ။ အတွင်းရှိ အဝန်းအဝိုင်းကျယ်သောအရာ။

[اَلْمُجَوَّفُ] [رَجُلٌ مُجَوَّفٌ]သတ္တိကြောင်သူ။

✿ [جَوِقَ ـَ] ❶ လည်ပင်း တုတ်ခိုင်သည်။ ❷ [ـ الوَجْهُ](မျက်နှာ)ရွဲ့စောင်းသည်။

[جَوَقٌ] ❶ လည်ပင်း တုတ်ခိုင်ခြင်း။ ❷ (မျက်နှာ)ရွဲ့စောင်းခြင်း။

[اَجْوَقُ] ❶ လည်ပင်း တုတ်ခိုင်သော(သူ)။

လုပ်သည်။ ❻ [۔القومُ الرَّأيَ بينهم]အချင်းချင်း အမြင်ဖလှယ်သည်။

[جَاوَلَ] ဆုတ်လိုက်တက်လိုက်၊ ပူးလိုက်ခွါလိုက်လုပ်သည်။

[جَوَّلَ] [۔البلادَ](အမြို့မြို့အနယ်နယ်ကို) အကြိမ်ကြိမ် ခရီးလှည့်လည်သွားလာသည်။

[تَجَوَّلَ۔ تَجوالاً] (အမြို့မြို့အနယ်နယ်သို့)အကြိမ်ကြိမ် ခရီးလှည့်လည်သွားလာခြင်း။

[اِجتَالَ] ❶ [۔في البلادَ](အမြို့မြို့အနယ်နယ်သို့)အကြိမ်ကြိမ် ခရီးလှည့်လည်သွားလာသည်။ ❷ [۔الشيءَ من غيره](တစ်စုံတစ်ရာကို)ရွေးထုတ်ယူသည်။ ရွေးကောက်သည်။ ❸ [۔القومَ](၎င်းတို့ကို)ဦးတည်ချက် ပြောင်းလဲစေသည်။ ❹ [۔الشيطانُ فلانًا](ယှိုင်တွာန်မိစ္ဆာက တစ်စုံတစ်ဦးကို)သွေးဆောင်ဖျားယောင်း၍ လမ်းမှား၌ နစ်မွန်းစေသည်။

﴿اِنّي خلقتُ عبادي حُنفاءَ فاجتالهم الشيطانُ﴾ ငါအရှင်မြတ်သည် ငါအရှင်၏ကျွန်များကို အမှန်တရားဘက်ယိမ်းသောသူတော်ကောင်းတို့၏ဗီဇဖြင့် ဖန်ဆင်းတော်မူခဲ့သည်။ စင်စစ် ယှိုင်တွာန်က ၎င်းတို့အားသွေးဆောင်ဖျားယောင်း၍လမ်းမှားစေခဲ့သည်။ ❺ [۔الماشيةَ] (တိရစ္ဆာန်ကို)မောင်းနှင်၍သွားသည်။

[جَوَّلَ] ❶ [۔البلادَ](အမြို့မြို့အနယ်နယ်ကို)အကြိမ်ကြိမ် ခရီးလှည့်လည်သွားလာသည်။ ❷ [۔التراب](ဖုံ)ထသည်။

[تَجَاوَلَ] [۔في الحرب](တိုက်ပွဲ၌)တက်လိုက်ဆုတ်လိုက်၊ ပူးလိုက်ခွါလိုက် တိုက်ခိုက်သည်။

[للباطلِ جولةٌ ثمّ يضمحلُّ]အမှားဟူသည် အစပထမ၌ လှုပ်ရှားထကြွမှုရှိသော်လည်း အဆုံး၌ ပျောက်ပျက်သွားသည်သာဖြစ်၏။ ❷ (ခါးကြိုး)ချောင်သဖြင့် လှုပ်ရမ်း၍တင်လိုက်ကျလိုက်ဖြစ်ခြင်း။ ❸ (မြို့ရွာအနှံ့)လှည့်လည်သွားလာခြင်း။ ခြေဦးတည့်ရာ သွားလာခြင်း။ ❹ (တိုက်ပွဲ၌)ဆုတ်ခွါပြီးနောက် ပြန်လည်ရှေ့တိုး တိုက်ခိုက်ခြင်း။ ❺ (ဓါးဖြင့်)ဝှေ့ရမ်းကစားခြင်း။ ဓါးရေးပြခြင်း။ ❻ (စိတ်ထဲ၌ ကိစ္စတစ်စုံတစ်ရာ)ဇဝေဇဝါဖြစ်ခြင်း။ နဝေတိမ်တောင်ဖြစ်ခြင်း။ သို့လောသို့လော ဖြစ်ခြင်း။ ရှေ့တိုးရကောင်းနိုး၊ နောက်ဆုတ်ရကောင်းနိုးဖြစ်ခြင်း။ ❼ (တစ်စုံတစ်ရာကို) ရွေးထုတ်ယူခြင်း။ ရွေးကောက်ခြင်း။

[اَجَالَ] ❶ [۔التُّراب](ဖုံ၊ မြေကြီးကို) လွင့်စင်ထကြွစေသည်။ ဖုံထစေသည်။ ❷ [۔النِّطاقَ](ခါးကြိုးကို)ချောင်၍ လှုပ်ရမ်းစေသည်။ ❸ [۔في البلادِ](မြို့ရွာအနှံ့)လှည့်လည်သွားလာစေသည်။ ❹ [۔القومَ في الحرب] (တိုက်ပွဲ၌)ဆုတ်ခွါပြီးနောက် ပြန်လည်ရှေ့တိုး တိုက်ခိုက်စေသည်။ ❺ [۔بسيفه](ဓါးဖြင့်) ဝှေ့ရမ်းကစားနိုင်သည်။ ဓါးရေးပြနိုင်သည်။ ❻ [۔الأمرَ في نفسه](စိတ်ထဲ၌ ကိစ္စတစ်စုံတစ်ရာကို)ဇဝေဇဝါဖြစ်စေသည်။ နဝေတိမ်တောင် ဖြစ်စေသည်။ သို့လောသို့လော ဖြစ်စေသည်။ ရှေ့တိုးရကောင်းနိုး၊ နောက်ဆုတ်ရကောင်းနိုးဖြစ်စေသည်။ ❼ လည်ပတ်စေသည်။ လှည့်လည်စေသည်။ ❽ [۔جائلته] (မိမိ၏ကိစ္စကို)နောက်တွန့်ခြင်းမရှိဘဲ ဆက်

[اِستَجَالَ] ❶ [ـ الرِّيحُ السَّحَابَ](လေက မိုး တိမ်ကို)သယ်ဆောင်၍ တစ်စစီ ကွဲပြတ်လွင့် စင်စေသည်။ ❷ [ـ فُلَانٌ السَّحَابَ](လေက မိုး တိမ်ကို)သယ်ဆောင်၍ တစ်စစီ ကွဲပြတ်လွင့် စင်သွားသည်ကို မြင်တွေ့သည်။ ❸ [ـهُ الشَّيطَانُ](ယှိုင်တွာန်မိစ္ဆာက တစ်စုံ တစ်ဦးကို)သွေးဆောင်ဖျားယောင်း၍ လမ်း မှား၌ နစ်မွန်းစေသည်။ ❹ [ـ الْمَاشِيَةَ](တိ ရစ္ဆာန်ကို)မောင်းနှင်၍သွားသည်။

[اَلْجَالُ] ❶ နံရံ၊ နံဘေး၊ ဘောင်။(ရေတွင်း ၏အတွင်းနံရံ၊ လှိုဏ်ကမ်းပါး၊ တောင်စောင်းစ သည်။) ❷ ဆုံးဖြတ်ချက်။ အနိုင်အမာ ယူဆ ချက်။ အမြင်။ အတွေးအခေါ်။(ဌ)[اَجوَالٌ]။

[جَوَالٌ] အိပ်ပျော်လျက် လမ်းလျှောက်တတ် သောအကျင့်။

[اَلْجَوْلُ] ❶ လေတိုက်ခတ် သယ်ဆောင် သွားသည့် မြေမျက်နှာပြင်ပေါ်ရှိ ဖုံ မြေကြီး၊ အမှိုက်စသည်။ ❷ ထူသော ကျမ်းငယ်။ ❸ တိ ရစ္ဆာန်အုပ်။(ကျွဲအုပ်၊ နွားအုပ်စသည်။)(ဌ) [اَجوَالٌ-جُوْلٌ]။

[اَلْجُوْلُ] ❶ နံရံ၊ နံဘေး၊ ဘောင်။(ရေတွင်း ၏အတွင်းနံရံ၊ လှိုဏ်ကမ်းပါး၊ တောင်စောင်းစ သည်။) ❷ ဆုံးဖြတ်ချက်။ အနိုင်အမာ ယူဆ ချက်။ အမြင်။ အတွေးအခေါ်။ ❸ လေတိုက် ခတ် သယ်ဆောင်သွားသည့် မြေမျက်နှာပြင် ပေါ်ရှိ ဖုံ မြေကြီး၊ အမှိုက်စသည်။ ❹ တိရစ္ဆာန် အုပ်။(ကျွဲအုပ်၊ နွားအုပ်စသည်။) ❺ ရေတွင်းကို အုတ်သို့မဟုတ်ကျောက်စီရန် ရေတွင်းအောက် ခြေ၌ချထားသော ကျောက်တုံး။ ❻ အသိ ညာဏ်၊ ဆင်ခြင်တုံတရား။(ဌ)[اَجوَالٌ]။

[اَلْجَوْلَانُ] လေတိုက်ခတ် သယ်ဆောင်သွား သည့် မြေမျက်နှာပြင်ပေါ်ရှိ ဖုံ မြေကြီး၊ အမှိုက် စသည်။

[اَلْجَوْلَانِيُّ] ❶ [رَجُلٌ جَوْلَانِيٌّ]သူစိမ်း၊ သူ ကျက်မရွေး အားလုံး၏အကျိုးကို ဆောင် တတ်သူ။ ❷ လေတိုက်ခတ်သဖြင့် ဖုံထသော နေ့၊ သဲမုန်တိုင်းထန်သောနေ့။

[اَلْجَوَّالَةُ] အမြဲမပြတ်အနယ်နယ်သို့ လှည့်ပတ် သွားလာသောအုပ်စု၊ ခြေလျင်လှည့်လာရေး ခရီး သွားအုပ်စု။

[اَلْجَوِيلُ] လေတိုက်သဖြင့် လွင့်ပါးသော(သစ် ရွက်၊ သဲ၊ ဖုံစသည်။)

[اَلْمَجَالُ] ❶ သွားလာသည့်နေရာ။ ❷ ပြုလုပ် နေသည့် အမှုကိစ္စ။[لَمْ يَبْقَ لَهُ مَجَالٌ فِي هٰذَا الْاَمْرِ]။ ဒီကိစ္စမှာ သူ သွားစရာနေရာ မရှိတော့ဘူး။ (သူ ဘေးကြပ်နံကြပ်ဖြစ်နေပြီ။)

[اَلْمِجْوَلُ] ❶ အိမ်နေအဝတ်။ ❷ ဘေးကင်း ရန် ရည်ရွယ်လျက် လည်ပင်း၌ ချိတ်ဆွဲရသော အဆောင်၊ လက်ဖွဲ့စသည်။ ❸ ခြေကျင်း။ (လက်ကောက်ကဲ့သို့ အမျိုးသမီးများ ခြေ၌ ဝတ်ဆင်ရသော ကွင်း။) ❹ သံခမောက်။ ❺ ငွေ။ ❻ လည်ဆွဲ၊ ဘယက်စသည်တို့၌ တပ်ဆင်ရသော ငွေသားဖြင့်ပြုလုပ်ထားသည့် လခြမ်း။ ❼ မြင်းကျား။(ဌ)[مَجَاوِلُ]။

✿ [اَلْجَوَالِقُ] သားမွေး၊ သိုးမွေးစသည်တို့ဖြင့် ယက်လုပ်ထားသောအိပ်။(ယင်းအိပ်ကို အများ က[شُوَالٌ]ဟုလည်းခေါ်ကြသည်။) (ဌ) [جَوَالِقُ-جَوَالِيقُ]။

✿ [جَامَ ـُ] အကောင်းကိုဖြစ်စေ၊ အဆိုးကိုဖြစ်စေ တစ်စုံတစ်ရာကို ရှာဖွေဆည်းပူးသည်။
[جَوْمٌ] အကောင်းကိုဖြစ်စေ၊ အဆိုးကိုဖြစ်စေ တစ်စုံတစ်ရာကို ရှာဖွေဆည်းပူးခြင်း။
[اَلْجَامُ] ငွေဖြင့်ပြုလုပ်ထားသော သောက်ရေခွက်။ ငွေပန်းကန်။[صَبَّ عَلَيْهِ جَامَهُ]သူ့ခွက်ကို သူ့အပေါ် လောင်းချသည်။ စိတ်ဆိုးဒေါသဖြစ်သည်။(ج)[جَامَاتٌ ـ اَجْوَامٌ ـ جُوْمٌ]။
[اَلْجَامَةُ] ငွေဖြင့်ပြုလုပ်ထားသော သောက်ရေခွက်။ ငွေပန်းကန်။(ج)[جَامَاتٌ ـ جَامٌ]။
[اَلْجَوْمُ] ကိစ္စတစ်ခုအတွက် စုဝေးကြသော လူထု။

✿ [جَانَ ـُ] မည်းနက်သည်။
[جَوْنٌ ـ جُوْنَةٌ] မည်းနက်ခြင်း။
[اَلْجَوْنُ] ❶ အနက်ရောင်၊ မည်းနက်သော အရာ။ ❷ အဖြူရောင်၊ ဖြူသောအရာ။ ❸ အလင်းရောင်။ ❹ အမှောင်ထု။ ❺ အနီရောင်နှင့် ရောနှောနေသောအနက်ရောင်။ နီညိုရောင်။ (ج)[جُوْنٌ]။ ❻ ငှက်လေး၏အစွန်း၊ အဖျား။
[اَلْجَوْنَاءُ] ❶ နေ။ ❷ အိုး၊ ခွက်။ ❸ မည်းနက်သောကုလားအုတ်မ။
[اَلْجَوْنَةُ] ❶ နေ။ ❷ ရေအိုး။
[اَلْجُوْنَةُ] ❶ တောင်ပူစာ၊ ကုန်းမြင့်။ ❷ ရေမွှေးပုလင်းသို့မဟုတ်ရေမွှေးဗူး။(ج)[جُوَنٌ]။
[اَلْجَوَّانِيُّ] ကြည့်[جوو]။
[اَلْجُوْنِيُّ] ❶ အနက်ရောင်၊ မည်းနက်သော အရာ။ ❷ ရင်ဘတ်နှင့် အတောင်၌အနက်ရောင်ရှိပြီး သဲကန္တာရ၌ ရှင်သန်ပေါက်ပွားသော ခိုနှင့်သဏ္ဌာန်တူသော ငှက်တစ်မျိုး။

✿ [جَاهَ ـُ] မျက်နှာချင်းဆိုင် လာရောက်ဒုက္ခပေးသည်။ ပြဿနာကို ယူလာသည်။ ပြဿနာဖြင့် တွေ့ဆုံသည်။
[جَوْهٌ] မျက်နှာချင်းဆိုင် လာရောက်ဒုက္ခပေးခြင်း။ ပြဿနာကို ယူလာခြင်း။ ပြဿနာဖြင့် တွေ့ဆုံခြင်း။
[تَجَوَّهَ] ❶ မိမိကိုယ်ကို ကြီးကျယ်သည်ဟု မှတ်ယူသည်။ ❷ မိမိ၌မရှိသောဂုဏ်ကို ရှိသယောင် လုပ်ပြသည်။
[اَلْجَاهُ] ❶ ဂုဏ်။ ❷ အခေါင်အယောင် ပကာသန။ ❸ အခွင့်အတန်းမြင့်မားမှု။

✿ [اَلْجَوْهَرُ] ❶ ပင်ကိုယ်အရည်အသွေး။ ပင်ကိုယ် သဘာဝ။ ❷ အနှစ်သာရ။ ❸ ကျောက်မျက်ရတနာ။ ❹ အခြားအရာပေါ်၌ တည်မှီနေခြင်းမရှိဘဲ ပင်ကိုယ်သဘောကိုဆောင်လျက် တည်ရှိနေသော ဝတ္ထုပစ္စည်း။(ج)[جَوَاهِرُ]။
[اَلْجَوْهَرِيُّ] ❶ ကျောက်မျက်များကို အရည်အသွေးဖေါ်သူ။ ကျောက်သွေးသူ။ ❷ ကျောက်ကုန်သည်။

✿ [جَوِيَ ـَ] ❶ ရင်ဘတ်အောင့်သည်။ ❷ စိတ်ကျဉ်းကြပ်သည်။ ❸ နာတာရှည်ရောဂါရသည်။ ❹ အချစ်သို့မဟုတ် ပူဆွေးမှုခံစားချက် ပြင်းထန်သည်။ ❺ [ـ الْمَاءُ](ရေ)အပုပ်နံ့ထွက်သည်။﴿فَتَجْوَى الْاَرْضُ مِنْ نَتْنِهِمْ﴾သို့ဖြင့် ကမ္ဘာမြေကြီးသည် ၎င်းတို့၏ပုပ်နေသော အလောင်းများကြောင့် အပုပ်နံ့ထွက်လိမ့်မည်။ ❻ [ـ الْبَلَدَ](မြို့ကို)မိမိနှင့် ရေမြေသဘာဝအံမဝင်ခွင်မကျဖြစ်သဖြင့် မနေချင်မထိုင်ချင်ဖြစ်

သည်။

[جَوِى] ❶ ရင်ဘတ်အောင့်ခြင်း။ ❷ စိတ်ကျဉ်းကြပ်ခြင်း။ ❸ နာတာရှည်ရောဂါရခြင်း။ ❹ အချစ်သို့မဟုတ် ပူဆွေးမှုခံစားချက် ပြင်းထန်ခြင်း။ ❺ (ရေ)အပုပ်နံ့ထွက်ခြင်း။ ❻ (မြို့ကို)မိမိနှင့်ရေမြေသဘာဝ အံမဝင်ခွင်မကျဖြစ်သဖြင့် မနေချင်မထိုင်ချင်ဖြစ်ခြင်း။

[جَوٍ . جَوِى] ❶ ရင်ဘတ်အောင့်သော(သူ)။ ❷ စိတ်ကျဉ်းကြပ်သော(သူ)။ ❸ နာတာရှည်ရောဂါရသော(သူ)။ ❹ အချစ်သို့မဟုတ် ပူဆွေးမှုခံစားချက် ပြင်းထန်သော(သူ)။ ❺ (ရေ)အပုပ်နံ့ထွက်သော(သူ)။ ❻ (မြို့ကို)မိမိနှင့်ရေမြေသဘာဝ အံမဝင်ခွင်မကျဖြစ်သဖြင့် မနေချင်မထိုင်ချင်ဖြစ်သော(သူ)။

[جَاوَى] [ـالْإِبِلَ](ကုလားအုတ်ကို)ရေတိုက်ရန်ခေါ်သည်။

[جَوَّى] [ـالسِّقَاءَ](ရေပုံးကို)ဖာထေးသည်။

[اِجْتَوَى] ❶ [ـالطَّعَامَ](အစားအစာကို)မုန်းသဖြင့် မစားချင်မသောက်ချင်ဖြစ်သည်။ ❷ [ـالْبَلَدَ](မြို့ကို)မကြိုက်သဖြင့် မနေချင်မထိုင်ချင်ဖြစ်သည်။ ❸ [ـالْقَوْمَ](၎င်းတို့ကို)မုန်းသည်။

[اِسْتَجْوَى] [ـالْبَلَدَ](မြို့ကို)မကြိုက်သဖြင့် မနေချင်မထိုင်ချင်ဖြစ်သည်။

[اَلْجِوَاءُ] ❶ ကျယ်ဝန်းသော ချိုင့်ဝှမ်း။ ❷ အိမ်အတွင်းပိုင်းရှိ ကျယ်ဝန်းသည့်နေရာ။ ❸ ကရွတ်ခွေ။(အိုးတင်ရန်ပြုလုပ်ထားသော အောက်ခံအခင်း။)

[اَلْجِوَاءَةُ] ကရွတ်ခွေ။(အိုးတင်ရန်ပြုလုပ်ထားသော အောက်ခံအခင်း။)

[اَلْجَوُّ] ❶ ကျယ်ဝန်းသော မြေနိမ့်ချိုင့်ဝှမ်း။ ❷ အာကာသ။ လေဟာပြင်။ အာကာသဟင်းလင်းပြင်။ ﴿أَلَمْ يَرَوْا إِلَى الطَّيْرِ مُسَخَّرَاتٍ فِي جَوِّ السَّمَاءِ﴾ ကောင်းကင်လေထု၌ ငှက်တိရစ္ဆာန်များ အမိန့်တော်ကို လိုက်နာလျက်ရှိကြသည်ကို ၎င်းတို့ မမြင်ကြသလော။ ❸ အတွင်းပိုင်း။ (ج)[جِوَاءٌ . أَجْوَاءٌ]။

[اَلْجَوَّةُ] ❶ ကျယ်ဝန်းသော မြေနိမ့်ချိုင့်ဝှမ်း။ ❷ ကြမ်းတမ်းသောမြေ။ ❸ အတွင်းပိုင်း။

[اَلْجُوَّةُ] ❶ ရေပုံး၌ဖာထေးထားသော အရာ။(ဖာထေးရာ၌ အသုံးပြုရသော သားရေစ၊ အဝတ်စ စသည်။) ❷ တောင်၌ရှိသော အပေါက်။

[اَلْجَوَّانِيُّ] အတွင်းဘက်ကျသောအပိုင်း။ အတွင်းပိုင်း။([اَلْبَرَّانِيُّ]အပြင်ဘက်ကျသော အပိုင်းနှင့် ဆန့်ကျင်ဘက်အဓိပ္ပါယ်။)
﴿إِنَّ لِكُلِّ امْرِئٍ جَوَّانِيًّا وَبَرَّانِيًّا فَمَنْ أَصْلَحَ جَوَّانِيَّهُ أَصْلَحَ اللّٰهُ بَرَّانِيَّهُ﴾ လူတိုင်း၌ အတွင်းပိုင်း 'စိတ်ပိုင်း'နှင့် အပြင်ပိုင်း'ရုပ်ပိုင်း'ဟူ၍ရှိ၏။ မည်သူမဆို မိမိ၏အတွင်းပိုင်း'စိတ်ပိုင်းဆိုင်ရာ'ကို ကောင်းအောင်ပြုပြင်လျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏အပြင်ပိုင်း'ရုပ်ပိုင်းဆိုင်ရာ'ကို ပြုပြင်ပေးတော်မူမည်။

✿ [جَاءَ ـِ] ❶ ရောက်ရှိလာသည်။ လာသည်။ ❷ [ـبِالشَّيْءِ](တစ်စုံတစ်ရာကို)ယူဆောင်လာသည်။ ❸ [ـالْغَيْثُ]မိုးရွာသည်။ ❹

[ـ الأَمْرُ] ဖြစ်ပျက်သည်။ ❺ [ـ الأَمْرَ] ပြုမူသည်။

[جَيْئٌ - مَجِيءٌ - جَيْئَةٌ] ❶ ရောက်ရှိလာခြင်း။ လာခြင်း။ ❷ (တစ်စုံတစ်ရာကို)ယူဆောင်လာခြင်း။ ❸ မိုးရွာခြင်း။ ❹ ဖြစ်ပျက်ခြင်း။ ❺ ပြုမူခြင်း။

[اَجَاءَ] ❶ [ـ فُلَانًا](တစ်ဦးတစ်ယောက်ကို)ခေါ်ဆောင်လာသည်။ ❷ [ـ فُلَانًا اِلَى كَذَا](တစ်ဦးတစ်ယောက်ကို တစ်စုံတစ်ရာဆီသို့)ရောက်ရှိစေသည်။ တွန်းပို့သည်။ ﴿فَاَجَائَهَا الْمَخَاضُ اِلَى جِذْعِ النَّخْلِ﴾ကလေးဖွားမြင်သည့်ဝေဒနာက သူမအား စွန်ပလွံပင်၏ပင်စည်သို့ တွန်းပို့ရောက်ရှိစေခဲ့သည်။ ❸ [ـتِ الْمَرْاَةُ ثَوْبَهَا عَلَى خَدَّيْهَا](အမျိုးသမီးမိမိ၏ အဝတ်ကို ပါးနှစ်ဘက်ပေါ်)ချတင်ထားသည်။ ❹ [ـ النَّعْلَ](ဖိနပ်ကို)သားရေစဖြင့် ဖာထေး၍ချုပ်သည်။

[جَايَا] ❶ [ـ فُلَانًا]အပြိုင်အဆိုင်လာရာ၌ သူ့ကို နိုင်သည်။ ❷ တစ်ဦးနှင့်တစ်ဦး မျက်နှာချင်းဆိုင်လာသည်။

[جَيَّا] [ـ الْقِرْبَةَ](ရေအိပ်ကို)ဖာထေးရာ၌ အသုံးပြုရသော သားရေစ၊ အဝတ်စစသည်ဖြင့် ချုပ်၍ဖာသည်။

[اَلْجَائِئَةُ] အနာမှထွက်လာသော သွေးပုပ်၊ ပြည်ပုပ် စသည်။

[اَلْجَيْئَةُ] ❶ အနာမှထွက်လာသော သွေးပုပ်၊ ပြည်ပုပ် စသည်။ ❷ ဖိနပ်ကို ဖာထေးရာ၌ အသုံးပြုရသော သားရေစ၊ အဝတ်စစသည်။ ❸ [جَيْئَةُ الْبَطْنِ]ချက်အောက်မှ အရှက်အင်္ဂါကြား ရှိ အစိတ်အပိုင်း။

[اَلْجِيئَةُ] လာရောက်သည့် အနေအထား၊ ပုံစံ။ [جِئْتَنَا جِيئَةً مُبَارَكَةً]အသင် ကျွန်ုပ်တို့ထံသို့ မင်္ဂလာရှိသော လာရောက်ခြင်းဖြင့် ရောက်ရှိလာခဲ့ပြီ။

✿ [جَابَ ـِ] [ـ الْقَمِيصَ](အင်္ကျီကို)အိပ်ကပ်တပ်ဆင်သည်။

[جَيْبٌ] (အင်္ကျီကို)အိပ်ကပ် တပ်ဆင်ခြင်း။

[جَيَّبَ] [ـ الْقَمِيصَ](အင်္ကျီကို)အိပ်ကပ်တပ်ဆင်သည်။

[اَلْجَيْبُ] ❶ [جَيْبُ الْقَمِيصِ]အင်္ကျီကို ဝတ်ဆင်ရာ၌ ဦးခေါင်းလျှိုရသောအစိတ်အပိုင်း။ အင်္ကျီလည်ပင်း။ ﴿وَلْيَضْرِبْنَ بِخُمُرِهِنَّ عَلَى جُيُوبِهِنَّ﴾သူမတို့သည် မိမိတို့၏ခြုံထည်များကို အင်္ကျီရင်ဘတ်များပေါ်သို့ ချထားကြရမည်။ ❷ အိပ်ကပ်။(ج)[جُيُوبٌ - جِيَابٌ]။

[نَاصِحُ الْجَيْبِ]သစ္စာရှိသောသူ။

[جَيْبُ الْاَرْضِ]မြေကြီးအတွင်းသို့ ဝင်သည့်နေရာ။

✿ [جَاحَ ـِ] [ـ اللّٰهُ الْقَوْمَ](အလ္လာဟ်အရှင်မြတ်က ၎င်းတို့ကို)အစအနမကျန်အောင် မြေလှန်ကွပ်မျက်၍ ပြစ်ဒဏ်ခတ်တော်မူသည်။

[جَيْحٌ - جَائِحَةٌ] (အလ္လာဟ်အရှင်မြတ်က ၎င်းတို့ကို)အစအနမကျန်အောင် မြေလှန်ကွပ်မျက်၍ ပြစ်ဒဏ်ခတ်တော်မူခြင်း။

✿ [جَاخَ ـِ] [ـ السَّيْلُ الْوَادِيَ](ရေစီးက လျှိုမြောင်းရှိ)အပင်များကို တိုက်စားသွားသည်။

[جَيْخٌ] (ရေစီးက လျှို၊ မြောင်းရှိ)အပင်များကို တိုက်စားသွားခြင်း။

✿ [جَبِرَ ـَ] သေးသွယ်၍တိုသည်။ သေးနုတ်သည်။

[جَيْرٌ] သေးသွယ်၍တိုသည်။ သေးနုတ်ခြင်း။

[جَيَّرَ] (၁) သရွတ်ကိုင်သည်။ အင်္ဂတေကိုင်သည်။ (၂) [ـالْحَوْضَ] ရေကန်ကို နက်အောင်တူးသည်။

[اَلْجَائِرُ] ဒေါသကြောင့်၊ သို့မဟုတ် ဆာလောင်မှုကြောင့် လည်ချောင်း၌ခံစားရသော ခြောက်သွေ့ပူလောင်မှု။ အာခြောက်သည့် ဝေဒနာ။

[جَيْرِ] (၁) ဟုတ်ကဲ့။ ကောင်းပါပြီ။ (၂) အမှန်ပါပဲ။ တကယ်ပြောတာပါ။ [جَيْرِ لَا اَفْعَلُ] တကယ်ပါ၊ ကျွန်တော်မလုပ်တော့ဘူး။

[جَيْرَ] ဟုတ်ကဲ့၊ ကောင်းပါပြီ။

[اَلْجِيْرُ] မဖေါက်ထုံး၊ သရွတ်။

[اَلْجَيَّارُ] (၁) ဒေါသကြောင့်၊ သို့မဟုတ် ဆာလောင်မှုကြောင့် လည်ချောင်း၌ခံစားရသော ခြောက်သွေ့ပူလောင်မှု။ အာခြောက်သည့် ဝေဒနာ။ (၂) ထုံးပြုလုပ်သူ။ ထုံးရောင်းသူ။

[اَلْجِيْزُ] [ကြည့်[جوز]]။

[اَلْجِيْزَةُ] [ကြည့်[جوز]]။

✿ [جَاشَ ـِ] (၁) [ـالْمَاءُ](ရေ)တလိမ့်လိမ့် စီးဆင်းသည်။ (၂) [ـالْبَحْرُ](ပင်လယ်)လှိုင်းကြီးသည်။ လှိုင်းထန်သည်။ (၃) [ـالْوَادِى](လျှို ချောင်း)ရေလျှံသည်။ (၄) [ـالصَّدْرُ](ဒေါသ)ပြင်းထန်သည်။ (၅) [ـالْقِدْرُ](အိုး)ပွက်ပွက်ဆူသည်။ (၆) [ـالْحَرْبُ](တိုက်ပွဲ)ပြင်းထန်လာသည်။ (၇) [ـتِ الْعَيْنُ](မျက်လုံး)မျက်ရည်လျှံကျသည်။ (၈) [ـتِ النَّفْسُ](စိတ်)ခြောက်ခြားသည်။ (၉) [ـالْمِيزَابُ](ရေတံလျှောက်)ရေတလဟော စီးကျသည်။ (၁၀) [ـالْفَرَسُ](မြင်း)ခုန်ပေါက်သည်။ (၁၁) [ـتْ نَفْسُهُ](စိတ်)ပြို့အန်ချင်စိတ်ဖြစ်သည်။ စိုးရိမ်ဖွယ်ရာ သို့မဟုတ် ပူဆွေးသောကကြောင့် စိတ်လှုပ်ရှားသည်။ (၁၂) စိတ်ဝင်စားသည်။

[جَيْشٌ - جُيُوشٌ - جَيَشَانٌ] (၁)(ရေ)တလိမ့်လိမ့် စီးဆင်းခြင်း။ (၂)(ပင်လယ်)လှိုင်းကြီးခြင်း။ လှိုင်းထန်ခြင်း။ (၃)(လျှို ချောင်း)ရေလျှံခြင်း။ (၄)(ဒေါသ)ပြင်းထန်ခြင်း။ (၅)(အိုး)ပွက်ပွက်ဆူခြင်း။ (၆)(တိုက်ပွဲ)ပြင်းထန်လာခြင်း။ (၇)(မျက်လုံး)မျက်ရည်လျှံကျခြင်း။ (၈)(စိတ်)ခြောက်ခြားခြင်း။ (၉)(ရေတံလျှောက်)ရေတလဟော စီးကျခြင်း။ (၁၀)(မြင်း)ခုန်ပေါက်ခြင်း။ (၁၁)(စိတ်)ပြို့အန်ချင်စိတ်ဖြစ်ခြင်း။ စိုးရိမ်ဖွယ်ရာ သို့မဟုတ် ပူဆွေးသောကကြောင့် စိတ်လှုပ်ရှားခြင်း။ (၁၂) စိတ်ဝင်စားခြင်း။

[جَيَّشَ] စစ်တပ်များကို စုဆောင်းသည်။

[تَجَيَّشَ] အန်ချင်စိတ် ဖြစ်ပေါ်သည်။

[اِسْتَجَاشَ] (၁) [ـالْقِدْرَ](အိုး)ပွက်ပွက်ဆူသည်။ (၂) [ـفُلَانًا](တစ်ဦးတစ်ယောက်ထံမှ)စစ်တပ်ကို တောင်းသည်။ စစ်ကူတောင်းသည်။

[اَلْجَيْشُ] စစ်တပ်။(ج)[جُيُوشٌ]။

[اَلْجَيْشَانُ] ခွန်အားနှင့် ပျို့ရွယ်နုနယ်မှု။

✿ [جَاضَ ـِ] (၁) မောက်မာဝင့်ကြွားစွာ လမ်းလျှောက်သည်။ (၂) [ـعَنِ الشَّيْءِ](တစ်စုံတစ်ရာမှ)သွေဖည်သွားသည်။ (၃) [ـفِى الْقِتَالِ](တိုက်ပွဲမှ)ထွက်ပြေးတိမ်းရှောင်သည်။

[جَيْض] ❶ မောက်မာဝင့်ကြွားစွာ လမ်းလျှောက်ခြင်း။ ❷ (တစ်စုံတစ်ရာမှ)သွေဖည်သွားခြင်း။ ❸ (တိုက်ပွဲမှ)ထွက်ပြေးတိမ်းရှောင်ခြင်း။

[جَائِض .جَيَّاض] ❶ မောက်မာဝင့်ကြွားစွာ လမ်းလျှောက်သော(သူ)။ ❷ (တစ်စုံတစ်ရာမှ) သွေဖည်သွားသော(သူ)။ ❸ (တိုက်ပွဲမှ)ထွက်ပြေးတိမ်းရှောင်သော(သူ)။

[جَايَض] တစ်ဦးကိုတစ်ဦး မောက်မာစွာဆက်ဆံသည်။

[جَيَّض] [ـعَنِ الشَّيْءِ](တစ်စုံတစ်ရာမှ)သွေဖည်သွားသည်။

[اَلْجِيَضَّى] လမ်းလျှောက်ရာ၌ မောက်မာသည့် အမူအရာ။ မောက်မာစွာ လမ်းလျှောက်ခြင်း။

✽ [جَافَ ـ] [ـتِ الْمَيْتَةُ](အသေကောင်)အပုပ်နံ့ထွက်သည်။

[جَيْف] (အသေကောင်) အပုပ်နံ့ထွက်ခြင်း။

[جَيَّفَ] ❶ [ـتِ الْمَيْتَةُ](အသေကောင်) အပုပ်နံ့ထွက်သည်။ ﴿اَتُكَلِّمُ النَّاسَ قَدْ جَيَّفُوْا﴾ ပုပ်ပွနေပြီဖြစ်သော လူသေများကို ကိုယ်တော်သည် စကားပြောနေသလော။ ❷ [ـفُلَانٌ]စိုးရိမ်ထိတ်လန့်သည်။ တုန်လှုပ်ခြောက်ခြားသည်။ ❸ [ـفُلَانًا](တစ်ဦးတစ်ယောက်ကို)ထိုးကြိတ်သည်။ ရိုက်ပုတ်သည်။

[اِجْتَافَ] [ـتِ الْمَيْتَةُ](အသေကောင်)အပုပ်နံ့ထွက်သည်။

[اِنْجَافَ] [ـتِ الْمَيْتَةُ](အသေကောင်)အပုပ်နံ့ထွက်သည်။

[اَلْجِيْفَةُ] အသေကောင်။ အပုပ်ကောင်။ (ج)[جِيَفٌ . اَجْيَافٌ]။

✽ [اَلْجِيْلُ] ❶ လူ့အစုအဝေး။ ❷ လူသားမျိုးဆက်။ ❸ မျိုးနွယ်။ ❹ ရာစုနှစ်။ ❺ မျိုးဆက်သစ်။(ج)[اَجْيَالٌ]။

✽ [اَلْجِيْلَانِيُّ] ရေခဲမှုန်။

[جَيَّمَ] ❶ ပဉ္စမမြောက် အရဗီဗျည်းအက္ခရာ (ج )ကို ရေးသည်။

[اَلْجِيْمُ] ❶ ပဉ္စမမြောက် အရဗီဗျည်းအက္ခရာ(ج )၏အမည်။ ❷ ခုန်ပေါက်မျိုးကြွသော ကုလားအုတ်မ။(ج)[اَجْيَامٌ . جِيْمَاتٌ]။

✽ [اَلْجِيُوْلُوْجِيَا] ဘူမိဗေဒ။


مجمرة
مجول
مجهر
مجوز
جامع
جيب
جعد
جوانح
جناح
جفيف
جلز السنان
جفت
جفنة
منجنيق
جمجمة
مجلخ
مجواب
جام
جهاز مرسل
جورب
جلهاق
جُلّ
مجنّ
جنك
جفن
جار النهر
جلبة
جعفيل
جناحيّة
جنطيان
جوز
جلبان
جوز الهند
جوز الفوفل
جعدة
جاورس
جلكى
جلم
جعل
جمل
جمل البحر
جندب
جاموس


جارور أو جرّار


جعبة


جبين أو جبهة


جراب


جرّارة


مجرد


جبّة


جزدان


جرس


جبّة


جسر


مجدار


مجداف


جحش


جرموق


جزع


جديلة


جرّة


مجرفة


جرن


مجزّ


جبّارة


جربّان


جرجير


جراب


جزمة


مجثّة


جريس


مجسّ


جزر


جاروش


جذل


جذر


جربيّة


جدّة


جرّيّ


جدجد


جؤجؤ


ذات الاجراس


جرادة


جحش


جناحا فراشة


جناحا يعسوب


جناح طائر


جناح خفّاش


فلكيرة ([illegible])


أرقة ([illegible])


بقّة ([illegible])


زيز ([illegible])


لاحسة السكّر ([illegible])


بعوضة ([illegible])


بنت وردان ([illegible])


جرادة ([illegible])


نقر ([illegible])


برغوث ([illegible])


ثاقب الأذن ([illegible])


دودة بيضاء ([illegible])


جناح طائرة بأربعة محرّكات


ذبابة اللحم ([illegible])


عذراء الدودة البيضاء ([illegible])


يرقانة الدودة البيضاء ([illegible])


جناح طائرة بمحرّك واحد


جناح طائرة نافوريّة


رحل (الطوارق ، الجزائر)


جمل ذو سنامين


رحل


رحل جزائري


هودج جزائري


جمل الحراثة (القطر التونسي)


محمل لنقل المرضى


شكال او عقال


رحل آسيوي


رحل آسيوي


هودج (اولاد سليمان)


رحل طارقي


هودج




جهاز الشمّ — اجهزة الجذع — جهاز البصر

جهاز الذوق — جهاز السمع

جهاز الهضم — جهاز التنفّس — جهاز الدم

جهاز البول

جهاز التنفّس عند السمك — اجهزة السمك الداخليّة — جهاز الهضم عند الدجاجة — جهاز الهضم عند الحيوانات المجترّة

# ARABIC - MYANMAR DICTIONARY

# المعجم الوسيط

## العربى ميانما

مولانا عبدالرحيم (مدنى۔اسعدى)